**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ**

**ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်**

**[ ဥပဒေပုဒ်မ ၂ ပုဒ်ခွဲ(ဂ)နှင့် ပုဒ်မ ၈ ]**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ၊ ၂၀၀၉ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူများ၏-

| | | |
|---|---|---|
| (က) | အမည် | - ဦးအောင်ဇော်နိုင် |
| (ခ) | အဖအမည် | - ဦးအိုက်ထွန်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - ၁၂/လမတ(နိုင်) ၀၂၅၇၅၈ |
| (ဃ) | နေရပ်လိပ်စာ | - အခန်းအမှတ်(၁၀၀၃)၊ (၁၀)ထပ်၊အလုံတာ၀ါ၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့ ။ |
| (င) | လူမျိုး၊ဘာသာ | - ဗမာ/ဗုဒ္ဓ |
| (စ) | အဖွဲ့အစည်းအမည် | - အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - အမှတ်(၅၈၄)၊ High Tech Tower ပထမထပ်၊ ကမ်းနားလမ်း နှင့်(၇)လမ်းထောင့်၊ လမ်းမတော်မြို့နယ်ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | | | | | |
|---|---|---|---|---|---|
| (က) | အမည် | (၁) | မရှိပါ | (၂) | မရှိပါ |
| (ခ) | အဖအမည် | (၁) | - | (၂) | - |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | (၁) | - | (၂) | - |
| (ဃ) | နေရပ်လိပ်စာ | (၁) | - | (၂) | - |
| (င) | လူမျိုး/ဘာသာ | (၁) | - | (၂) | - |
| (စ) | အဖွဲ့အစည်းအမည် | | | | |
| (ဆ) | လုပ်ငန်းအမျိုးအစား | | | | |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | | | | |

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း - BOT စနစ်ဖြင့် ရေအားလျှပ်စစ်စီမံကိန်းတည်ဆောက်၍

(ခ) ဝန်ဆောင်မှု လုပ်ငန်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးသည့်လုပ်ငန်း

( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

နိုင်ငံသားနှင့် နိုင်ငံသားတို့က ကုမ္ပဏီလီမိတက်အဖြစ် လုပ်ကိုင်ဆောင်ရွက်ခြင်း။

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

မရှိပါ။

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

မရှိပါ။

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း-

(ဂ) လီမိတက်ကုမ္ပဏီ - အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(အများနှင့် မသက်ဆိုင်သောကုမ္ပဏီ)

(ဃ) သမဝါယမအသင်း -

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကိုပူးတွဲ တင်ပြရန်)

(နောက်ဆက်တွဲ - က)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ -

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက-

(က) ခွင့်ပြု မတည်ငွေရင်း - ကျပ်သန်း (၅၀၀)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀၀၀၀/-တန် သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ်သန်း(၅၀၀)/-(ကျပ် ၁၀၀၀၀/-တန်အစုရှယ်ယာ အရေအတွက်၅၀၀၀၀ ခု)

(ကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီးပါက Authorized Capital တိုးမြှင့်ရန် ဆောင်ရွက်ပါမည်။)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ (ကျပ်)

သန်းပေါင်း

| | | မတည်ငွေ | | ချေးငွေ | | စုစုပေါင်း | | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|
| | | (ကျပ်) | (USD) | (ကျပ်) | (USD) | (ကျပ်) | (USD) | (ကျပ်) |
| (၁) | ငွေပမာဏ (နိုင်ငံခြားမတည်ငွေ ပါဝင်ပါကသီးခြားဖော်ပြရန်) ဇယား - ၁ (၁)၊ ၁ (၂)၊ ၁ (၃) | 79,100.15 | 13.98 | 22,003.80 | | 101,103.95 | 13.98 | 101,187.83 |
| (၂) | စက်ပစ္စည်းကိရိယာတန်ဖိုးပမာဏ ဇယား- ၂ (၁)၊ ၂ (၂) | | 16.56 | | 28.80 | | 45.36 | 272.17 |
| (၃) | အဆောက်အအုံများတန်ဖိုးပမာဏ ဇယား - ၃ (၁) | 641.79 | | | | 641.79 | | 641.79 |
| (၄) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ-ဇယား ၃ (၂) | 107.91 | | | | 107.91 | | 107.91 |
| (၅) | လုပ်ငန်းသုံး ဆောက်လုပ်ရေးပစ္စည်းများ တန်ဖိုးပမာဏ ဇယား ၄(၁)၊ ၄(၂)၊ | 2,458.96 | 23.33 | | | 2,458.96 | 23.33 | 2,598.96 |
| | **စုစုပေါင်း** | **82,308.81** | **53.88** | **22,003.80** | **28.80** | **104,312.61** | **82.67** | **104,808.66** |

မှတ်ချက်။

(၁) ပြည်တွင်းချေးငွေ ကျပ်သန်း (၂၂၀၀၃. ၈)အား တစ်နှစ်လျှင်(၁၅%)အတိုးနှုန်းဖြင့် နိုင်ငံတော်ပိုင်ဘဏ် တစ်ခုခုမှ ချေးယူ၍ ရင်းနှီးမြှုပ်နှံပါမည်။ လုပ်ငန်းစတင်လည်ပတ်ပြီး (၄)နှစ်မြောက်သည့်နှစ်မှစ၍ အချိုးညီ(၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားပါမည်။

(၂) ပြည်ပချေးငွေ USD-28.8 Million အား အတိုးနှုန်း (5.5%)ဖြင့် ပြည်ပဘဏ်တစ်ခုခုမှ ချေးယူပါမည်။

(၃) စက်/ယာဉ်/ယန္တရားများ၊ စက်ပစ္စည်းကိရိယာများနှင့် လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများကို သွင်းကုန်လိုင်စင် လျှောက်ထား၍ ပြည်ပမှ မှာယူတင်သွင်းပါမည်။

(သန်းပေါင်း)

| | | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|---|
| (ခ) | နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် | | | |
| | (၁) | စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)ဇယား - ၂(၁)၊ ၂(၂) | | ၄၅. ၃၆ |
| | (၂) | တည်ဆောက်ရေးကာလ လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများ နှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုး (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) ဇယား - ၄(၁) | | ၂၃. ၃၃ |
| | (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | | ၈ |

(ဂ) တည်ဆောက်မှုကာလ - (၄)နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ - (၇)လ

(င) တည်ဆောက်မှု စတင်မည့်အချိန် - ၂၀၀၉ခုနှစ်ဇန်နဝါရီလ၊(တည်ဆောက်မှု Schedule)

နောက်ဆက်တွဲ (ခ)

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်း နှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း
( ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှု စသည်ဖြင့် ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ - ကယားပြည်နယ်၊လွိုင်ကော်မြို့ အရှေ့တောင်ဘက် ၁၆မိုင်အကွာရှိ ဘီလူးချောင်းအမှတ်(၃)စီမံကိန်း

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ရေအားဖြင့် လျှပ်စစ်ဓါတ်အားထုတ်လုပ်ခြင်း။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်-

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | တည်ဆောက်မှုကာလ - (၂၅၀၀၀၀) ဂါလံ<br>လုပ်ငန်းလည်ပတ်သည့်ကာလ- (၂၀၀၀၀)ဂါလံ |
| ၂။ | | |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား(Station Used) | စက်ရုံတွင်းလိုအပ်သောလျှပ်စစ်ဓါတ်အား၁၆. ၇သန်း KW/Hr အားမိမိစက်ရုံမှထွက်ရှိသောဓါတ်အားများဖြင့် အသုံးပြုသွားပါမည်။ |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | KVA ၅၀၀ × ၄ = ၂၀၀၀ |
| ၃။ | ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အင်အား | |
| ၄။ | သဘာဝဓာတ်ငွေ့ သုံးစက်အား | |
| ၅။ | ပေးပို့သည့်အခြားအား<br>(ရေအား/လေအား စသည်များ) | ရေအား |

(စ) နှစ်စဉ် ရေလိုအပ်ချက် - တည်ဆောက်ရေးကာလတွင်လိုအပ်သောရေကို ဘီလူးချောင်းရေမှရယူသုံးစွဲပါမည်။
၆၇ သန်းကုဗမီတာ (လုပ်ငန်းလည်ပတ်သည့်ကာလ)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိက ကုန်ကြမ်း - | | | |
| | (၁) ရေ | ကုဗမီတာ | ၆၇ သန်း | - |
| | (၂) | | | |
| ၂။ | အထောက်အကူ ကုန်ကြမ်း - | | | |
| | (၁) Spare Parts | | 1Lot | ၈၆၂. ၆၄ သန်း |
| | (၂) | | | |

၃။ စက်သုံးဆီ/ ဓာတ်ငွေ့များ -

(၁) ဒီဇယ်ဆီ တည်ဆောက်မှုကာလ - (၂၅၀၀၀၀) ဂါလံ
လုပ်ငန်းလည်ပတ်သည့်ကာလ - (၂၀၀၀၀) ဂါလံ

(ဇ) အဆောက်အအုံ လိုအပ်ချက် - ဇယား - ၃ (၁)

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် - (၄၀၂)ဧက နောက်ဆက်တွဲ (ဂ)၊

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့် ဝန်ဆောင်မှု-

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| လျှပ်စစ်ဓါတ်အား | ကီလိုဝပ်/နာရီ | (၃၃၄)ယူနစ်သန်းပေါင်း | ၅၀ကျပ်/ယူနစ် |

(ဋ) ရောင်းချမည့်နည်းစနစ် ဤစီမံကိန်းပြီးစီး ထွက်ရှိလာသော လျှပ်စစ်ဓါတ်အားများကို နိုင်ငံတော်မှချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ လမ်းညွှန်အတည်ပြုချက်ဖြင့်

- ဘီလူးချောင်းအမှတ်(၃)လျှပ်စစ်ဓါတ်အားခွဲရုံတွင်မီတာတပ်ဆင်ရောင်းချသောစနစ် (Metering at the Fence of Baluchaung No.3 Hydro power Project)ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍ လုပ်ငန်းဌာနတစ်ခုခုသို့ ရောင်းချခြင်း (သို့မဟုတ်)
- နယ်မြေဒေသတစ်ခုခု၊စက်မှုဇုံတစ်ခုခုသို့ ဖြန့်ဖြူးရောင်းချခြင်း (သို့မဟုတ်)
- ပြည်ပအိမ်နီးချင်းနိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်း စနစ်

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ -

| | | | ခန့်မှန်းခြေ | |
|---|---|---|---|---|
| | | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | - | ဇယား- ၁ (၃) | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | (ဇယား-၇) | |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ | - | - | |
| (ဃ) | ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | - | ဝယ်ယူမည့်နိုင်ငံ၏အခြေအနေနှင့် ဦးစီးဌာန၏ခွင့်ပြုချက်ဖြင့်ရောင်းချနိုင်မည်ဖြစ်ပါသည်။ | |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | - | (ဇယား-၅) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ - အသေးစိတ်စာရင်း - ဇယား - ၈(၁)၊ (၂)

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ - အသေးစိတ်စာရင်း - ဇယား-၈(၃)

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
| --- | --- | --- |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| --- | --- | --- | --- | --- |
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | - | (ဇယား-၅) | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | - | (ဇယား-၆) | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | - | (ဇယား-၆) | |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | - | (ဇယား-၇) | |
| (င) | အရင်းကျေကာလ | - | (ဇယား-၉) | |
| (စ) | အခြား အကျိုးအမြတ်များ | - | - | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ | - | (နောက်ဆက်တွဲ- ဃ) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်၊

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ဖြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ______________

အမည်၊ - အောင်ဇော်နိုင်

ရာထူး၊ - အုပ်ချုပ်မှုဒါရိုက်တာ

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်

(လျှောက်ထားသူ)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၆ /၂၀၁၀ (မနသ)

နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၈ ရက်

(၂၀၁၀ ခုနှစ် ၊ မေ လ ၅ ရက်)

၁။ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာနနှင့် မြန်မာကုမ္ပဏီဖြစ်သော အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်း နှင့် မြေ(၄၀၂)ဧကတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား(၁၅-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၄/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၄/၂၀၁၀) (၃-၂-၂၀၁၀) အစည်းအဝေးနှင့် (၁၀/ ၂၀၁၀) (၁၈-၃-၂၀၁၀) အစည်းအဝေးများသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးများမှ သဘောတူညီချက် အရ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၇/ ၂၀၁၀) (၁၈-၂-၂၀၁၀) အစည်းအဝေး နှင့် (၁၆/၂၀၁၀) (၂၉-၄-၂၀၁၀) အစည်းအဝေးများသို့တင်ပြခဲ့ရာ လုပ်ငန်းကို ပြည်တွင်းပြည်ပမှချေးငွေများရယူ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်များ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရအပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် အနာဂတ်စွမ်းအား ကုမ္ပဏီ လီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၇၄၇ /၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါ အဝင် တစ်ဆက်တည်း(၃)နှစ် အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည် ။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy - back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် <u>ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ</u> အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာနနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော BOT ပဋိညာဉ်စာချုပ်ပါ စည်းမျဉ်း စည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်းဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အခါအားလျော်စွာ ထုတ်ပြန်သည့် အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာရမည်။

၈။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ဘီလူးချောင်း (၃) ရေအားလျှပ်စစ် စီမံကိန်းဆောင်ရွက်ရာ၌ (၁၈-၂-၂၀၁၀) နေ့ တွင် ကျင်းပသော အစိုးရအဖွဲ့၏ (၇/၂၀၁၀)အစည်းအဝေးမှ အောက်ပါ Exemption များကို ခံစားခွင့်ပြုသည်။

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား လုပ်ငန်းစတင်လည်ပတ်သည့် နှစ်မှ စ၍ ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုရန်၊

(ခ) ကင်းလွတ်ခွင့် ခံစားပြီးနောက် အရင်းကြေကာလ (၁၅)နှစ် နှင့် (၁၁)လ မတိုင်မီ ကာလများအတွက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ပြုရန်၊

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်အား (၆၀) နှစ် ခွင့်ပြုရန်နှင့် နောက်ထပ် (၅) နှစ် (တစ်) ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးခွင့်ပြုရန်။

၉။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀) နှင့် စပ်လျဉ်း၍ BOT ပဋိညာဉ် စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) ကိုလည်းကောင်း၊ တည်ဆောက်ရေး ကာလပြီးနောက် လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင်ထုတ်လုပ် နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀)ကိုလည်းကောင်း ပေးအပ်ရမည်။ တည်ဆောက်ရေးကာလမှာ လုပ်ငန်းစတင်သည့်နေ့ (BOT ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့)မှ စ၍ (၄)နှစ် ဖြစ်သည်။ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေး စက်များ အနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် ထုတ်လုပ်ရောင်းချ ပေးသည့်နေ့ကို စီးပွားဖြစ်စတင်ထုတ်လုပ်သည့်နေ့ဟု သတ်မှတ်သည်။

၁၀။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် လျှပ်စစ် စီမံကိန်း အတွက် ပြည်တွင်း/ ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာန အဖွဲ့အစည်းများနှင့်သီးခြားချုပ်ဆိုသည့် သဘောတူညီချက်စာချုပ်များပါစည်းကမ်း သတ်မှတ်ချက်များ၊ ချေးငွေ၊ အတိုးနှင့်ချေးငွေ ပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ တိတိကျကျ လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချရာတွင် နိုင်ငံတော်/ အမှတ် (၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားနှင့် သတ်မှတ်ချက်များနှင့် အညီ ဖြန့်ဖြူးရောင်းချရမည်။

၁၂။ ပဋိညာဉ်စာချုပ်ရပ်စဲသည့်အခါ သို့မဟုတ် စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ စာချုပ်ပါ မြေနှင့် လျှပ်စစ်စီမံကိန်း၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အဦးများကို လုပ်ငန်းလုပ်ကိုင်သူ(အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်)က ကောင်းမွန်စွာ ထိန်းသိမ်းထားသောအနေအထားအတိုင်း အဖိုးစားနားမပါဘဲ လုပ်ငန်းခွင့်ပြုသူ(အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန) ထံ လွှဲပြောင်းပေးရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၁၄။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနများမှ အခါ အားလျော်စွာ ထုတ်ပြန်သည့် အမိန့်နှင့်ညွှန်ကြားချက် များကို လိုက်နာရမည်။

၁၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးတို့ အတွက် အဆိုပြုချက် တွင် တင်ပြထားသည့် အတိုင်း စိစဉ် ဆောင်ရွက်ရမည်။

၁၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျ ထားရှိ

ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့် အခြားဌာနဆိုင်ရာများ၏ဥပဒေနှင့်အညီ မှတ်ပုံတင်နှင့်လုပ်ငန်းလိုင်စင်များ ရယူဆောင်ရွက်ရမည်။

၁၈။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(c) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက် ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ-၆(က) /မ- ၁၀၁၈/၂၀၁၀( ၆၄ ၁ ၉ )

ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ မေ လ ၅ ရက်။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ ကယားပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး၊ လွိုင်ကော်မြို့။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ အလုပ်သမားဝန်ကြီးဌာန။

၉။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၀။ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၁။ အမှတ်(၂)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၄။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟို ဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ နယ်စပ် ကုန်သွယ်ရေး ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေး ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအား ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့စီးပွားရေးဘဏ်။

၂၉။ ညွှန်ကြားရေးမှူးချုပ်၊ ရသုံးမှန်းခြေ ငွေစာရင်း ဦးစီးဌာန။

၃၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၃၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၃၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၃၃။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၄။ အုပ်ချုပ်မှု ဒါရိုက်တာ၊ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ မေ လ ၄ ရက်၊

M-650 / 315

အကြောင်းအရာ။ ။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOTစနစ်ဖြင့်ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

၁။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆) မိုင် ခန့် အကွာရှိ ဘီလူးချောင်းနှင့် မြေ (၄၀၂) ဧကတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၅-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၄/ ၂၀၀၉) အစည်းအဝေး၌တင်ပြခဲ့ပါသည်။

၂။ ကော်မရှင် မှ စိစစ်ခဲ့ပြီး ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၄/၂၀၁၀) (၃-၂-၂၀၁၀) အစည်းအဝေး နှင့် (၁၀/၂၀၁၀) (၁၈-၃-၂၀၁၀)အစည်းအဝေးများ သို့ ဆက်လက် တင်ပြခဲ့ပါသည်။အဆိုပါ အစည်းအဝေးများမှ သဘောတူညီချက် အရ ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ (၇/၂၀၁၀) (၁၈-၂-၂၀၁၀) အစည်းအဝေးနှင့် (၁၆/၂၀၁၀) (၂၉- ၄ -၂၀၁၀) အစည်းအဝေးများသို့ တင်ပြခဲ့ရာ လုပ်ငန်းကို ပြည်တွင်းပြည်ပမှ ချေးငွေများရယူ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့် အညီ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT (Build, Operate, Transfer)စနစ်ဖြင့်ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်း ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစု တင်ပြ အပ်ပါ သည်။

သူရိန်ဇော်

(သူရိန်ဇော်၊ အတွင်းရေးမှူး)

ဥက္ကဋ္ဌ



Next MIC ...  5.5.2010

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၃၅ / ၁၄၈ /အဖရ (၁၆ / ၂၀၁၀ ) ။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ မေလ ၆ ရက်။

အ မှာ စာ

အကြောင်းအရာ။ **အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။**

၁။ ၂၀၁၀ ခုနှစ်၊ ဧပြီလ ၂၉ ရက် ( ကြာသပတေး )နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဥ် (၁၆/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၃၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၀ ခုနှစ်၊ ဧပြီလ ၂၂ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ရက - ၆ (ခ)/ မ - ၁၄၈၁ / ၂၀၁၀ ( ၅၇၇၀) ။

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့ တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်းနှင့် မြေ(၄၀၂)ဧကတွင် BOT (Build, Operate, Transfer) စနစ် ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ် အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်လုပ်ငန်းကိုပြည်တွင်း၊ ပြည်ပမှ ချေးငွေ များရယူ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်းဆုံးဖြတ်ကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။
အမှတ်(၁)လျှပ်စစ်။

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၈၁/၂၀၁၀( ၅၂၄၀ )၊

ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ ဧပြီ လ ၂၂ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ ။ ။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်း နှင့် မြေ(၄၀၂)ကေတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်ဇော်နိုင် (အဘ-ဦးအိုက်ထွန်း) မှ အမှတ် (၁) လျှပ်စစ် စွမ်းအားဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုလွှာ တင်ပြခဲ့ပါသည်။

၂။ ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်းသည် နိုင်ငံအတွင်း လိုအပ်သော လျှပ်စစ် ဓါတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် တိုင်းရင်းသားလုပ်ငန်းရှင်အနေဖြင့် ငွေကြေးအမြောက် အမြား ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော် ဆောင်ရွက်သည့်လုပ်ငန်း ဖြစ်သည့်အတွက် စီမံကိန်း အား အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက် နိုင်စေရန် အောက်ပါ အချက်များကို ခွင့်ပြု ပေးပါရန် BOT စနစ် လုပ်ငန်း အဆိုပြုလွှာနှင့်အတူ အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ ထောက်ခံ တင်ပြခဲ့ပါသည် -

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန် နှင့် ယင်းကာလ ပြည့်ပြီးနောက် အရင်းကြေကာလ မတိုင်မီကာလများ အတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုပါရန်၊

Future Energy

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအား နှစ် (၆၀) ခွင့်ပြုပေးပါရန်နှင့် ယင်းကာလ ပြည့်ပြီးနောက် လုပ်ငန်း ဆက်လက်လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်၊

(ဂ) တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဥ်နှင့် အခြားဆက်စပ်ပစ္စည်းများအား တင်သွင်းခွင့်ပြုပါရန်၊

၃။ အထက်ပါ ဌာနမှ တင်ပြချက်များအရ BOT လုပ်ငန်းအဆိုပြုလွှာကို (၁၅-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၄/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ ပါသည်။ ယင်းအစည်းအဝေးမှ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက် အရ (၃-၂-၂၀၁၀) နေ့ တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။ <u>နောက်ဆက်တွဲ (က)</u>

(က) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃)ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလ အတွက် Exemption နှင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် အတွက် Exemption ကို အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အစိုးရ အဖွဲ့သို့ Case by Case တင် ပြရန်၊

(ခ) Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုချက် ရယူပြီး အစိုးရ အဖွဲ့သို့ ပြန်လည်တင်ပြရန်၊

၄။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/ ၂၀၁၀) အစည်းအဝေး ဆုံးဖြတ်ချက် (က) အရ Exemption များနှင့်စပ်လျဥ်း၍ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ (၁၈-၂-၂၀၁၀) နေ့တွင် ကျင်းပသော အစိုးရအဖွဲ့၏ (၇/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ယင်းအစည်း အဝေးမှ အောက်ပါအချက်များကို ခွင့်ပြုရန် သဘောတူခဲ့ပါသည်။

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား လုပ်ငန်းစတင်လည်ပတ်သည့် နှစ်မှ စ၍ ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုရန်၊

(ခ) ကင်းလွတ်ခွင့် ခံစားပြီးနောက် အရင်းကြေကာလ (၁၅)နှစ်နှင့် (၁၁)လ မတိုင်မီ ကာလများအတွက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ပြုရန်၊

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်အား(၆၀)နှစ် ခွင့်ပြုရန်နှင့် နောက်ထပ် (၅)နှစ် (တစ်) ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုး ခွင့်ပြုရန်။

၅။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/ ၂၀၁၀) အစည်းအဝေး ဆုံးဖြတ်ချက် (ခ) အရ Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီး ဖြစ်ပါကြောင်း၊ တည်ဆောက်ရေးကာလတွင် အသုံးပြုရန် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဥ် နှင့် အခြား ဆက်စပ်ပစ္စည်းများအား သက်မှတ်ဥပဒေနှင့်အညီ တင်သွင်းခွင့် ပြုပါရန်နှင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချ ခွင့်အတွက် ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာပါသည်။ အဆိုပါ တင်ပြချက်ကို (၁၈-၃-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ (၁၀/၂၀၁၀)အစည်းအဝေး၌ တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည်။ <u>နောက်ဆက်တွဲ (ခ)</u>

၆။ အထက်ပါ ဆုံးဖြတ်ချက်အရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ တင်ပြလာသဖြင့် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ လုပ်ငန်းအဆိုပြုချက်အား <u>နောက်ဆက်တွဲ (ဂ)</u> ဖြင့် တင်ပြအပ်ပါသည်။

၇။ ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်းနှင့် စပ်လျဥ်း၍ ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာနမှ ပဋိညာဥ်စာချုပ် သက်တမ်းနှင့်မြေ အသုံးချမှု ပရီမီယံ ကြေး၊ Royalty Fees၊ ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဥ်း၊ အမိန့် ကြော်ငြာစာများနှင့်အညီ ပေးဆောင်ရန်တို့နှင့် စပ်လျဥ်း၍ သဘောထားပြန်ကြားခဲ့ပါသည်။ အစိုးရအဖွဲ့ အစည်းအဝေး (၇/၂၀၁၀) မှ BOT လုပ်ငန်းလုပ်ကိုင်ခွင့်အား နှစ်(၆၀) နှင့် နောက်ထပ်(၅)နှစ် (၃)ကြိမ် သက်တမ်းတိုးခွင့် ကိုလည်းကောင်း၊ ဝင်ငွေခွန်နှင့် ကုန်သွယ် လုပ်ငန်းခွန် ခံစားခွင့် တို့ကို လည်းကောင်း ခွင့်ပြုခဲ့ပါသည်။

၈။ ရွှေ့နေချုပ်ရုံးမှ မြေငှားရမ်းခနှင့် လုပ်ငန်း အာမခံငွေ ရယူရန်၊ လုပ်ငန်းစတင်သည့်နေ့နှင့် စီးပွားဖြစ် ထုတ်လုပ်ဖြန့်ဖြူးသည့်နေ့ သတ်မှတ်ရန် သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ အဆိုပါ သဘောထား ပြန်ကြားချက်နှင့်အညီ ဆောင်ရွက်ပြီး BOT ပဋိညာဥ်စာချုပ် ကို ချုပ်ဆိုပြီး ဖြစ်ပါသည်။

၉။ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာနမှ မြေအသုံးချမှု ပရီမီယံကြေးနှင့် မြေငှားရမ်းခ၊ အာမခံ ရယူရန်တို့နှင့်စပ်လျဥ်း၍ သဘောထားပြန်ကြားထားပါသည်။ Royalty Fees နှင့် မြေငှားခ တို့ကို အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ မကောက်ခံကြောင်း ဖော်ပြထားပါသည်။

၁၀။ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့် BOT ပဋိညာဉ်စာချုပ်ပါ အဓိကအချက် များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) BOT ပဋိညာဉ်စာချုပ် သက်တမ်းကာလမှာ လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင် ထုတ်လုပ် ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှ စ၍ နှစ် (၆၀) ဖြစ်ပြီး နောက်ထပ် (၅)နှစ်(တစ်)ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြ အတည်ပြုချက် ရယူပါမည်။ (အစိုးရ အဖွဲ့အစည်းအဝေး (၇/ ၂၀၁၀) မှ သဘောတူ ခွင့်ပြုပြီး ဖြစ်ပါသည်။)

(ခ) စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်းဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေးစက်များ အနက် ပထမဆုံး စက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် ထုတ်လုပ်ရောင်းချပေးခြင်းကို ဆိုလိုသည်။

(ဂ) BOT ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့် နေ့ကို လုပ်ငန်းစတင်သည့် နေ့ဟု သတ်မှတ်ပြီး၊ တည်ဆောက်ရေးကာလမှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် ဖြစ်ပါသည်။

(ဃ) မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀) နှင့် စပ်လျဉ်း၍ BOT ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) ကိုလည်းကောင်း၊ တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀)ကို လည်းကောင်း ပေးအပ်ရပါမည်။

(င) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်သည် လျှပ်စစ်စီမံကိန်းအတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာန အဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်း သတ်မှတ်ချက်များ၊ ချေးငွေ၊ အတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ တိတိကျကျ လိုက်နာဆောင်ရွက်ရပါမည်။

(စ) ဘီလူးချောင်း(၃)ရေအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ကို နိုင်ငံတော်/ အမှတ် (၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရပါမည်။

(ဆ) စာချုပ်ရပ်စဲသည့်အခါ သို့မဟုတ် စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာ ကာလအတွင်း စာချုပ်ပါ မြေနှင့်လျှပ်စစ်စီမံကိန်း၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အဦများကို လုပ်ငန်းလုပ်ကိုင်သူ (ကုမ္ပဏီ)က ကောင်းမွန်စွာထိန်းသိမ်းထားသောအနေအထားအတိုင်း အဖိုးစားနား မပါဘဲ လုပ်ငန်းခွင့်ပြုသူ (ဌာန) ထံ လွှဲပြောင်းပေးရပါမည်။

၁၁။ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၈၂.၆၇) သန်း အပါအဝင် စုစုပေါင်း ကျပ်(၁၀၄၈၀၈.၆၆)သန်း ဖြစ်ပါသည်။ ၎င်းနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်မှ ပြည်တွင်းသုံးငွေ ကျပ် (၂၂၀၀၃.၈၀) သန်း (၂၂.၀၀၃ ဘီလီယံ) နှင့် နိုင်ငံခြားချေးငွေ အမေရိကန် ဒေါ်လာ (၂၈.၈၀)သန်း ချေးယူမည်ဖြစ်ပါသည်။ အဆိုပြုစီမံကိန်းသည် ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏ များပြားခြင်းကြောင့် ဆောင်ရွက်မည့် စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင်ဘဏ် တစ်ခုခုမှ ပြည်တွင်းသုံးငွေ ကျပ် (၂၂၀၀၃.၈၀) သန်းကို တစ်နှစ်လျှင် အတိုးနှုန်း (၁၅) ရာခိုင်နှုန်း ဖြင့် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့် အညီ နှစ်ရှည် စီမံကိန်း ချေးငွေအဖြစ် ရယူပါမည်။ နိုင်ငံခြားချေးငွေ အမေရိကန်ဒေါ်လာ (၂၈.၈၀)သန်းကို တစ်နှစ်လျှင် အတိုးနှုန်း (၅.၅)ရာခိုင်နှုန်းဖြင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနတို့၏လုပ်ထုံးလုပ်နည်းများနှင့်အညီချေးယူပါမည်။

၁၂။ ပြည်တွင်း ချေးငွေအား ရန်ကုန် - မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော် တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ ရဲရွာရေအားလျှပ်စစ်စီမံကိန်း၊ အထက် ပေါင်းလောင်း ရေအားလျှပ်စစ် စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ High Tech Concrete Co., Ltd. ၏ ကွန်ကရစ်ရောင်းချခြင်းမှရရှိသည့် ဝင်ငွေများ၊ ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခု အဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓါတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့် ဝင်ငွေများ အစရှိသည့် ဝင်ငွေ များဖြင့် ယခု အဆိုပြု စီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့် နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ် အတွင်း ပြန်လည်ပေးဆပ်သွားမည်ဖြစ်ပါသည်။ ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ နှင့် လယ်ယာထွက်ကုန် ပစ္စည်းများ တင်ပို့ ရောင်းချခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန်ရငွေများ၊ ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေ များဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၁၃။ အဆိုပြုလုပ်ငန်းမှ တပ်ဆင် စက်အင်အား (၅၂)မဂ္ဂါဝပ်နှင့် နှစ်စဥ်ပျမ်းမျှ ထုတ်လုပ်နိုင်မည့် ဓါတ်အားပမာဏမှာ (၃၃၄) ကီလိုဝပ် နာရီသန်းပေါင်း ဖြစ်ပါသည်။ အဆိုပါ ထုတ်လုပ်နိုင်သည့် ဓါတ်အားပမာဏ၏ ၅% မှာ လုပ်ငန်းတွင် ပြန်လည် အသုံးပြုခြင်းနှင့် ဓါတ်အား ဖြန့်ဖြူးရာတွင် လျော့နည်းခြင်းတို့ ဖြစ်ပါသည်။ နှစ်စဥ် ပျမ်းမျှ ရောင်းချနိုင်မှု (၃၁၇.၃၀) ကီလိုဝပ်နာရီသန်းပေါင်းကို တစ်ကီလိုဝပ်လျှင် (၅၀) ကျပ်နှုန်းဖြင့် တွက်ချက်မှုအရ ပုံမှန်နှစ်၏ ဝင်ငွေမှာ ကျပ် (၁၅၈၆၅.၀၀) သန်း ဖြစ်ပါသည်။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အရင်းကြေကာလမတိုင်မီ တစ်ဝက်နှုန်း ပေးဆောင်ရန် ဖြစ်ပါသဖြင့် ဝင်ငွေခွန် (၁၅%) အတွက် ကျပ် (၉၂၂.၅၇) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် (၅%) အတွက် ကျပ် (၇၉၃.၂၅) သန်း ဖြစ်ပြီး၊ အရင်းကြေပြီးနောက်ပိုင်း ဝင်ငွေခွန် (၃၀%) အတွက် ကျပ် (၂၄၅၀.၄၀) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် (၁၀%) အတွက် ကျပ် (၁၅၈၆.၅၀) သန်း တို့ ဖြစ်ပါသည်။

၁၄။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၅) နှစ်နှင့် (၁၁)လ (တည်ဆောက်ရေးကာလ ၄ နှစ် အပါအဝင်) ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၇.၃၇) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးကာလအတွင်း ပြည်တွင်းလုပ်သား (၉၇၆)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်သူ (၁၁) ဦး ခန့်ထားမည် ဖြစ်ပြီး လုပ်ငန်းဆောင်ရွက်မှု ကာလအတွင်း ပြည်တွင်း လုပ်သား (၉၂)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၁၅။ ဘီလူးချောင်း (၃) ရေအားလျှပ်စစ် စီမံကိန်းအတွက် အစိုးရအဖွဲ့၏ သဘောတူ ခွင့်ပြုချက်အရ ဝင်ငွေခွန်နှင့် ကုန်သွယ် လုပ်ငန်းခွန်အား လုပ်ငန်းစတင် လည်ပတ်သည့် နှစ်မှစ၍ ပထမ (၃) နှစ် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ အဆိုပါ ကင်းလွတ်ခွင့် ခံစားပြီးနောက် အရင်းကြေ ကာလမတိုင်မီ ကာလများ အတွက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ကို လည်းကောင်း၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၆။ ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်ရေး လုပ်ငန်းများအား အရှိန်အဟုန်ဖြင့် ဆောင်ရွက်လျှက်ရှိရာ (၂၀၁၀)ခုနှစ်၊ ဇန်နဝါရီလအထိ (၁၅.၆၄) ရာခိုင်နှုန်း ပြီးစီးပြီဖြစ်ပါသည်။ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာသတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချမည် ဖြစ်ပါသည်။

<u>ဆုံးဖြတ်ရန်အချက်</u>

၁၇။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်း နှင့် မြေ(၄၀၂)ဧက တွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချသည့်လုပ်ငန်းကို ပြည်တွင်း၊ ပြည်ပမှ ချေးငွေများရယူ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် သဘော တူ - မတူ။

<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်။</u>

၁၈။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ် မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့</u>

နောက်ဆက်တွဲ(က)

၈
ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ(၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၂၂-ခ | ၁၅၉၅ | (က) အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့်ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအတွက် Exemption နှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် Exemption ကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အစိုးရအဖွဲ့သို့ Case by Case တင်ပြရန်။<br>(ခ) Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရယူပြီး အစိုးရအဖွဲ့သို့ ပြန်လည် တင်ပြရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊<br>အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊<br>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ် ---
ရက်စွဲ ၆/၂/၂၀၁၀

၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ မတ်လ(၁၈)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-ခ | ၇၀၈ | (က) အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd.) မှ ကယားပြည်နယ် လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်းနှင့် မြေ(၄၀၂)ကေတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန်။<br>(ခ) အဆိုပါ ရေအားလျှပ်စစ်စီမံကိန်း၏ တည်ဆောက်ရေးကာလအတွင်း အသုံးပြုရန် ပူးတွဲပါ Station Wagon (4 x 4) (၁၅)စီး၊ Double Cab (4 x 4) (၅)စီး၊ Wagon (7 Seater) (၅)စီးနှင့် Bus (၅)စီးစုစုပေါင်း မော်တော်ယာဉ် (၃၀)စီး အား ရင်းနှီးမြှုပ်နှံမှုအဖြစ် အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့် တင်သွင်းခွင့်ပြုရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊<br>အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊<br>စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊<br>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၊<br>ရထားပို့ဆောင်ရေးဝန်ကြီးဌာန။<br>ပို့ကုန်၊သွင်းကုန်လုပ်ငန်းများမှန်ကန်ရေးကြီးကြပ်မှုအဖွဲ့။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ်
ရက်စွဲ ၁၉/၃/၂၀၁၀

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၀၇၅၊၄၀၆၁၆၁

စာအမှတ်၊ရက-၆(က)/မ-၁၀၁၈/၂၀၁၀( ၅၃၇၉ )၊
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဧပြီ လ ၅ ရက်။

သို့/
ဥက္ကဋ္ဌ၊ ပို့ကုန်သွင်းကုန်လုပ်ငန်းများ မှန်ကန်ရေး ကြီးကြပ်မှု အဖွဲ့။
ဝန်ကြီးရုံး၊ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။
ဝန်ကြီးရုံး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
ဝန်ကြီးရုံး၊ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ ။ ။ <u>အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။</u>

ရည် ညွှန်း ချက် ။ ။ အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန ၏ (၂၅-၂-၂၀၁၀)ရက်စွဲပါ စာအမှတ်၊ ၁၃၆-လျှပ်စစ်၁(၂)/၉၉၅/၂၀၁၀။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီး ဌာန မှ ရည်ညွှန်းချက်ပါ စာဖြင့် ထောက်ခံ တင်ပြခြင်းကို (၁၈-၃-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၀/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ “အဆိုပါဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်း၏တည်ဆောက် ရေး ကာလ အတွင်း အသုံးပြုရန် ပူးတွဲပါ Station Wagon (4 x 4) (၁၅)စီး၊ Double Cab (4 x 4) (၅)စီး၊ Wagon (7 Seater) (၅)စီးနှင့် Bus (၅)စီးစုစုပေါင်း မော်တော်ယာဉ် (၃၀)စီး အား ရင်းနှီးမြှုပ်နှံမှု အဖြစ် အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) (၅၀) ရာခိုင်နှုန်း သက်သာခွင့် ဖြင့် တင်သွင်း ခွင့်ပြုရန် ” ဆုံးဖြတ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၁၀)(၂-၄-၂၀၁၀) အစည်းအဝေး မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၃(ဇ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ဖြစ်သောကြောင့် အခွန်အကောက် ကင်းလွတ်ခွင့် ပြုသည်။

၄။ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဌ(ကိုယ်စား)

(ဗိုလ်မှူးကြီး သူရိန်ဇော်၊အတွင်းရေးမှူး)

မိတ္တူ

(၁) နိုင်ငံခြားမတည်ငွေရင်းတန်ဘိုးသတ်မှတ်ရေးအဖွဲ့၊
(ပို့ဆောင်ရေး ဝန်ကြီးဌာန။)

(၂) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန။

(၃) ညွှန်ကြားရေးမှူးချုပ်၊
ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

(၄) ညွှန်ကြားရေးမှူးချုပ်၊
နယ်စပ်ကုန်သွယ်ရေး ဦးစီးဌာန။

(၅) ညွှန်ကြားရေးမှူးချုပ်၊
အကောက်ခွန် ဦးစီးဌာန။

(၆) ညွှန်ကြားရေးမှူးချုပ်၊
ပြည်တွင်းအခွန်များ ဦးစီးဌာန။

(၇) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။

(၈) ရုံးလက်ခံ/ မျှောစာတွဲ။

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် မော်တော်ယာဉ်များ၏ အသေးစိတ်စာရင်း

| No. | Type | Specification | Model | Qty | Price (USD) | Amount (USD) |
|---|---|---|---|---|---|---|
| 1 | Station Wagon ( 4 x 4 ) | Toyota Landcruser / Lexus 4 WD Off Road Wagon | 2008 & Up | 15 | 60,000 | 900,000 |
| 2 | Double Cab ( 4 x 4 ) | Toyota Hilux Double Pick up 4 WD | 2008 & Up | 5 | 15,000 | 75,000 |
| 3 | Wagon (7 Seater) | Toyota Wagon ( 7 Seater) | 2008 & Up | 5 | 60,000 | 300,000 |
| 4 | Bus | Toyota Coaster Mini Bus | 2008 & Up | 5 | 40,000 | 200,000 |
| | Total | | | | | 1,475,000 |

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - 267 / ၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ မေ လ ၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးအောင်ဇော်နိုင်

(ခ) အဘ အမည် ......ဦးအိုက်ထွန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂ /လမတ(နိုင်) ၀၂၅၇၅၈

(ဃ) နေရပ်လိပ်စာ ......အခန်းအမှတ် (၁၀၀၃)၊ (၁၀)ထပ်၊ အလုံတာဝါ၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (Future Energy Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......(BOT) စနစ်ဖြင့် ဘီလူးချောင်း(၃)ရေအား လျှပ်စစ်စက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်း

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၁၀၄၈၀၈.၆၆(သန်း) (အမေရိကန်ဒေါ်လာ ၈၂.၆၇သန်း အပါအဝင်စုစုပေါင်းကျပ်သန်းပေါင်း တစ်သိန်း၊လေးထောင်၊ရှစ်ရာ့ရှစ်နှင့် ခြောက်ဆယ့်ခြောက်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၈၁/၂၀၁၀(၃၅၅၉)၊
ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ မတ် လ ၅ ရက်။

**ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ ။ ။ <u>အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်းနှင့် မြေ(၄၀၂)ဧကတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်ဇော်နိုင် (အဘ-ဦးအိုက်ထွန်း) မှ အမှတ် (၁) လျှပ်စစ် စွမ်းအား ဝန်ကြီး ဌာန ၏ (၉-၁၂-၂၀၀၉)ရက်စွဲပါ စာဖြင့် အဆိုပြုလွှာ တင်ပြခဲ့ပါသည်။

၂။ ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်းသည် နိုင်ငံအတွင်း လိုအပ်သော လျှပ်စစ် ဓါတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် တိုင်းရင်းသားလုပ်ငန်းရှင်အနေဖြင့် ငွေကြေးအမြောက် အမြား ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော် ဆောင်ရွက်သည့်လုပ်ငန်း ဖြစ်သည့်အတွက် စီမံကိန်း အား အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက် နိုင်စေရန် အောက်ပါ အချက်များကို ခွင့်ပြု ပေးပါရန် BOT စနစ် လုပ်ငန်း အဆိုပြုလွှာနှင့်အတူ အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ ထောက်ခံ တင်ပြခဲ့ပါသည် -

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန် နှင့် ယင်းကာလ ပြည့်ပြီးနောက် အရင်းကြေကာလ မတိုင်မီကာလများ အတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုပါရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအား နှစ် (၆၀) ခွင့်ပြုပေးပါရန်နှင့် ယင်းကာလ ပြည့်ပြီးနောက် လုပ်ငန်း ဆက်လက်လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်၊

(ဂ) တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဉ်နှင့် အခြားဆက်စပ်ပစ္စည်းများအား တင်သွင်းခွင့်ပြုပါရန်၊

၃။ အထက်ပါ ဌာနမှ တင်ပြချက်များအရ BOT လုပ်ငန်းအဆိုပြုလွှာကို (၃-၂-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ (က)

(က) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃)ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့် ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ အတွက် Exemption နှင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် အတွက် Exemption ကို အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အစိုးရ အဖွဲ့သို့ Case by Case တင် ပြရန်၊

(ခ) Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုချက် ရယူပြီး အစိုးရ အဖွဲ့သို့ ပြန်လည်တင်ပြရန်၊

၄။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၁၀) အစည်းအဝေးဆုံးဖြတ်ချက် (က) အရ Exemption များနှင့်စပ်လျဉ်း၍ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ (၁၈-၂-၂၀၁၀) နေ့တွင် ကျင်းပသော အစိုးရအဖွဲ့၏ (၇/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ယင်းအစည်း အဝေးမှ အောက်ပါအချက်များကို ခွင့်ပြုရန် သဘောတူခဲ့ပါသည်။

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား လုပ်ငန်းစတင်လည်ပတ်သည့် နှစ်မှ စ၍ ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုရန်၊

(ခ) ကင်းလွတ်ခွင့် ခံစားပြီးနောက် အရင်းကြေကာလ (၁၅)နှစ်နှင့် (၁၁)လ မတိုင်မီ ကာလများအတွက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ပြုရန်၊

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်အား(၆၀)နှစ် ခွင့်ပြုရန်နှင့် နောက်ထပ် (၅)နှစ် (တစ်) ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုး ခွင့်ပြုရန်။

၅။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၁၀) အစည်းအဝေး ဆုံးဖြတ်ချက် (ခ) အရ Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီး ဖြစ်ပါကြောင်း၊ တည်ဆောက်ရေးကာလတွင် အသုံးပြုရန် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဉ် နှင့် အခြားဆက်စပ်ပစ္စည်းများအား သက်မှတ် ဥပဒေနှင့်အညီ တင်သွင်းခွင့် ပြုပါရန်နှင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချ

(အမေရိကန် ဒေါ်လာ ၄၅.၃၆ သန်း ) အဆောက်အဦးများ တန်ဖိုး ကျပ် (၆၄၁.၇၉) သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုး ကျပ် (၁၀၇.၉၁) သန်းနှင့် လုပ်ငန်းသုံး ဆောက်လုပ်ရေး ပစ္စည်းများတန်ဖိုး ကျပ် (၂၅၉၈.၉၆) သန်း (အမေရိကန်ဒေါ်လာ ၂၃.၃၃ သန်း) ဖြစ်ပါသည်။

၈။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်မှ ပြည်တွင်းသုံးငွေ ကျပ် (၂၂၀၀၃.၈၀) သန်း (၂၂.၀၀၃ ဘီလီယံ) နှင့် နိုင်ငံခြား ချေးငွေ အမေရိကန်ဒေါ်လာ (၂၈.၈၀) သန်း ချေးယူမည် ဖြစ်ပါသည်။ အဆိုပြု စီမံကိန်း သည် ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏ များပြားခြင်းကြောင့် ဆောင်ရွက်မည့် စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင်ဘဏ်တစ်ခုခုမှ ပြည်တွင်းသုံးငွေ ကျပ် (၂၂၀၀၃.၈၀) သန်းကို တစ်နှစ်လျှင် အတိုးနှုန်း (၁၅) ရာခိုင်နှုန်းဖြင့် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့် အညီ နှစ်ရှည် စီမံကိန်း ချေးငွေအဖြစ် ရယူပါမည်။ နိုင်ငံခြား ချေးငွေ အမေရိကန်ဒေါ်လာ (၂၈.၈၀)သန်းကို တစ်နှစ်လျှင် အတိုးနှုန်း(၅.၅) ရာခိုင်နှုန်း ဖြင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူပါမည်။

၉။ ပြည်တွင်း ချေးငွေအား ရန်ကုန် - မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော် တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ ရဲရွာရေအားလျှပ်စစ်စီမံကိန်း၊ အထက် ပေါင်းလောင်း ရေအားလျှပ်စစ် စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ High Tech Concrete Co., Ltd. ၏ ကွန်ကရစ်ရောင်းချခြင်းမှရရှိသည့် ဝင်ငွေများ၊ ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခု အဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓါတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့် ဝင်ငွေများ အစရှိသည့် ဝင်ငွေ များဖြင့် ယခု အဆိုပြု စီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့် နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ် အတွင်း ပြန်လည်ပေးဆပ်သွားမည်ဖြစ်ပါသည်။ ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ နှင့် လယ်ယာထွက်ကုန် ပစ္စည်းများ တင်ပို့ ရောင်းချခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန်ရငွေများ၊ ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှု ပေးခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေ များဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းမှ တပ်ဆင် စက်အင်အား (၅၂)မဂ္ဂါဝပ်နှင့် နှစ်စဉ်ပျမ်းမျှ ထုတ်လုပ်နိုင်မည့် ဓါတ်အားပမာဏမှာ (၃၃၄) ကီလိုဝပ် နာရီသန်းပေါင်း ဖြစ်ပါသည်။ အဆိုပါ ထုတ်လုပ်နိုင်သည့် ဓါတ်အားပမာဏ၏ ၅% မှာ လုပ်ငန်းတွင် ပြန်လည် အသုံးပြုခြင်းနှင့် ဓါတ်အား ဖြန့်ဖြူးရာတွင် လျော့နည်းခြင်းတို့ ဖြစ်ပါသည်။ နှစ်စဉ် ပျမ်းမျှ ရောင်းချနိုင်မှု (၃၁၇.၃၀) ကီလိုဝပ်နာရီသန်းပေါင်းကို တစ်ကီလိုဝပ်လျှင် (၅၀) ကျပ်နှုန်းဖြင့် တွက်ချက်မှုအရ ပုံမှန်နှစ်၏ ဝင်ငွေမှာ ကျပ် (၁၅၈၆၅.၀၀) သန်း ဖြစ်ပါသည်။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အရင်းကြေကာလမတိုင်မီ တစ်ဝက်နှုန်း တောင်းခံထားရာ ဝင်ငွေခွန် (၁၅%) ကျပ် (၉၂၂.၅၇) သန်း

နှင့် ကုန်သွယ်လုပ်ငန်းခွန် (၅%) ကျပ် (၇၉၃.၂၅) သန်း ဖြစ်ပြီး၊ အရင်းကြေပြီးနောက်ပိုင်း ဝင်ငွေခွန် (၃၀%) ကျပ် (၂၄၅၀.၄၀) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် (၁၀%) ကျပ် (၁၅၈၆.၅၀) သန်း တို့ ဖြစ်ပါသည်။

၁၁။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၅) နှစ်နှင့် (၁၁)လ (တည်ဆောက်ရေးကာလ ၄ နှစ် အပါအဝင်) ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၇.၃၇) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးကာလအတွင်း ပြည်တွင်းလုပ်သား (၉၇၆)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်သူ (၁၁) ဦး ခန့်ထားမည် ဖြစ်ပြီး လုပ်ငန်းဆောင်ရွက်မှု ကာလ အတွင်း ပြည်တွင်း လုပ်သား (၉၂)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၁၂။ ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်း အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ လုပ်ငန်းခွင်သုံး မော်တော်ယာဉ်များ တင်သွင်းခွင့်နှင့် စပ်လျဉ်း၍ တည်ဆောက်ရေး ကာလအတွင်း အဆိုပြု စက်ရုံစီမံကိန်းတွင် အသုံးပြုရန် Station Wagon (4 x 4) (၁၅)စီး၊ Double Cab (4 x 4) (၅)စီး၊ Wagon (7 Seater) (၅)စီးနှင့် Bus (၅)စီး၊ စုစုပေါင်း (၃၀) စီး တို့ ကို ရင်းနှီးမြှုပ်နှံမှုအဖြစ် တင်သွင်းမည် ဖြစ်ပါသည်။ အဆိုပါ လုပ်ငန်းခွင်သုံး မော်တော်ယာဉ်များ တင်သွင်းခွင့်အတွက် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ထောက်ခံ တင်ပြထားပါသည်။

၁၄။ ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်ရေး လုပ်ငန်းများအား အချိန် အဟုန်ဖြင့် ဆောင်ရွက်လျှက်ရှိရာ (၂၀၀၉)ခုနှစ်၊ အောက်တိုဘာလအထိ (၁၄.၅၉) ရာခိုင်နှုန်း ပြီးစီးပြီ ဖြစ်ပါသည်။ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာ ဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထား သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူး ရောင်းချမည် ဖြစ်ပါသည်။

၁၅။ ဆုံးဖြတ်ရန်အချက်

(က) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ကယား ပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်း နှင့် မြေ(၄၀၂)ဧကတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) ပြည်တွင်းသုံးငွေ ကျပ် (၂၂.၀၀၃) ဘီလီယံ ကို တစ်နှစ်လျှင် အတိုးနှုန်း (၁၅) ရာခိုင်နှုန်းဖြင့် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် နှစ်ရှည်စီမံကိန်း ချေးငွေအဖြစ် ရယူရန် သဘောတူ - မတူ။

(ဂ) နိုင်ငံခြားချေးငွေ အမေရိကန်ဒေါ်လာ (၂၈.၈၀) သန်း ကို တစ်နှစ်လျှင် အတိုးနှုန်း (၅.၅) ရာခိုင်နှုန်းဖြင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်နှင့် သက်ဆိုင်ရာ ဌာနတို့၏ လုပ်ထုံးလုပ်နည်းနှင့် အညီ ချေးယူရန် သဘောတူ - မတူ။

(ဃ) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန် တို့အား ပထမ (၃)နှစ် ကို ကင်းလွတ်ခွင့်ပြုရန် နှင့် ယင်းကာလပြည့်ပြီးနောက် အရင်းကြေကာလ မတိုင်မီ ကာလများ အတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုရန် သဘောတူ - မတူ။

(င) အဆိုပါ ရေအားလျှပ်စစ်စီမံကိန်း၏ တည်ဆောက်ရေးကာလအတွင်း အသုံးပြုရန် လုပ်ငန်းခွင်သုံး မော်တော်ယာဉ် (၃၀)စီး အား ရင်းနှီးမြှုပ်နှံမှု အဖြစ် အခွန်အကောက်ကင်းလွတ်ခွင့် သို့မဟုတ် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့် တင်သွင်းခွင့်ပြုရန် သဘော တူ - မတူ။

(စ) လုပ်ငန်း လုပ်ကိုင်ခွင့် ကာလအား စီးပွားဖြစ် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့မှစ၍ နှစ် (၆၀) နှင့် နောက်ထပ် (၅)နှစ် (၃)ကြိမ် သက်တမ်းတိုးမြှင့် လုပ်ကိုင်ခွင့်ပြုရန် သဘောတူ - မတူ။

၁၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်

ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကိုနာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဝန်ကြီး၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန

ကုန်သွယ်မှုမူဝါဒကောင်စီ

ဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | အနာဂတ်စွမ်းအား ကုမ္ပဏီ လီမိတက် | ၁။ ဦးအိုက်ထွန်း (ဥက္ကဋ္ဌ) | အမှတ်-၁၄/ခ၊ မြစ်ကမ်းသာအိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | ( Future Energy Co., Ltd. ) | ၂။ ဦးအောင်ဇော်နိုင် (အုပ်ချုပ်မှုဒါရိုက်တာ) | အခန်း-၁၀၀၃၊ အိုလံပစ်တာဝါ(၂)၊ မြစ်ကမ်းသာအိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးစိုးလှိုင် (ဒုတိယဥက္ကဋ္ဌ) | အမှတ်- ၁၀၇၊တက္ကသိုလ်ရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးဝင်းရှိန်(ခ)ဦးရွှင်ပိန်း (ဒါရိုက်တာ) | အမှတ်-၂၀၊မြိုင်ဟေဝန်အိမ်ရာ၊ (၈)မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဦးကျော်ခိုင် (ဒါရိုက်တာ) | အမှတ်- ၆၄၀၊ မဟာဗန္ဓုလလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၆။ ဦးသိန်းဟန် (ဒါရိုက်တာ) | အမှတ်-၁၀၅/၇၊ သံလွင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၇။ ဦးအောင်သန်း (ဒါရိုက်တာ) | အမှတ်-၁၊ ဒဂုံလွင်လမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၈။ ဦးရဲမြင့် (ဒါရိုက်တာ) | အမှတ်-၂ ဒဂုံလွင်လမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၉။ ဦးဝင်းဌေး (ဒါရိုက်တာ) | အမှတ်-၅၊ ဘုံကျောင်းလမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၁၀။ ဦးဟန်သိန်းလွင် (ဒါရိုက်တာ) | အမှတ်-၈၁၊ ပိတောက်လမ်း၊ အေးရိပ်မွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၁၁။ ဒေါ်စန္ဒာထွန်း (ဒါရိုက်တာ) | အမှတ်-၁၄/ခ၊ မြစ်ကမ်းသာအိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၁၂။ ဦးမျိုးနောင် (ဒါရိုက်တာ) | မေခအိမ်ရာ၊ လေးထောင့်ကန်လမ်း၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။ |

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| | | ၁၃။ ဦးအိုက်ရီ (ဒုတိယဥက္ကဋ္ဌ) | အမှတ်-၁၇/က၊ ပြည်လမ်း၊ ၆ မိုင် ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၁၄။ ဦးစိန်မြင့် (ဒါရိုက်တာ) | အမှတ်-၅၂၀၊ (၃၉ x ၄၀) လမ်းကြား၊ လမ်း(၈၀)၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |
| | | ၁၅။ ဦးအောင်ရွှေ (ဒါရိုက်တာ) | အမှတ်-၂၁၆/၂၂၂၊ ဃ-၁၊ ဗိုလ်မြတ်ထွန်းအိမ်ရာ၊ မဟာဗန္ဓုလလမ်း၊ ပုစွန်တောင်မြို့နယ် ၊ ရန်ကုန်မြို့။ |
| | | ၁၆။ ဦးအောင်ပြည့်ကျော် (ဒါရိုက်တာ) | အမှတ်-၂၊ဒဂုံလွင်လမ်း၊တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၁၇။ ဒေါ်လှလှဝင်း (ဒါရိုက်တာ) | အမှတ်-၅၊ ဘုံကျောင်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီတယ်လီဖုန်းနံပါတ်/ ဖက်စ်နံပါတ် - ၀၁-၂၂၇၇၀၅၊ ၂၂၇၇၀၆၊ ၂၂၇၇၁၂၊ ၀၁-၂၁၁၆၉၆၊ ၂၁၁၉၅၇

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - အမှတ်-၅၈၄၊ HighTechTower ၊ပထမထပ်၊ ကမ်းနားလမ်း နှင့်(၇)လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့် ပုဂ္ဂိုလ် အမည်၊ ရာထူး - ဦးအိုက်ထွန်း(ဥက္ကဋ္ဌ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - စက်မှု/ထုတ်လုပ်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ - ၂၆၅/၂၀၀၈-၂၀၀၉ (၆-၆-၂၀၀၈)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - (၅-၆-၂၀၁၀)

၇။ ဘဏ်အမည် နှင့် ဘဏ်စာရင်းအမှတ် - မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် FDO 10- 008

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

FAX: 95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁။

စာအမှတ်၊ရက- ၆(က)/မ- ၁၀၁၈/၂၀၀၉(၂၁၁၉၇)

ရက်စွဲ ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာ လ ၂၁ ရက်။

သို့

ဝန်ကြီးရုံး၊

အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ ။ ။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ဘီလူးချောင်း(၃) ရေအား လျှပ်စစ် စီမံကိန်းအား BOT (Build, Operate and Transfer) စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန ၏ (၉-၁၂-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂)/ ၅၆၂၀/ ၂၀၀၉ ။

၁။ အထက် အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန မှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်းကို (၁၅-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော ဤကော်မရှင် ၏ (၄၄/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေး မှ ရေအားလျှပ်စစ်စီမံရေး ဦးစီးဌာန နှင့် အနာဂတ်စွမ်းအား ကုမ္ပဏီ လီမိတက်တို့သည် ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ရောင်းချသည့် လုပ်ငန်းကို BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါ အတိုင်း ဆုံးဖြတ်ကြပါသည် -

(က) ပြည်တွင်းသုံးဈေးငွေအတွက် အတိုးနှုန်းကို (၁၅%) ဖြင့် ပြင်ဆင်တင်ပြပေးရန်၊

(ခ) လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင် ထုတ်လုပ် ဖြန့်ဖြူးမည့် နေ့ရက် တင်ပြပေးရန်၊

(ဂ) တင်သွင်းလိုသည့် မော်တော်ယာဥ်များ၏ Model, Specification တို့ကို တင်ပြပေးပါရန်၊

(ဃ) ဌာန၏ တင်ပြစာပါ လျှပ်စစ် ဓါတ်အားခနှုန်း ဖော်ပြချက်နှင့် စပ်လျဥ်း၍ သောက်ရေခပ် (၂) စီမံကိန်းကဲ့သို့ တင်ပြရန်၊

(င) ချေးငွေကိစ္စ၊ အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့်၊ မော်တော်ယာဥ် တင်သွင်းရန် ကိစ္စရပ်များနှင့် အတူ ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်ပြီး ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြနိုင်ရန် အတွက် အဆိုပြုလွှာ (၂၇)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြား အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ်စီမံရေး ဦးစီးဌာန။

(၂) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။

(၃) ရုံးလက်ခံ/မျှောစာတွဲ။

ကော်မရှင်၏ ၄၄ / ၂၀၁၉ အစည်းအဝေး

အကြောင်းအရာ ။ ။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား BOT(Build ,Operate , Transfer) စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချ ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာနနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့ တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်းပေါ်တွင် ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ် ရောင်းချသည့်လုပ်ငန်း (ဘီလူးချောင်း(၃) ရေအား လျှပ်စစ်စီမံကိန်း)အား BOT (Build,Operate, Transfer)စနစ်ဖြင့် ဆောင်ရွက်ခွင့်အတွက် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အဆိုပြုလွှာ တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ ဌာနမှ တင်ပြထားသည့် အဓိကအချက်များကို အောက်ပါအတိုင်း ကောက်နုတ်တင်ပြ အပ်ပါသည်-

(က) တပ်ဆင် စက်အင်အား (၅၂) မဂ္ဂါဝပ်နှင့် နှစ်စဉ် ပျမ်းမျှ ထုတ်လုပ်မည့် ဓါတ်အား မှာ (၃၃၄) ကီလိုဝပ်နာရီသန်းပေါင်း ဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှု တန်ဖိုး စုစုပေါင်းမှာ ကျပ် (၁၀၅၁၁၈.၉၂) သန်းနှင့် အမေရိကန် ဒေါ်လာ (၈၂.၆၇) သန်း ဖြစ်ပါသည်။

(ဂ) အဆိုပြုစီမံကိန်းသည်ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏများပြားခြင်းကြောင့် ဆောင်ရွက်မည့် စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင်ဘဏ် တစ်ခုခုမှ ငွေကျပ်သန်းပေါင်း (၂၂၀၀၃.၈၀) ကို တစ်နှစ်လျှင် အတိုးနှုန်း (၁၇) ရာခိုင်နှုန်းဖြင့် ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ နှစ်ရှည် စီမံကိန်း ချေးငွေ (Project Finance) ရယူဆောင်ရွက်မည် ဖြစ်ပါသည်။

(ဃ) နိုင်ငံခြားသုံးငွေဖြင့် ရင်းနှီးမြှုပ်နှံမှုအတွက် နိုင်ငံခြားဘဏ်မှ အမေရိကန်ဒေါ်လာ (၂၈.၈၀) သန်းကို တစ်နှစ်လျှင် အတိုးနှုန်း (၅.၅) ရာခိုင်နှုန်းဖြင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့် အညီ ချေးယူမည် ဖြစ်ပါသည်။

(င) ပြည်တွင်း ချေးငွေအား ရန်ကုန် - မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံ ရရှိငွေများ၊ နေပြည်တော် တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ ရဲရွာရေအားလျှပ်စစ်စီမံကိန်း၊ အထက် ပေါင်းလောင်း ရေအားလျှပ်စစ်

စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ High Tech Concrete Co., Ltd. ၏ ကွန်ကရစ်ရောင်းချခြင်းမှရရှိသည့် ဝင်ငွေများ၊ ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခု အဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓါတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့် ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခု အဆိုပြု စီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့် နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ် အတွင်း ပြန်လည် ပေးဆပ်သွားမည် ဖြစ်ပါသည်။

(စ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန် ပစ္စည်းများ၊ တင်ပို့ ရောင်းချခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှု ပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ဆ) တည်ဆောက်ရေးကာလမှာ (၄)နှစ် ဖြစ်ပါသည်။ BOT သက်တမ်းကာလမှာ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှ စတင်၍ နှစ် (၆၀)နှင့် နောက်ထပ် (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်း တိုးမြှင့်နိုင်မည် ဖြစ်ပါသည်။

(ဇ) လုပ်ပိုင်ခွင့်ကာလ ကုန်ဆုံးပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ်ပစ္စည်းများအား အခမဲ့ လွှဲပြောင်းပေးအပ်မည် ဖြစ်ပါသည်။

(ဈ) (၂၀၀၉) ခုနှစ်၊ အောက်တိုဘာလ အထိ လုပ်ငန်းပြီးစီးမှုမှာ စုစုပေါင်း (၁၄.၅၉) ရာခိုင်နှုန်း ဖြစ်ပါသည်။

(ည) မြေအသုံးချမှု ပရီမီယံကြေးမှာ ကျပ်သိန်း(၅၀၀)ဖြစ်ပြီး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း တစ်ဝက်(ကျပ်သိန်း ၂၅၀)ပေးအပ်ရန်နှင့် တည်ဆောက်ရေး ကာလ ပြီးနောက် စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျန်တစ်ဝက် (ကျပ်သိန်း ၂၅၀)ကို ပေးအပ်ရပါမည်။(မြေငှားခမပေးပါ)

(ဋ) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီ ဖြန့်ဖြူးရောင်းချမည် ဖြစ်ပြီး သဘောတူခွင့်ပြုမည့် အောက်ပါနည်းလမ်းများမှတစ်ခုခုဖြင့် စီမံကိန်းပြီးစီး

သည့် အချိန်တွင်ဖြစ်ပေါ်မည့် ဓါတ်အားခန့်မှန်းထားဖြင့် ရောင်းချမည်ဖြစ်ပါသည် -

(၁) ဘီလူးချောင်း အမှတ်(၃) လျှပ်စစ်ဓါတ်အားခွဲရုံတွင် မီတာတပ်ဆင်ရောင်းချသော စနစ် (Metering at the fence of Baluchaung No. 3 Hydro-power Project) ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍ လုပ်ငန်းဌာန တစ်ခုခုသို့ ရောင်းချခြင်း၊ (သို့မဟုတ်)

(၂) နယ်မြေဒေသတစ်ခုခု၊ စက်မှုဇုန်တစ်ခုခုသို့ဖြန့်ဖြူးရောင်းချခြင်း၊ (သို့မဟုတ်)

(၃) ပြည်ပအိမ်နီးချင်း နိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်း၊

၃။ အဆိုပြုလုပ်ငန်း၏ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၇.၀၅) ရာခိုင်နှုန်းနှင့် အရင်းကြေကာလမှာ (၁၅)နှစ်နှင့် (၁၁)လ ဖြစ်ပါသည်။ ဘီလူးချောင်း(၃) ရေအား လျှပ်စစ် စီမံကိန်းသည် နိုင်ငံ အတွင်း လိုအပ်သော လျှပ်စစ်ဓါတ်အားကို ဖြည့်ဆည်းပေးနိုင်သည့် အပြင် ပြည်တွင်း တိုင်းရင်းသား လုပ်ငန်းရှင် အနေဖြင့် ငွေကြေး အမြောက်အမြား ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော် ဆောင်ရွက်သည့် လုပ်ငန်းဖြစ်သည့်အတွက် စီမံကိန်းအား အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်စေရန် အောက်ပါအချက်များကို ခွင့်ပြုပေးပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ထောက်ခံ တင်ပြထားပါသည် -

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်အား ပထမ (၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန် နှင့် ယင်းကာလ ပြည့်ပြီးနောက် အရင်းကြေကာလ မတိုင်မီကာလများ အတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုပါရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအား နှစ် (၆၀) ခွင့်ပြုပေးပါရန်နှင့် ယင်းကာလ ပြည့်ပြီးနောက် လုပ်ငန်း ဆက်လက်လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်၊

(ဂ) တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဥ်နှင့် အခြားဆက်စပ်ပစ္စည်းများအား တင်သွင်းခွင့်ပြုပါရန်၊

၄။ ~~သောက်ရေခပ် (၂)~~ ရေအားလျှပ်စစ်စီမံကိန်းနှင့် စပ်လျဥ်း၍ အောက်ပါဌာနများ၏ သဘောထားမှတ်ချက်များကို ပူးတွဲ တင်ပြထားပါသည်။

## (က) ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်

(၁) ပဋိညာဥ်စာချုပ် သက်တမ်းကို နှစ်(၆၀) ဟု ဖော်ပြထားပါသည်။ စာချုပ် (မူကြမ်း) အပိုဒ် - ၂၂ (ဂ) တွင် ပဋိညာဥ် သက်တမ်းအား တိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့်၊ ယခု လျှပ်စစ်စီမံကိန်း၏ သက်တမ်းအား ကနဦး နှစ် (၃၀)

သာ ခွင့်ပြု၍ နောက်ထပ် သက်တမ်း ထပ်မံ တိုးမြှင့်ဆောင်ရွက်ခွင့်ပြုခြင်းက သင့်လျော်မည်ဟု ယူဆပါကြောင်း၊

(၂) မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀) အား ဌာနသို့ ပေးအပ်ရန် ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ် (၆၀) အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း (၅၀၀) သာ ရရှိမည် ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိနိုင်ပါကြောင်း၊ (Royalty Fees နှင့် မြေငှားခကို ဝန်ကြီးဌာနမှ မတောင်းပါ)

(၃) စာချုပ်အရ ပေးချေသည့် တန်ဖိုးအပေါ်တွင် လည်းကောင်း၊ တစ်ဆင့်ခံဆောင်ရွက် စေခြင်းအတွက် ပေးချေသည့် တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်း ဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါ ချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင်လည်းကောင်း၊ ပင်ရင်းမှနှုတ်ယူ ပေးသွင်းသည့် ဝင်ငွေခွန် (Withholding Tax) ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါကြောင်း၊

(၄) ပြည်တွင်းပြည်ပမှ ငှားရမ်းသည့် ကျွမ်းကျင်သူများအတွက် ဝင်ငွေခွန်ကို နှုတ်ယူ ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါကြောင်း၊ ဓါတ်အားထုတ်လုပ်ရောင်းရငွေ အပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့် အသားတင် အမြတ်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းနှင့် အမိန့်ကြော်ငြာစာများနှင့် အညီ ပေးဆောင်ရန် တာဝန်ရှိပါကြောင်း ပြန်ကြားထားပါသည်။

## (ခ) ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်

(၁) မြေငှားရမ်းခနှင့် လုပ်ငန်းအာမခံငွေရယူရန် သင့်-မသင့်၊

(၂) လုပ်ငန်းစတင်သည့်နေ့ကို အတိအကျ သတ်မှတ်သင့်ပါကြောင်း၊

(၃) စာချုပ်ကာလမှာ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင် ထုတ်လုပ် ဖြန့်ဖြူးသည့်နေ့ရက်မှ စတင်ကြောင်း ဖော်ပြထားရာ စီးပွားဖြစ် စတင် ထုတ်လုပ်ဖြန့်ဖြူးခြင်းသည် မည်သည်ကို ဆိုလိုကြောင်း အဓိပ္ပါယ် ဖွင့်ဆိုချက်များတွင် ထည့်သွင်း ဖော်ပြရန်လိုအပ်ပါကြောင်း၊

(၄) စာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင် ထုတ်လုပ် ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀) ဖြစ်သဖြင့် စာချုပ် အကျိုးသက်ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင် ထုတ်လုပ် ဖြန့်ဖြူးနိုင်သည့် နေ့ရက်မတိုင်မီ အထိ စာချုပ် သက်တမ်းတွင် ထည့်သွင်း ရေတွက်ခြင်း မရှိသည်ကို သတိမူသင့်ပါကြောင်း၊

(ဂ) **နိုင်ငံခြား စီးပွားဆက်သွယ်ရေးဦးစီးဌာန၏ သဘောထားမှတ်ချက်**

(၁) မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်း လုပ်ကိုင်သူမှ ပေးရန် ဖြစ်ပြီး မြေငှားရမ်းခ သီးခြား ပါဝင်ခြင်း မရှိသည်ကို တွေ့ရှိရပါကြောင်း၊

(၂) အာမခံ ရယူရန် သင့် - မသင့် စဉ်းစားသင့်ပါကြောင်း ပြန်ကြားထားပါသည်။

၅။ စိစစ်တင်ပြချက်

(က) ကုမ္ပဏီမှ ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန် ခံစားခွင့်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း တောင်းခံထားပါသည် -

- ပထမ (၃)နှစ် ကင်းလွတ်ခွင့်
- အရင်းကြေကာလမတိုင်မီ (၉)နှစ် အတွက် ၅၀ % သက်သာခွင့်

(ခ) BOT သက်တမ်းကာလကို (၇၅)နှစ် တောင်းခံထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းမှ အောက်ပါ မော်တော်ယာဉ်များ တင်သွင်းခွင့် တောင်းခံထားပါသည် -

| | | |
|---|---|---|
| - | Station Wagon (4 x 4) | ၁၅ စီး |
| - | Double Cab (4 x 4) | ၅ စီး |
| - | Wagon (7 Seater) | ၅ စီး |
| - | Bus | ၅ စီး |
| | စုစုပေါင်း | ၃၀ စီး |

(ဃ) ကော်မရှင်၏ (၁၄/၂၀၀၉) (၂၉-၄-၂၀၀၉) အစည်းအဝေးမှ ဘီလူးချောင်း (၃) ရေအားလျှပ်စစ်စီမံကိန်းတွင် အသုံးပြုရန် လတ်တလော လိုအပ်သည့် အမေရိကန်ဒေါ်လာ(၅.၆၃)သန်းတန်ဘိုးရှိ စက်/ ယာဉ်/ ယန္တရားနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများအား တင်သွင်းခွင့်ပြုခဲ့ပါသည်။

၆။ သို့ဖြစ်ပါ၍ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.)မှ ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်းပေါ်တွင် ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသည့်လုပ်ငန်း (ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်း) အား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်အတွက် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အဆိုပြုလွှာ တင်ပြခြင်းကို စီးပွားရေးဆိုင်ရာ အဓိကအချက်များကို ပူးတွဲလျက် လမ်းညွှန်မှုခံယူအပ်ပါသည်။

ပူးတွဲ

ဘီလူးချောင်း(၃ )ရေအားလျှပ်စစ်စီမံကိန်း၏ စီးပွားရေးဆိုင်ရာအဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်<br>(Future Energy Co., Ltd. )<br>[ကုမ္ပဏီမှတ်ပုံတင်အမှတ် ၂၆၅/ ၂၀၀၈- ၂၀၀၉<br>(၆-၆-၂၀၀၈) ] |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်ဇော်နိုင် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်း(Build, Operate & Transfer -BOT)စနစ်ဖြင့် ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချသည့် လုပ်ငန်း |
| ၄။ | စက်ရုံတည်ဆောက်မည့်နေရာနှင့် အကျယ်အဝန်း | - ကယား ပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့ တောင်ဘက်(၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်းပေါ်တွင် တည်ဆောက်မည် ဖြစ်ပါသည်။<br>- (၄၀၂)ကေ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း<br>- လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်း | (ကျပ်သန်း)<br>၁၀၅၆၁၄.၉၇ (US$၈၂.၆၈သန်းအပါအဝင်)<br>၁၀၁၉၉၄.၁၄ (US$ ၁၃.၉၈ သန်းအပါအဝင်)<br>၂၇၂.၁၆ (US$ ၄၅.၃၆ သန်း)<br>၆၄၁.၇၉<br>၁၀၇.၉၁<br>၂၅၉၈.၉၇ (US$ ၂၃.၃၄ သန်း)<br>- ကုမ္ပဏီ၏ ရင်းနှီးမြှုပ်နှံမှု တွင် ပြည်တွင်း ချေးငွေကျပ် ( ၂၂၀၀၃.၈၀) သန်း ပါဝင်ပြီး တစ်နှစ် လျှင် (၁၇%) အတိုးနှုန်းဖြင့် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်း များနှင့်အညီ ငှားချေးယူမည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ(၄)နှစ်၊ ဆိုင်းငံ့ကာလ (၁)နှစ်အပါအဝင်(၁၅) နှစ် အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - US$ (၈၂.၆၈) သန်းတွင် ကိုယ်ပိုင်ထည့်ဝင်ငွေ US$ (၅၃.၈၈ ) သန်း နှင့် ပြည်ပ ဘဏ် မှ ချေးငွေ US$ (၂၈.၈၀)သန်း ပါဝင် ပါသည်။ အဆိုပါ ချေးငွေကို နိုင်ငံခြားဘဏ်မှ ဗဟိုဘဏ်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ တစ်နှစ်လျှင် အတိုးနှုန်း(၅.၅%)ဖြင့်ချေးယူမည်ဖြစ်ပါသည်။<br>- ကိုယ်ပိုင်နိုင်ငံခြားငွေ US$ (၁၆.၅၆)သန်းနှင့် ပြည်ပချေးငွေ US$ (၂၈.၈၀) သန်း ဖြင့် စက်ပစ္စည်းများတင်သွင်းမည်ဖြစ်ပါသည်။<br>- တည်ဆောက်ရေးကာလ(၄)နှစ်၊ဆိုင်းငံ့ကာလ(၁)နှစ် အပါအဝင် (၁၅)နှစ်အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။ |
| ၆။ | နှစ်စဉ် ထုတ်လုပ်နိုင်မည့် ဓါတ်အား ပမာဏ | - ၃၃၄.၁၀ ကီလိုဝပ်နာရီသန်းပေါင်း |
| ၇။ | နှစ်စဉ် ရောင်းချနိုင်မည့် ဓါတ်အား ပမာဏ | - ၃၁၇.၃၀ ကီလိုဝပ်နာရီသန်းပေါင်း<br>(ထုတ်လုပ်နိုင်သည့် ဓါတ်အားပမာဏ၏ (၅%) မှာ လုပ်ငန်းတွင် ပြန်လည် အသုံးပြုခြင်း နှင့် ဓါတ်အား ဖြန့်ဖြူး ရာတွင် လျော့နည်းမှုအတွက် ဖြစ်ကြောင်း တင်ပြထားပါသည်။) |
| ၈။ | တစ်ယူနစ်ဓါတ်အားခနှုန်း | - ၅၀ ကျပ်<br>(၃နှစ်လျှင် တစ်ကြိမ်၁.၅% တိုးမြှင့်မည်ဖြစ်ပါသည်။) |
| ၉။ | ဝင်ငွေ(ဆဌမနှစ်) | - ကျပ် ၁၆၁၀၂.၉၈ သန်း |
| ၁၀။ | အသားတင်အမြတ် | - ကျပ် ၅၁၅၄.၃၄ သန်း |
| ၁၁။ | အရင်းကြေကာလ | - (၁၅)နှစ် နှင့် (၁၁)လ<br>(တည်ဆောက်ရေးကာလ(၄)နှစ် အပါအဝင် ဖြစ်ပါသည်။) |
| ၁၂။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - (၇.၀၅)ရာခိုင်နှုန်း |

| | | |
|---|---|---|
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် | |
| | <u>အရင်းကြေကာလမတိုင်မီ တဝက်နှုန်း</u> | |
| | - ဝင်ငွေခွန် (၁၅%) | - ကျပ် ၉၀၉.၅၉ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန်(၅%) | ကျပ် ၈၀၅.၁၅ သန်း |
| | <u>အရင်းကြေပြီးနောက်ပိုင်း</u> | |
| | - ဝင်ငွေခွန် (၃၀%) | - ကျပ် ၂၆၉၇.၉၆ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန်(၁၀%) | ကျပ် ၁၆၈၃.၈၅ သန်း |
| ၁၄။ | <u>လုပ်သားအင်အား</u> (Operation Period) | - <u>၁၀၃ ဦး</u> |
| | - ပြည်တွင်း | ၉၂ ဦး |
| | - ပြည်ပ | ၁၁ ဦး |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က)/မ-၁၀၁၂၊၁၀၁၈/၂၀၀၉ (၂၀၁၇၅)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာလ ၂၀ ရက်။

သို့/
ဝန်ကြီးရုံး၊
အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းတို့အား BOT(Build, Operate and Transfer) စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏

(၁) (၁၉-၁၀-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁၀ - လျှပ်စစ် ၁ (၁) / ၄၇၃၉ / ၂၀၀၉ (သောက်ရေခပ် -၂)

(၂) (၂၁-၁၀-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂)/ ၄၈၄၉ / ၂၀၀၉ (ဘီလူးချောင်း - ၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်းကို(၁၀-၁၁-၂၀၀၉)နေ့တွင်ကျင်းပသော ဤကော်မရှင်၏ (၄၀/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည် ။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) သောက်ရေခပ်(၂)ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့အား BOT စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြချက်ကို ကော်မရှင်မှ သဘောတူကြသည်။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၁၂)နှင့် (၁၃) တို့အရ အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားနိုင်ရေးအတွက် စီးပွားရေးဆိုင်ရာ အချက်အလက်များ ဖော်ပြလျှောက် အဆိုပြုလွှာ တင်ပြနိုင်ရေး ဆောင်ရွက်ရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင် ပါရန် အကြောင်းကြားအပ်ပါသည်။

ဉက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန။

(၂) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန။

(၃) ရွှေစွမ်းအင် ကုမ္ပဏီလီမိတက်။

(၄) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။

(၅) ရုံးလက်ခံ/ မျှောစာတွဲ။

Thoukyaekhet

ကော်မရှင်၏ ၄၀/ ၂၀၀၉ အစည်းအဝေး

အကြောင်းအရာ။ ။ သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့ အား BOT (Build, Operate and Transfer) စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် ပဋိညာဥ်စာချုပ် လက်မှတ်ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ တင်ပြလာခြင်းကိစ္စ။

၁။ သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်း (ရွှေစွမ်းအင် ကုမ္ပဏီလီမိတက်) နှင့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်း (အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်) တို့အား BOT (Build, Operate and Transfer) (တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်း) စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဥ်စာချုပ် လက်မှတ် ရေးထိုးခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အမှာစာ (၂)စောင်ဖြင့် တင်ပြခြင်းကို စုစည်းတင်ပြအပ်ပါသည်။

၂။ ဌာနအမှာစာနှစ်ခု၏ အဓိကအချက်များကို အောက်ပါအတိုင်း နှိုင်းယှဥ်တင်ပြအပ်ပါသည် -

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| (က) | BOT စနစ် အရ ဆောင်ရွက်မည့် ကုမ္ပဏီ | ရွှေစွမ်းအင် ကုမ္ပဏီလီမိတက် | အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် |
| (ခ) | တပ်ဆင်စက် အင်အား | ၁၂၀ မဂ္ဂါဝပ် | ၅၂ မဂ္ဂါဝပ် |
| (ဂ) | နှစ်စဥ် ထုတ်လုပ်မည့် ဓါတ်အား | ၆၀၄.၇၀ (ကီလိုဝပ် နာရီ သန်းပေါင်း) | ၃၃၄ (ကီလိုဝပ် နာရီ သန်းပေါင်း) |
| (ဃ) | တည်ဆောက်ရေး ကာလ | (၄)နှစ် | (၄)နှစ် |
| (င) | BOT သက်တမ်း ကာလ | လျှပ်စစ် ဓါတ်အား စီးပွားဖြစ်စတင် ထုတ်လုပ်သည့် နေ့ရက်မှစ၍နှစ်(၆၀)နှင့် နောက်ထပ် (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်နိုင်မည်ဖြစ်ပါသည်။ | (သောက်ရေခပ်(၂) သက်တမ်းအတိုင်း ဖြစ်ပါသည်။) |

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| (စ) | မြေအသုံးချမှု ပရီမီယံကြေး | ကျပ်သိန်း (၁၀၀၀) | ကျပ်သိန်း (၅၀၀) |

(ဆ) တင်ပြချက်

- မြေအသုံးချမှု ပရီမီယံကြေးကို ပဋိညာဉ် စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း တစ်ဝက်ပေး အပ်ရန်နှင့် တည်ဆောက်ရေး ကာလ ပြီးနောက် စီးပွားဖြစ် စတင်သည့် နေ့ရက်ကာလတွင် ကျန် တစ်ဝက်ကို ပေးအပ်ရပါမည်။
- လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ကို နိုင်ငံတော်နှင့် သက်ဆိုင်ရာ ဌာနများမှ အခါ အား လျော်စွာ သတ်မှတ်ပေးသည့် နှုန်းထား သတ်မှတ် ချက်များနှင့်အညီ ဖြန့်ဖြူး ရောင်းချမည် ဖြစ်ပြီး လုပ်ကိုင်ခွင့်ကာလ ကုန်ဆုံးပါက ရေအား လျှပ်စစ် စီမံရေး ဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ် ပစ္စည်းများ အား အခမဲ့ လွှဲပြောင်းပေး အပ်မည် ဖြစ်ပါသည်။

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| (ဇ) | ဘဏ္ဍာ/ အခွန် မှ သဘောထား | (၁) ပဋိညာဉ်စာချုပ်သက်တမ်း ကို နှစ် (၆၀) ဟု ဖော်ပြထား ပါသည်။ စာချုပ် (မူကြမ်း) အပိုဒ် - ၂၂ (ဂ)တွင် ပဋိညာဉ် သက်တမ်းအား တိုးမြှင့် နိုင်ကြောင်း ဖော်ပြထား သဖြင့် /ယခု လျှပ်စစ် စီမံကိန်း၏ သက်တမ်း အား ကနဦး နှစ်(၃၀) သာ ခွင့်ပြု၍ နောက် ထပ်သက်တမ်း ထပ်မံ တိုးမြှင့် ဆောင်ရွက်ခွင့် ပြုခြင်း က သင့်လျော် မည်ဟုယူဆပါကြောင်း၊ | (၁)သောက်ရေခပ်(၂)တွင် ဖော်ပြထားသည့် အတိုင်း ဖြစ်ပါသည်။ |

| သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
| --- | --- |
| (၂) မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၁၀၀၀)အား ဌာန သို့ ပေးအပ်ရန် ဖော်ပြထားရာ မြေအရင်း အမြစ်အား နှစ်(၆၀) အသုံးချမှု အတွက် နိုင်ငံတော်မှ ကျပ်သိန်း (၁၀၀၀) သာ ရရှိမည် ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြား အဖိုးအခများ မရရှိပါ ကြောင်း ပြန်ကြားထား ပါသည်။ | (၂) သောက်ရေခပ်(၂)တွင် ဖော်ပြ ထား သည့် အတိုင်း ဖြစ်ပါသည်။ |
| (၃) ဖော်ပြထားခြင်း မရှိပါ။ | (၃) စာချုပ်အရ ပေးချေသည့် တန်ဖိုး အပေါ်တွင်လည်း ကောင်း၊ တစ်ဆင့်ခံ ဆောင်ရွက် စေခြင်း အတွက် ပေးချေသည့် တန်ဖိုးအပေါ်တွင် လည်း ကောင်း၊ လုပ်ငန်း ဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေး ယူပါက အဆိုပါချေးယူငွေ အတွက်အတိုးပေးချေငွေ ပေါ်တွင် လည်း ကောင်း၊ ပင်ရင်း မှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန်(withholding Tax) ကိုဖြတ်တောက်ပေးသွင်းရန် တာဝန် ရှိပါကြောင်း၊ |

| | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
| --- | --- | --- |
| | (၄) ဖော်ပြထားခြင်း မရှိပါ။ | (၄) ပြည်တွင်းပြည်ပမှ ငှားရမ်းသည့် ကျွမ်းကျင်သူ များအတွက် ဝင်ငွေခွန်ကို နှုတ်ယူဖြတ်တောက် ပေးသွင်းရန် တာဝန်ရှိ ပါကြောင်း၊ ဓါတ်အားထုတ်လုပ်ရောင်းရငွေ အပေါ် ကုန်သွယ်လုပ်ငန်းခွန် နှင့် အသားတင် အမြတ်ငွေ အပေါ် ဝင်ငွေခွန် တို့ကို တည်ဆဲ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း နှင့် အမိန့် ကြော်ငြာစာများနှင့်အညီပေးဆောင်ရန် တာဝန် ရှိပါကြောင်း ပြန်ကြားထား ပါသည်။ |
| (ဈ) ရှေ့နေချုပ်ရုံးမှ သဘောထား | (၁) မြေ ငှားရမ်းခ နှင့် လုပ်ငန်း အာမခံငွေ ရယူရန် သင့်/ မသင့် ပြန်ကြားထားပါ သည်။ | (၁) သောက်ရေခပ်(၂) တွင် ဖော်ပြထား သည့် အတိုင်း ဖြစ်ပါသည်။ |
| (ည) နိုင်ငံခြား စီးပွား ဆက်သွယ်ရေး ဦးစီးဌာန မှ သဘောထား | (၁) ဖော်ပြထားခြင်း မရှိပါ။ | (၁) မြေ အသုံးချမှု ပရီမီယံကြေး ကို လုပ်ငန်း လုပ်ကိုင်သူ မှ ပေးရန် ဖြစ်ပြီး မြေငှားရမ်းခ သီးခြား ပါဝင်ခြင်း မရှိသည် ကို တွေ့ရှိရပါကြောင်း၊ |
| | (၂) ဖော်ပြ ထားခြင်း မရှိပါ။ | (၂) အာမခံ ရယူရန် သင့် - မသင့် စဉ်းစား သင့်ပါကြောင်း ပြန်ကြားထား ပါသည်။ |

သောက်ရေခပ် (၂) ဘီလူးချောင်းအမှတ်(၃)

(ယခု BOT စနစ် လုပ်ငန်းများကို ပြည်တွင်း မှ တိုင်းရင်းသား စီးပွားရေး လုပ်ငန်းရှင်များက ဆောင်ရွက်ကြမည်ဖြစ်ပါသည်။)

၃။ ကုမ္ပဏီများမှ ဆောင်ရွက်မည့်လုပ်ငန်း အဆင့်ဆင့်ကို တင်ပြထားပါသည်။(ပူးတွဲ)

၄။ <u>စိစစ်တင်ပြချက်</u>

(က) ရွှေစွမ်းအင်ကုမ္ပဏီလီမိတက်မှဆောင်ရွက်မည့် သောက်ရေခပ်(၂)ရေအားလျှပ်စစ်စီမံကိန်းနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းတို့ကို မူလက BOO စနစ် (Build, Own, Operate) ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလွှာဖြင့် ဆောင်ရွက်ခွင့် တင်ပြခဲ့ပါသည်။ အကြီးအကဲ၏ လမ်းညွှန်ချက်အရ BOO စနစ် (အစား) BOT စနစ်ဖြင့် ပြောင်းလဲတင်ပြမည်ဟု သိရှိရပါသည်။

(ခ) ယခုအခါ အဆိုပါ ရေအားလျှပ်စစ်စီမံကိန်းများကို BOT စနစ်ဖြင့် ပဋိညာဉ်စာချုပ် <u>လက်မှတ်ရေးထိုးခွင့်ပြုပါရန်</u> လျှပ်စစ်(၁)မှ တင်ပြလာခြင်း ဖြစ်ပါသည်။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာ (စီးပွားရေးဆိုင်ရာ အချက်အလက်များ)ပူးတွဲ တင်ပြထားခြင်း မရှိပါ။

(ဂ) BOT စနစ်ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် တင်ပြရာတွင် BOT စာချုပ် (မူကြမ်း) ၊ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေ (ပြည်တွင်းချေးငွေ/ ပြည်ပချေးငွေ/ ပြန်လည်ပေးဆပ်မှု)များနှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများ ပါဝင်သည့် လုပ်ငန်းအဆိုပြုလွှာကိုပါ ပူးတွဲ တင်ပြလေ့ရှိပါကြောင်း ဖော်ပြအပ်ပါသည်။

(ဃ) ယင်းအဆိုပြုလွှာကို ကော်မရှင်မှ စိစစ်ပြီး TC, Cabinet အစည်းအဝေး များသို့ တင်ပြကာ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အခွန်အကောက် ကင်းလွတ်ခွင့်/ သက်သာခွင့်များပေးသော ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပါသည်။

(င) ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးသည့်အခါ ဌာနနှင့် ကုမ္ပဏီတို့သည် ရှေ့နေချုပ်ရုံးမှ စိစစ်ပေးထားသော လုပ်ငန်း ပဋိညာဉ်စာချုပ် တွင် လက်မှတ်ရေးထိုး ချုပ်ဆို ဆောင်ရွက်ကြပါသည်။

(စ) မြေအသုံးချမှု ပရီမီယံကြေးကို ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့် နေ့တွင် တစ်ဝက်ပေးသွင်းမည် ဖြစ်ပါသည်။ [BOT စနစ် အရ ဆောင်ရွက်သည့် လုပ်ငန်းများတွင် မြေအသုံးချမှု ပရီမီယံကြေးကို (၁)နှစ် (သို့မဟုတ်) အများဆုံး (၂)နှစ် အတွင်း အရစ်ကျ ပေးသွင်းလေ့ရှိကြပါကြောင်း စိစစ်တင်ပြ အပ်ပါသည်။]

* ယခု တင်ပြချက်တွင် တည်ဆောက်ရေးကာလ (၄)နှစ်ပြီး နောက်ပိုင်းတွင် ကျန် ၅၀ % ကိုပေးသွင်းမည် ဖြစ်ပါသည်။

(ဆ) BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်သည့် သက်တမ်း နှစ်(၆၀) သည် စီးပွားဖြစ် စတင်သည့်နေ့မှ စတင်သတ်မှတ်ရန် တင်ပြထားပါသည်။ စီးပွားဖြစ်နေ့ မသတ်မှတ်နိုင်သေးပါက နှစ် (၆၀) သက်တမ်းကာလ မစတင်နိုင်သည့် သဘောသက်ရောက်ပါကြောင်း စိစစ် တင်ပြ အပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့ အား BOT စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂) /၄၈၄၉ / ၂၀၀၉ ။

ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ အောက်တိုဘာလ ( ၂၁ ) ရက် ။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

အကြောင်းအရာ။ ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T(Build, Operate and Transfer) (တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်း) စနစ်ဖြင့်ဆောင်ရွက်ရန်အတွက် ပဋိညာဉ် စာချုပ် လက်မှတ်ရေးထိုးရန်ကိစ္စ။**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတ အရင်းအမြစ်များကို အကျိုးရှိစွာ အသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိရာတွင် " ပြည်တွင်း၊ ပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ရေအားလျှပ်စစ်စီမံကိန်းများအား ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်များနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်လျက်ရှိပါသည်။

၂။ အမှတ် (၁) လျှပ်စစ် စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ် စီမံရေးဦးစီးဌာနနှင့် အနာဂတ် စွမ်းအား ကုမ္ပဏီလီမိတက်တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက် (၁၆) မိုင်ခန့်အကွာရှိ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂) မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့် ဓာတ်အား ကီလိုဝပ် နာရီသန်းပေါင်း (၃၃၄)ထွက်ရှိမည့် ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)အား နှစ်ဖက်ညှိနှိုင်း ပြုစုခဲ့ကြပါသည်။

၃။ ညှိနှိုင်းပြုစုထားသော ပဋိညာဉ်စာချုပ် (မူကြမ်း)အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် အနေဖြင့် ဆောင်ရွက်မည့်လုပ်ငန်း အဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေး တွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း။

(ခ) ဘီလူးချောင်း အမှတ် (၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီးထုတ်လွှတ်လိုက်သော ရေနှင့်စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသော ရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါး မှတဆင့် အဓိက ဥမင်လိုဏ်ခေါင်း ( Head Race Tunnel) အတွင်းသို့ပို့လွှတ် ပေးသွင်းခြင်း။

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲ အဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကိုတည်ဆောက်ခြင်း။

(ဃ) အလျားမီတာ (၉၀)မှ မီတာ (၂၂၀)ရှည်သော ချဉ်းကပ် ဥမင်လိုဏ်ခေါင်း (၄)ခု အပါအဝင် အလျား (၄.၃)ကီလိုမီတာ၊ အကျယ်(အချင်း)(၄.၉)မီတာရှိသော ရေသွယ်ဥမင် လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း။

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ (၅၀,၀၀၀)ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခု နှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များတည်ဆောက်ခြင်း။

(စ) အလျား (၁၈၈) မီတာနှင့် အကျယ်(အချင်း)(၃.၈)မီတာရှိသော ဖိအားမြှင့်သံမဏိပိုက် ( Penstock) တည်ဆောက်ခြင်း။

(ဆ) ဖရန်စစ်အမျိုးအစား (၂၅.၃) မဂ္ဂါဝပ် ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ ( Surface Type Power House) တည်ဆောက်ခြင်း။

(ဇ) စက်ရုံမှ ထွက်လာသည့် ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း (၁)ခု တည်ဆောက်ခြင်း။

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ (၁)ခု တည်ဆောက်ခြင်း။

(ည) ဘီလူးချောင်း အမှတ် (၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ် (၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅) ကီလိုမီတာ အရှည်ရှိ (၁၃၂) ကေဗွီ လျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက် ဆက်သွယ်ခြင်း။

(ဋ) ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်း အမှတ် (၂) ရေအားလျှပ်စစ် စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း။

(ဌ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း။

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း။

(ဎ) လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်း။

၄။ စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် တန်ဖိုးစုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၁၀၅,၁၁၈.၉၁ (ကျပ်တစ်သိန်း ငါးထောင် တစ်ရာတစ်ဆယ့်ရှစ်သန်း၊ ကိုးသိန်း တစ်သောင်းတိတိ) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ (၈၂.၆၇)သန်း (အမေရိကန်ဒေါ်လာ ရှစ်ဆယ့်နှစ်သန်း ခြောက်သိန်း ခုနှစ်သောင်းတိတိ) ဖြစ်ပါသည်။ စီမံကိန်းတည်ဆောက်ရေးကာလမှာ (၄)နှစ် ဖြစ်ပြီး စုစုပေါင်းလုပ်ပိုင်ခွင့်ကာလမှာ လျှပ်စစ်ဓာတ်အား စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှ စတင်၍ နှစ်ပေါင်း (၆၀) အထိ ဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလအား ဆက်လက်တိုးမြှင့်လိုပါက စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြ၍ (၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်နိုင်မည်ဖြစ်ပါသည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်မည်ဖြစ်ပါသည် -

(က) ပဋိညာဉ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

(ခ) တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓာတ်အား စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ် သိန်းနှစ်ရာ့ ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှအခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချမည်ဖြစ်ပြီး လုပ်ပိုင်ခွင့်ကာလ ကုန်ဆုံးပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ်ပစ္စည်းများအား အခမဲ့ လွှဲပြောင်းပေးအပ်မည် ဖြစ်ပါသည်။

၇။ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-က)**၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-ခ)**၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီး ဌာန၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-ဂ)**များနှင့်အညီ ရေးဆွဲထားသော ပဋိညာဉ်စာချုပ်အား **(နောက်ဆက်တွဲ-ဃ)**ဖြင့် ပူးတွဲလျှက် တင်ပြအပ်ပါသည်။

၈။ သို့ဖြစ်ပါ၍ ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်တို့ လက်မှတ်ရေးထိုးမည့် ပဋိညာဉ်စာချုပ်အား လက်မှတ်ရေးထိုး ခွင့်ပြုပါရန်ထောက်ခံတင်ပြအပ်ပါသည်။

(ပိုလ်မှူးကြီးဇော်မင်း)
ဝန်ကြီး

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့

နောက်ဆက်တွဲ(က)

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး
နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၁၃ /နပတ( ၃၂၉ )

ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ စက်တင်ဘာလ၁၆ရက်

အကြောင်းအရာ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင် ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂ - ၉-၂၀၀၉ ရက်စွဲပါစာအမှတ် ၁၅၇-လျှပ်စစ် ၁(၂)/ ၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့အကြားဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအားB.O.T(တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင်နိဒါန်းအပိုင်း၌ရည်ညွှန်းထားသောပူးတွဲ(၁)မှာမြေပုံပူးတွဲပါရှိခြင်း မရှိပါ။ ယင်းနောက်ဆက်တွဲသည်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲများကို ပြည့်စုံစွာပူးတွဲထားရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် မြေအသုံးချမှုပရီမီယံ(Land Use Premium) ပါရှိသော်လည်း မြေငှားရမ်းခမပါရှိသဖြင့် ဌာနအနေဖြင့်ရယူလိုခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံငွေရယူထားခြင်းမရှိသဖြင့် လုပ်ငန်းအာမခံရယူရန်သင့်မသင့်စဉ်းစားသင့်ပါသည်။လုပ်ငန်းအာမခံငွေထားရှိလျှင် ယင်း၏ဘဏ်အာမခံ

လျှို့ဝှက်

ပုံစံအားစာချုပ်တွင် ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာစံညွှန်းဟု ဖော်ပြထားရာ နောင်အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဂ)တွင် ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကိုဝန်ကြီးဌာနမှခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်ကြောင်းဖော်ပြထားရာ မည်သည့်ဝန်ကြီးဌာနဖြစ်ကြောင်းကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဇ)ပါ လုပ်ငန်းခွင့်ပြုသူအချိန်တိုးပေးခြင်းနှင့်စပ်လျဉ်းသည့် ကိစ္စရပ်မှာလုပ်ငန်းခွင့်ပြုသူနှင့် သက်ဆိုင်သဖြင့်လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ခေါင်းစဉ် အောက်သို့ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဈ)တွင်ဖော်ပြထားချက်မှာ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် သက်ဆိုင်သဖြင့်စာချုပ်သက်တမ်းခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၉(က)တွင်လုပ်ငန်းစတင်သည့်နေ့ကိုလုပ်ငန်းခွင့်ပြုသူမှလုပ်ငန်း စတင်ရန်အကြောင်းကြားစာကိုလုပ်ငန်းလုပ်ကိုင်သူမှလက်ခံရရှိသည့်နေ့ဟုဖော်ပြထားရာနောင်အငြင်းပွားမှုပေါ်ပေါက်နိုင်သဖြင့်ယင်းနေ့ကိုအတိအကျသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၁၆ လုပ်ငန်းလုပ်ကိုင်သူ၏ပျက်ကွက်မှုနှင့်ပတ်သက်၍အပိုဒ်(ခ) ပါအတိုင်း လုပ်ငန်းလုပ်ကိုင်သူသည် သတ်မှတ်ကာလကျော်လွန်မှ စာချုပ်လုပ်ငန်းများ ကိုဆောင်ရွက်ပြီးစီးပါက ဌာနအနေဖြင့် ရက်လွန်ကြေး၊ ဒဏ်ကြေးရယူရန်သင့် မသင့် စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၈(ဃ)၌ စာချုပ်ရပ်စဲခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်းကြောင့်ဖြစ်ပါက မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မည်သည့်ကာလအထိ ဆက်တိုက်ဖြစ်ပေါ်ခြင်းကို ဆိုလိုကြောင်းကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်ညှိနှိုင်းသတ်မှတ်သင့်ပါသည်၊

(ဠ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)၌ စာချုပ်ကာလမှာလျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးသည့် နေ့ရက်မှစတင်ကြောင်းဖော်ပြထားရာ နောင် နှစ်ဖက်အငြင်းပွားမှုမဖြစ်စေရန် " စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" သည် မည် သည်ကိုဆိုလိုကြောင်းအဓိပ္ပာယ်ဖွင့်ဆိုချက်များတွင်ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)ပါစာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစ၍ နှစ်ပေါင်း ၆၀ ဖြစ်သဖြင့် စာချုပ်အကျိုးသက် ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက် မတိုင်မီအထိ စာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမရှိသည်ကို သတိမူသင့် ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)တွင် B.O.T စာချုပ်များတွင်ပါလေ့ရှိသော သယံဇာတပစ္စည်းတွေ့ရှိ ခြင်းစာပိုဒ်ပါရှိလာခြင်းမရှိသည့်အတွက် ယင်းစာပိုဒ်အားမင်္ဂနီဖြင့် ရေးသားပေးလိုက်ပါ သည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် လွှဲပြောင်း၍မရနိုင်သောအခွင့်အရေးစာပိုဒ်မပါရှိသဖြင့် ရေးသား ပေးလိုက်ပါသည်၊

(ဏ) စာချုပ်သက်တမ်းအတွင်း လျှပ်စစ်ဓါတ်အားခနှင့်စပ်လျဉ်း၍ ဒွာနအနေဖြင့် ရယူရန် အစီအစဉ်ရှိ မရှိ၊ ရယူပါက မည်သို့ရယူမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(တ) လိုအပ်သောနေရာတွင် မင်္ဂနီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်သူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ၌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၆.၉.၀၉

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)

( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသည့်

ဘီလူးချောင်း အမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T**

(တည်ဆောက်ခြင်း၊လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း)စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်

ရက်စွဲ ။ ၂၀၀ ခုနှစ်၊ လ( )ရက်

## ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို
## B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်
## လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန နှင့်
## အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်
## တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ် (မူကြမ်း)

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀ ခုနှစ်၊ လ၊ ( )ရက်နေ့၌

ညွှန်ကြားရေးမှူးချုပ်၊ **ဦးကြီးစိုး** ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အဆောက်အဦ အမှတ်(၃၈)၊ နေပြည်တော် (ဤမှနောင်တွင် **"လုပ်ငန်းခွင့်ပြုသူ"** ဟု ရည်ညွှန်း ခေါ်ဆိုမည်ဖြစ်ရာ ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည် က တစ်ဖက်

နှင့်

အုပ်ချုပ်မှုဒါရိုက်တာ၊ **ဦး--------** ကိုယ်စားပြုသောပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် **အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်** (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်သူ"**ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

**"လုပ်ငန်းလုပ်ကိုင်သူ"**သည်ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာရှိ ပူးတွဲ (၁)မြေပုံပါ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၄၈)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှ ထုတ်လုပ်မည့်ဓါတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၃၃၄) ထွက်ရှိမည့်၊ ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်း (ဤမှနောင်တွင် **"လျှပ်စစ်စီမံကိန်း"** ဟု ရည်ညွှန်းခေါ်ဆိုမည်)

ကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့်လုပ်ငန်း၏ အကျိုးခံစားခွင့်များကို စာချုပ်ပါလုပ်ငန်းများဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ် စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည် ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည်-

**အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ"** ဆိုသည်မှာ ဤ **"လျှပ်စစ်စီမံကိန်း"**ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့်အစိတ်အပိုင်းများ ပြန်လည်ပြုပြင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ အသုံးပြုမည့် စက်၊ယာဉ်၊ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာ ပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) **"အမြဲတမ်းလုပ်ငန်းများ"**ဆိုသည်မှာ ဤစာချုပ်ပါ **"လျှပ်စစ်စီမံကိန်း"**လုပ်ငန်းတွင် အကျုံးဝင်သော ပုံစံပြု၍ ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) **"တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ်-၈(ပ)အရ **"လုပ်ငန်းလုပ်ကိုင်သူ"**ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့် ရသူများကို ဆိုလိုသည်။

(ဃ) **"စက်ရုံ၊ အလုပ်ရုံ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ၊ **"လုပ်ငန်းလုပ်ကိုင်သူ"** မှ ဤ **"လျှပ်စစ်စီမံကိန်း "**လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ)များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) **"လုပ်ငန်းခွင်နေရာ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏ နေရာများ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ

တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) **“စာချုပ်”** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) **“လျှပ်စစ်ဓါတ်အား”** ဆိုသည်မှာ **“လျှပ်စစ်စီမံကိန်း”**မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အား ကို ဆိုလိုသည်။

အာမခံချက်နှင့်ကိုယ်စားပြုခြင်း

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦး တစ်ဖက်အား ၎င်းသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင် ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ~~၎င်းတွင်~~ ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှု~~နှင့် အခွင့်အာဏာ~~ရှိသူဖြစ်ကြောင်း ~~ကိုယ်စားပြုအာမခံချက်~~ ပေးပါသည်။

ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်

၃။ ဤ **“လျှပ်စစ်စီမံကိန်း”** လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေး တွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊

(ခ) ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီး ထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း (Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း၊

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲ အဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း၊

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား (၄. ၃)မီတာ၊ အကျယ် (အချင်း) (၄. ၉)မီတာရှိသော ရေသွယ်ဥမင် လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း၊

(င) အဓိကရေသွယ်ဥမင်လိုဏ်ခေါင်းအဆုံးတွင် ကုဗမီတာ (၅၀,၀၀၀)ဆန့် ကွန်ကရစ် ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များ တည်ဆောက်ခြင်း၊

(စ) အလျား (၁၈၈)မီတာနှင့် အကျယ်(အချင်း) (၃. ၈)မီတာရှိသော ဖိအားမြင့် သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း၊

(ဆ) ဖရန်စစ်အမျိုးအစား (၂၅. ၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ (Surface Type Power House) တည်ဆောက်ခြင်း၊

(ဇ) စက်ရုံမှထွက်လာသည့်ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ်ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း၊

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ (၁)ခုတည်ဆောက်ခြင်း၊

(ည) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ်(၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄. ၅)ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီလျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက် ဆက်သွယ်ခြင်း၊

(ဋ) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ် ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း၊

(ဌ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း၊

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း၊

(ဎ) လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း၊

**အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် (Concession Rights)**

၄။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"**ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက် နိုင်ရန် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းပေါ်နှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် **"လုပ်ငန်းခွင့်ပြုသူ"** က ဆောင်ရွက်ပေးရမည်။

**မြေအသုံးချမှု ပရီမီယံ (Land Used Premium)**

၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း :"** ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် **"လုပ်ငန်းခွင့်ပြုသူ"** အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ် သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည် -

(က) ဤပဋိညာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) **"လျှပ်စစ်စီမံကိန်း"**၏ တည်ဆောက်ရေးကာလပြီးနောက် **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

**စံချိန်စံညွှန်းများ**

၆။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းကို အဆင့်ဆင့်ဆောင်ရွက်ရာတွင် **"လုပ်ငန်းခွင့်ပြုသူ"** မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့်ကိုက်ညီအောင် လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန် မဖြစ်နိုင်ပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

**"လုပ်ငန်းခွင့်ပြုသူ"၏တာဝန်များ**

၇။ **"လုပ်ငန်းခွင့်ပြုသူ"**၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"**၏ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သောခွင့်ပြုမိန့်ကို ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"**အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ဆောင်ရွက်ပေးရမည်။

(ဂ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက် ပေးရမည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ"သည် ဆိုခဲ့သည့် "လျှပ်စစ်စီမံကိန်း"အတွက် လိုအပ်မည့် မြေနေရာ သုံးစွဲခွင့် ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) "လုပ်ငန်းခွင့်ပြုသူ"သည် "လျှပ်စစ်စီမံကိန်း"အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) "လျှပ်စစ်စီမံကိန်း" အတွက် "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ ကူညီဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက "လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါ ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြားသဘောတူညီချက် စာချုပ်များ ချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း"မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်း များနှင့် ညှိနှိုင်း စီစဉ်ဆောင်ရွက်ပေးရမည်။

## "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ

၈။ "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ်ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်းမှဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကို ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(င) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်း မပြုရန် တာဝန်ယူရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်သူ"သည် **"လျှပ်စစ်စီမံကိန်း"** ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက

အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ၊

(ဆ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင် နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည်အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန် အတွင်း လုပ်ငန်းကို ပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် **"လုပ်ငန်းခွင့်ပြုသူ"** ထံ စာဖြင့်ရေးသား၍ တောင်းဆိုမှုပြုနိုင်သည်။ **"လုပ်ငန်းခွင့်ပြုသူ"** သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

(ဈ) **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းဆောင်ရွက်ရာတွင် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ည) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လုပ်ငန်းခွင့်ပြုသူ"** ၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ၊

(ဋ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လုပ်ငန်းခွင့်ပြုသူ"** မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဌ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြု ထားသည့်ကာလအတွင်း **"လျှပ်စစ်စီမံကိန်း"**ကို ကောင်းမွန်သော အနေအထား ရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဍ) **"လုပ်ငန်းလုပ်ကိုင်သူ"**၏ **"လျှပ်စစ်စီမံကိန်း"**မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ပ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့် ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များ~~အား~~ လိုက်နာရန် **"လုပ်ငန်းလုပ်ကိုင်သူ"** က တာဝန်ယူရမည်။

(ဖ) **"လုပ်ငန်းခွင့်ပြုသူ"** မှ ခွင့်ပြုထားသော "လျှပ်စစ်စီမံကိန်း" ၏စာချုပ်ပါ လုပ်ငန်းကာလပြည့်ပြီးနောက် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် အကျိုးအမြတ် မရရှိခဲ့လျှင်သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်ပြလျှောက်ထားရမည်။

(တ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည်။ —

"လုပ်ငန်းစတင်သည့်နေ့"

(က) "~~စတင်ဆောင်ရွက်မည့်နေ့~~" မှာ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို **"လုပ်ငန်းလုပ်ကိုင်သူ"** မှ လက်ခံရရှိသည့်နေ့ ဖြစ်သည်။

(ခ) **"တည်ဆောက်ရေးကာလ"** ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) **"နေ့ရက်"** ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ **"နှစ်"** ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) **"အကျိုးသက်ရောက်သည့်နေ့"** မှာ **"လုပ်ငန်းခွင့်ပြုသူ"**၏ တရားဝင် အကြောင်းကြားချက်အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုးသက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်းမမျှော်မှန်းခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေးကာလ တိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

**လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း**

၁၀။ ဤစာချုပ်၏ **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော် (သို့မဟုတ်) အမှတ် (၂) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

**လုပ်ငန်းတန်ဖိုး**

၁၁။ ဤစာချုပ် ချုပ်ဆိုသည့် **"လျှပ်စစ်စီမံကိန်း"** ၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် တန်ဖိုးစုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း (၁၀၅,၁၁၈. ၉၁) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာသန်းပေါင်း (၈၂. ၆၇) ဖြစ်ပါသည်။

**လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု**

၁၂။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်-

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့် နေ့မှ (၆)လအတွင်း **"လုပ်ငန်းခွင့်ပြုသူ"**ထံ တင်သွင်းရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လစဉ် တိုးတက်မှု အစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်သွင်းရမည်။

**စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း**

၁၃။ **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်း ဆောင်ရွက်မှု အစရှိသည်တို့ကို **"လုပ်ငန်းခွင့်ပြုသူ"** က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၄။ **"လုပ်ငန်းခွင့်ပြုသူ"** ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက **"လုပ်ငန်းခွင့်ပြုသူ"** က ကန့်ကွက်နိုင်သည့်အပြင် **"လုပ်ငန်းလုပ်ကိုင်သူ"** ထံ ချက်ချင်းအကြောင်းကြားရမည်။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ချို့ယွင်းချက်ကို ကောင်းစွာ ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

**မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၅။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) **"မလွန်ဆန်နိုင်သောဖြစ်ရပ်"** ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်း တစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင် တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ် စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်း မရှိသည့်ဖက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့

အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်သည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်ပေါ်ရသည့် အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

**လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု**

၁၆။ **"လုပ်ငန်းလုပ်ကိုင်သူ"**၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါ လုပ်ငန်းကိုပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်း မပြုလျှင်၊ **"လုပ်ငန်းခွင့်ပြုသူ"**မှ အဆိုပါပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကိုပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက **"လုပ်ငန်းလုပ်ကိုင်သူ"**၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟုယူဆပါက စာချုပ်ပါလုပ်ငန်းအား **"လုပ်ငန်းခွင့်ပြုသူ"** မှ သိမ်းယူခွင့်ရှိသည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါကလည်းကောင်း၊ ဤစာချုပ် **"လုပ်ငန်းခွင့်ပြုသူ"** မှ သိမ်းယူပါက လည်းကောင်း၊ တတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့်ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်မှု ရှိသည်။

ပြောင်းလဲခြင်းများ

၁၇။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင် ပြောင်းလဲဆောင်ရွက်ခြင်း လုပ်ငန်းကို **"လုပ်ငန်းခွင့်ပြုသူ"** ထံမှ အတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် အသစ်ပုံစံပြုလွှာ၊ လုပ်ငန်း အစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"**၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) **"လုပ်ငန်းခွင့်ပြုသူ"** မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ သို့မဟုတ် ကန့်ကွက်လွှာများ သို့မဟုတ် ဆောင်ရွက်ခိုင်းသည့် အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) **"လုပ်ငန်းခွင့်ပြုသူ"** သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းကို မဆို **"လုပ်ငန်းလုပ်ကိုင်သူ"** အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည့်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ **"လုပ်ငန်းလုပ်ကိုင်သူ"**၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) **"လုပ်ငန်းခွင့်ပြုသူ"** သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက် ရှိအောင် ဆက်လက်ဆောင်ရွက်ပေးရမည်။

ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

၁၈။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည် -

( က ) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လ ကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း၊

( ခ ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

( ဂ ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်း၊

( င ) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

၁၉။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

ပြင်ဆင်ခြင်း

၂၀။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက် ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၂၁။ ဤသဘောတူစာချုပ်နှင့် ~~မတ်သက်~~၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်းစွာမျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။

ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

~~ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့်~~ အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၂။ ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) ဤပဋိညာဉ်စာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြုလက်မှတ်ရေးထိုးသည့် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်းမကုန်ဆုံးမီ ၆ (ခြောက်) လ ~~အတွင်း~~ နှစ်ဖက်ညှိနှိုင်း ~~သဘောတူညီမည့်~~ သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် ~~ထိုးမြှင့်ခြင်းကို~~ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် ~~သော~~ ပဋိညာဉ်စာချုပ်သက်တမ်း တိုးရန်ဖြစ်သည်။

## ခွင့်ပြုလွှဲအပ်ခြင်း

၂၃။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

## အာမခံထားရှိခြင်း

၂၄။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့် အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

## အထွေထွေကိစ္စရပ်များ

၂၅။ (က) **တရားမဝင်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာ မရောက်စေရ။

(ဂ) **~~မစ္စည်းများ~~လွှဲပြောင်းပေးခြင်း** ။ ။ စာချုပ်~~သက်တမ်းရပ်စဲမှု~~ (သို့မဟုတ်) ~~ခွင့်ပြုသည့်လုပ်ငန်း သက်တမ်းကုန်ဆုံးမှု နောက်ပိုင်းတွင်~~ **"လျှပ်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံထားသောပစ္စည်းများ ၊ ~~လွှဲပြောင်းပေးရေးနှင့် ပတ်သက်၍ သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင်~~ တပ်ဆင်ထားသော စက်ကိရိယာများ ~~အပါအဝင်~~ **"လုပ်ငန်းလုပ်ကိုင်သူ"** က ~~ဆောက်လုပ်ထားသည့် အဆောက်အဦများကို~~ ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ~~ပိုင် ပစ္စည်းအဖြစ်~~ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) **အကြောင်းကြားစာများ။** ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှ တစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှုနောင်တွင် **"အကြောင်းကြားစာ"** ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက်မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိတ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့တရားဝင်းပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

ဆက်သွယ်ရန်လိပ်စာများ

၂၆။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် - ၀၆၇-၄၁၁၀၆၇

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊

ရန်ကုန်မြို့၊ ဖက်(စ်)အမှတ် -(၉၅)-၁-၂၁၁၆၉၆, ၂၁၁၉၅၇

နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း

၂၇။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှု စာချွန်လွှာ ကို ဤပဋိညာဉ်စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

စာချုပ်လက်မှတ်ရေးထိုးခြင်း

၂၈။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ------ ရက်၊ --------------- လ၊ --------- ခုနှစ်တို့တွင်

အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန (ကိုယ်စား)      အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

(          )      (          )

ညွှန်ကြားရေးမှူးချုပ်      အုပ်ချုပ်မှုဒါရိုက်တာ

<u>အသိသက်သေများ</u>

| | | | |
|---|---|---|---|
| အမည် | ၊ -------------------- | အမည် | ၊ -------------------- |
| မှတ်ပုံတင်အမှတ် | ၊ -------------------- | မှတ်ပုံတင်အမှတ် | ၊ -------------------- |
| ရာထူး | ၊ -------------------- | ရာထူး | ၊ -------------------- |
| ဌာန | ၊ -------------------- | ဌာန | ၊ -------------------- |

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁ / ၂၇၄ (၂၁၂၅/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

သို့
ဝန်ကြီး
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၅၇-လျှပ်စစ်၁(၂)/၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား (B.O.T) (Build Operate and Transfer) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အောက်ပါ အတိုင်း ဖော်ပြအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ်(၅)အရ လျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀)အား ပဋိညာဉ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း (၂၅၀)နှင့် လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀)ကို အနာဂတ်စွမ်းအားကုမ္ပဏီက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ ပေးအပ်ရန်ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ်(၆၀)အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း(၅၀၀)သာ ရရှိမည်ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ခ)တွင် ပဋိညာဉ်စာချုပ် သက်တမ်းကာလအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဟုဖော်ပြထားရာ ယခင် B.O.T စနစ်ဖြင့်ဆောင်ရွက်ခဲ့သည့်လုပ်ငန်းစီမံကိန်းများတွင် B.O.T ၏သက်တမ်းအား နှစ်(၃၀)မှ (၃၅) နှစ်အထိသာ ခွင့်ပြုလေ့ရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ဂ)တွင်ပဋိညာဉ်၏သက်တမ်းအားတိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့် ယခုပဋိညာဉ်၏ သက်တမ်းအား ကနဦးနှစ်(၃၀)သာ ခွင့်ပြု၍

နောက်ထပ်သက်တမ်း ထပ်မံတိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုခြင်းသာလျှင် သင့်လျော်မည်ဟု ယူဆပါသည်။

(ဂ) အဆိုပါပဋိညာဉ်စာချုပ်(မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ ထည့်သွင်းဖော်ပြထားခြင်းမရှိသည့်အတွက် သဘောထားမှတ်ချက်ပြုရန်မရှိပါ။ သို့ရာတွင်လုပ်ငန်းဆောင်ရွက်ပေးခြင်းအတွက် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သို့စာချုပ်အရပေးချေသည့်တန်ဖိုးအပေါ်တွင်လည်းကောင်း၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်ကလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ တစ်ဆင့်ခံဆောင်ရွက်စေခြင်းအတွက် ပေးချေသည့်တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင် လည်းကောင်း ပင်ရင်းမှ နှုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် (Withholding Tax)ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဃ) ထို့အပြင် စီမံကိန်းလုပ်ငန်းအတွက် ပြည်တွင်းပြည်ပမှငှားရမ်းသည့် အတိုင်ပင်ခံများ၊ကျွမ်းကျင်သူများ၊ဝန်ထမ်းများအား ထုတ်ပေးသည့် လစာခေါင်းစဉ်မှ ဝင်ငွေခွန်ကိုနှုတ်ယူဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။ စီမံကိန်းတည်ဆောက်ပြီးစီး၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသဖြင့် ရရှိသည့်ရောင်းရငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့်လုပ်ငန်းမှရရှိသည့်အသားတင်အမြတ်ဝင်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းနှင့်အမိန့်ကြော်ငြာစာများနှင့်အညီပေးဆောင်ရန်တာဝန်ရှိပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးကြီးလှသိန်းဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

နောက်ဆက်တွဲ(ဂ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ နစ/ဃ-၁/ ၅၁၉ / ၂၀၀၉ (၅၂၅၃)
ရက်စွဲ ။၂၀၀၉ခုနှစ်၊အောက်တိုဘာလ ( ၁ )ရက်

အမှာစာ

အကြောင်းအရာ။ ။ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား Build, Operate and Transfer (B.O.T) စနစ်ဖြင့် ဆောင်ရွက်ရေးဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေးရန် ကိစ္စ။

ရည်ညွှန်းချက် ။ ။အမှတ် (၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ၏ ၂.၉.၂၀၀၉ ရက်စွဲပါ စာ အမှတ် ၁၅၇ / လျှပ်စစ် ၁- (၂) / ၄၁၅၆ / ၂၀၀၉

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း အတွက် ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန(DHPP) နှင့်အနာဂတ် စွမ်းအားကုမ္ပဏီလီမိတက် (လုပ်ငန်းလုပ်ကိုင်သူ)တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) နှင့် စပ်လျဉ်း၍ အောက်ပါ သဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

၁။ စာချုပ် (မူကြမ်း)အရ တပ်ဆင်စက်အင်အား ၄၈ မဂ္ဂါဝပ်ရှိသည့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်း ကို လုပ်ငန်းလုပ်ကိုင်သူအား တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် ချုပ်ဆိုခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည် ။

၂။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူမှ ရေအားလျှပ်စစ် စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊ ဒီဇိုင်းရေးဆွဲ ပုံစံထုတ်လုပ်ခြင်း ၊ရေလွှဲအဆောက်အအုံ ၊ရေသွင်းမြောင်းများ ရေသွယ်ဥမင်လိုဏ်ခေါင်းများ တည်ဆောက်ခြင်း ၊ ရေအားလျှပ်စစ်စက်ရုံ ထိန်းသိမ်း ဆောင်ရွက်ခြင်း နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူ မှ မြေယာအသုံးချမှု ပရီမီယံကြေး သိန်း (၅၀၀) ပေးသွင်းရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ စာချုပ် (မူကြမ်း)အရ DHPP အနေဖြင့် စီမံကိန်း အတွက် မြေအသုံးချရန် ခွင့်ပြုချက် ရရှိရေး၊ လုပ်ငန်းလုပ်ကိုင်ရန် နှင့် ခွင့်ပြုမိန့်များရရှိရေး လျှပ်စစ်ဓါတ်အား ရောင်းချရန် အတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများ နှင့် ညှိနှိုင်းရေး စသည်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ စာချုပ် (မူကြမ်း)တွင် စီမံကိန်းတည်ဆောက်ရေးကာလကို (၄) နှစ် သတ်မှတ်ထားပြီး စာချုပ်သက်တမ်းကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ နှစ်ပေါင်း(၆၀) သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။

၆။ စာချုပ် (မူကြမ်း) အရ မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်သူမှ ပေးရန်ဖြစ်ပြီး မြေငှားရမ်းခ သီးခြားပါဝင်ခြင်း မရှိကြောင်းတွေ့ရှိရပါသည်။

၇။ B.O.T (မူကြမ်း) အရ လုပ်ငန်းလုပ်ကိုင်သူထံမှ လုပ်ငန်းဆောင်ရွက်မှု အာမခံရယူရန် သင့် - မသင့် စဉ်းစားသင့် ပါကြောင်း အကြံပြုအပ်ပါသည်။

။ စာချုပ်(မူကြမ်း)တွင် အပိုဒ် ၇(ဆ)၊(ဇ)၊၈(တ)နှင့် အပိုဒ် ၂၂(က)တွင် မင်နီဖြင့်ပြင်ဆင်ပေးထားကြောင်းဖော်ပြအပ်ပါသည်။

စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီးစီးပါက မိတ္တူ (၂)စောင်ကို ဤဦးစီးဌာနသို့ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား )
(မောင်မောင်ခင်-ညွှန်ကြားရေးမှူး)

<u>အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသည့်

ဘီလူးချောင်း အမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T**

(တည်ဆောက်ခြင်း၊လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း)စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်

ရက်စွဲ ။ ၂၀၀ ခုနှစ် ၊ လ( )ရက်

၃။ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန် နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြား အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊အတွင်းရေးမှူး)

မိတ္တူ -

(က) နိုင်ငံခြားမတည်ငွေရင်းတန်ဘိုးသတ်မှတ်ရေးအဖွဲ့၊
(ပို့ဆောင်ရေးဝန်ကြီးဌာန။)

~~(ခ) ဦးဆောင်ညွှန်ကြားရေးမှူး၊~~
~~မြန်မာ့ကြွေထည်မြေထည်လုပ်ငန်း။~~

(ဂ) ညွှန်ကြားရေးမှူးချုပ်၊
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

(ဃ) ညွှန်ကြားရေးမှူးချုပ်၊
နယ်စပ်ကုန်သွယ်ရေး ဦးစီးဌာန။

(င) ညွှန်ကြားရေးမှူးချုပ်၊
အကောက်ခွန်ဦးစီးဌာန။

(စ) ညွှန်ကြားရေးမှူးချုပ်၊
ပြည်တွင်းအခွန်များဦးစီးဌာန။

~~(ဆ) ... (မြန်မာ) ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်။~~

(ဇ) ရုံးလက်ခံ/ မျှောစာတွဲ။

Future Energy Co., Ltd.

Baluchaung No.(3) Hydropower Project

နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် မော်တော်ယာဉ်များ၏ အသေးစိတ်စာရင်း

| No. | Type | Specification | Model | Qty | Price (USD) | Amount (USD) |
|---|---|---|---|---|---|---|
| 1 | Station Wagon ( 4 x 4 ) | Toyota Landcruser / Lexus 4 WD Off Road Wagon | 2008 & Up | 15 | 60,000 | 900,000 |
| 2 | Double Cab ( 4 x 4 ) | Toyota Hilux Double Pick up 4 WD | 2008 & Up | 5 | 15,000 | 75,000 |
| 3 | Wagon (7 Seater) | Toyota Wagon ( 7 Seater) | 2008 & Up | 5 | 60,000 | 300,000 |
| 4 | Bus | Toyota Coaster Mini Bus | 2008 & Up | 5 | 40,000 | 200,000 |
| | Total | | | | | 1,475,000 |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁(၂)/၅၉၅ / ၂၀၁၀
ရက်စွဲ ၊ ၂၀၁၀ခုနှစ်၊ ဖေဖော်ဝါရီလ (၂၄) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အမှာစာ**

အကြောင်းအရာ။ **<u>အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လိုက်လျောခွင့်များ ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်များ အားအတည်ပြု ပေးပါရန်နှင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြု ပါရန်တင်ပြခြင်း</u>**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတအရင်းအမြစ်များကို အကျိုးရှိစွာအသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိရာတွင် "ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ရေအားလျှပ်စစ်စီမံကိန်းများအား ပြည်တွင်းတိုင်းရင်းသားလုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်လျက်ရှိပါသည်။

၂။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း(၃၃၄) ထွက်ရှိမည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် ယခင် (B.O.O) စနစ်ဖြင့် ဆောင်ရွက်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၂/၂၀၀၈)အစည်းအဝေး သဘောတူညီချက် **(နောက်ဆက်တွဲ-က)**အရ (၂.၅.၂၀၀၈)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သော နားလည်မှု စာချွန်လွှာ **(နောက်ဆက်တွဲ-ခ)** အား ပြင်ဆင်၍ ပဋိညာဉ်စာချုပ် (မူကြမ်း)အား နှစ်ဖက်ညှိနှိုင်း ပြုစုခဲ့ကြပါသည်။

၃။ ညှိနှိုင်းပြုစုထားသော ပဋိညာဉ်စာချုပ်(မူကြမ်း)အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်အနေဖြင့် ဆောင်ရွက်မည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း။

(ခ) ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီးထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း(Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း။

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း။

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား(၄.၃)ကီလိုမီတာ၊ အကျယ်(အချင်း)(၄.၉)မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း။

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ(၅၀,၀၀၀)ဆန့် ကွန်ကရစ်ရေထိန်းကန်(၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များတည်ဆောက်ခြင်း။

(စ) အလျား(၁၈၈)မီတာနှင့် အကျယ်(အချင်း)(၃.၈)မီတာရှိသော ဖိအားမြင့်သံမဏိပိုက်(Penstock) တည်ဆောက်ခြင်း။

(ဆ) ဖရန်စစ်အမျိုးအစား(၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက်(၂)လုံးနှင့် ဆက်စပ်ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ(Surface Type Power House) တည်ဆောက်ခြင်း။

(ဇ) စက်ရုံမှထွက်ရှိလာသည့် ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း။

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ(၁)ခု တည်ဆောက်ခြင်း။

(ည) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ်(၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅) ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီ လျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း။

(ဋ) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း။

(ဌ) ရုံးအဆောက်အဦးနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း။

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်းမောင်းနှင်ခြင်း။

(ဎ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း။

၄။ စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၁၀၄,၈၀၈.၆၃ (ကျပ် တစ်သိန်း လေးထောင် ရှစ်ရာရှစ် ဒသမ ခြောက်သုံးသန်း)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း (၈၂.၆၇) (အမေရိကန် ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနှစ်သန်း) ဖြစ်ပါသည်။ စီမံကိန်းတည်ဆောက်ရေး ကာလမှာ(၄)နှစ်ဖြစ်ပြီး စုစုပေါင်းလုပ်ပိုင်ခွင့်ကာလမှာ လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ အထူးကိစ္စတစ်ရပ်အနေဖြင့် **နှစ်ပေါင်း(၆၀)**ပေးအပ်ရန်ဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလအား ဆက်လက်တိုးမြှင့်လိုပါက စည်းမျဉ်းစည်းကမ်းချက်များနှင့် အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြ၍**(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်** သက်တမ်းတိုးမြှင့်နိုင်မည့် အခွင့်အလမ်းတစ်ရပ်ကို ပေးအပ်ရန်ဖြစ်ပါသည်။ ယခုအခါ စီမံကိန်းလုပ်ငန်းများအား အရှိန်အဟုန်မြှင့် ဆောင်ရွက်လျှက်ရှိရာတွင် ၂၀၁၀ခုနှစ်၊ ဇန်နဝါရီလ စုစုပေါင်း (၁၅.၆၄) ရာခိုင်နှုန်းအထိ လုပ်ငန်းများ ပြီးစီးပြီ ဖြစ်ပါသည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် **စုစုပေါင်းကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)** ကို အောက်ပါအတိုင်း ပေးအပ်မည်ဖြစ်ပါသည်-

(က) ပဋိညာဉ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း(၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ ) ကို ပေးအပ်ရန်။

(ခ) တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓာတ်အားဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီဖြန့်ဖြူး ရောင်းချမည်ဖြစ်ပါသည်။

၇။ အဆိုပြုစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမည့် ငွေများအနက်မှ နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း(၂၈.၈)ကို မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူမည်ဖြစ်ပြီး ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၂၂၀၀၃.၈)ကို နိုင်ငံတော်ဘဏ်တစ်ခုခုမှ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ခွင့်ပြုပါက နှစ်ရှည်စီမံကိန်းချေးငွေအဖြစ်ရယူပြီး စီမံကိန်းကို ရင်းနှီးမြှုပ်နှံ အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။ ချေးငွေများကို အောက်ပါအတိုင်းပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်-

(က) ပြည်တွင်းချေးငွေအားရန်ကုန်-မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော်တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ ရေအားလျှပ်စစ် တည်ဆောက်ရေး ကဏ္ဍများတွင် ပါဝင်ဆောင်ရွက်လျှက်ရှိသည့် ရဲရွာရေအားလျှပ်စစ် စီမံကိန်း၊ အထက်ပေါင်းလောင်းရေအားလျှပ်စစ်စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ High Tech Concrete Co., Ltd ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊

ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခုအဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခုအဆိုပြုစီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့်နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ခ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန်ပစ္စည်းများ၊ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊ ပြည်တွင်းတွင်ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်း များမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၈။ နိုင်ငံခြားချေးငွေဖြင့် စီမံကိန်းအတွက် စက်ယန္တရား၊ စက်ပစ္စည်းများကို လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနမှ တင်ဒါစနစ်ဖြင့် ဝယ်ယူ၍ စာချုပ်ပါအတိုင်း တင်သွင်းမည်ဖြစ်ပြီး၊ ဌာနနှင့် ကုမ္ပဏီတို့ အကြား ပစ္စည်းလွှဲပြောင်းရေးဆိုင်ရာ စာချုပ်အဖြစ် လွှဲပြောင်းရယူ၍ စီမံကိန်းတွင် အသုံးပြုမည်ဖြစ်ပါသည်။ အဆိုပါနိုင်ငံခြားချေးငွေအတွက် ကုမ္ပဏီနှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်တို့အကြား ချေးငွေပေးဆပ်ရေးဆိုင်ရာ စာချုပ်ချုပ်ဆို၍ ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ အဆိုပြုသည့် ရေအားလျှပ်စစ်စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ငွေကြေးပမာဏ၊ စီမံကိန်းချေးငွေနှင့် အတိုးနှုန်းများ၊ စီမံကိန်းမှထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဖြန့်ဖြူးမည့်နှုန်းထား၊ အဆိုပြုသည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်နှုန်းထား စသည့် အချက်များနှင့်အညီ စီးပွားရေးဆိုင်ရာတွက်ခြေကိုက်မှု စိစစ်ချက်များ အား တွက်ချက်နည်းပေါင်း (၅၀)နည်းဖြင့် အောက်ပါအတိုင်း စိစစ်တွက်ချက်ခဲ့ပါသည်-

(က) ၂၀၀၉ခုနှစ်၊ ဖေဖော်ဝါရီလတွင်နည်းပေါင်း( ၁၀)နည်းဖြင့်လည်းကောင်း၊

(ခ) ၂၀၀၉ခုနှစ်၊ ဧပြီလတွင်နည်းပေါင်း(၂၅)နည်းဖြင့်လည်းကောင်း၊

(ဂ) ၂၀၀၉ခုနှစ်၊ ဩဂုတ်လတွင်နည်းပေါင်း(၁၅)နည်းဖြင့်လည်းကောင်း၊

၁၀။ အထက်ပါ တွက်ချက်မှုနည်းလမ်းများအနက် အောက်ပါနည်းလမ်းသည် ဝန်ကြီးဌာနအဆင့် အနေဖြင့် အသင့်တော်နည်းလမ်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(က) ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်

(ခ) ကုန်သွယ်ခွန်ကင်းလွတ်ခွင့် (၃)နှစ်

(ဂ) ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်ပေးဆောင်မှု

- ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား(၃)နှစ်ကင်းလွတ်ခွင့် ခံစားပြီးနောက်(၁၅)နှစ်နှင့်(၁၁)လ — (၅၀)%သက်သာခွင့်
- ကျန်ကာလများ — တည်ဆဲဥပဒေနှင့်အညီ ပေးဆောင်ပါမည်

(ဃ) နှစ်ဖက်အကျိုးအမြတ်ရရှိနိုင်မှု

- ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ — (၂၀၂,၃၈၈.၅၈) ကျပ်သန်းပေါင်း
- ရင်းနှီးမြှုပ်နှံသူ — (၃၄၈,၇၆၅.၆၄) ကျပ်သန်းပေါင်း

(င) အရင်းကြေကာလ — (၁၅)နှစ်နှင့် (၁၁)လ

(စ) အကြွေးကြေကာလ — (၁၀)နှစ်

(ဆ) လုပ်ပိုင်ခွင့်ကာလ(ပထမစက်တစ်လုံး စီးပွားဖြစ်စက်လည်ပတ်သည့်ရက်မှစ၍) — (၆၀+၅+၅+၅)နှစ်

(ဇ) EIRR% — (၇.၃၇)%

၁၁။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ဂ)**၊ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ဃ)** များနှင့်အညီ ရေးဆွဲထားသော ပဋိညာဉ်စာချုပ်အား (၁၀-၁၁-၂၀၀၉) ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၀/၂၀၀၉) အစည်းအဝေးဆုံးဖြတ်ချက် **(နောက်ဆက်တွဲ-င)** အရ လက်မှတ်ရေးထိုးရန် သဘောတူပြီးဖြစ်သဖြင့် (၃၀.၁၂.၂၀၀၉)ရက်နေ့တွင် လက်မှတ်ရေးထိုးပြီးဖြစ်ပါသည်။ အဆိုပါပဋိညာဉ်စာချုပ် **(နောက်ဆက်တွဲ-စ)** အား ပူးတွဲလျက်တင်ပြအပ်ပါသည်။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd) မှ B.O.T စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တစ်ဆင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြခဲ့ရာ (၃.၂.၂၀၁၀)ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/၂၀၁၀)အစည်းအဝေးမှ **(နောက်ဆက်တွဲ-ဆ)** ဖြင့် အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd) မှ B.O.T စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအတွက် Exemption နှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် Exemption ကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီး ဌာနမှ အစိုးရအဖွဲ့သို့ Case by Case တင်ပြရန်။

(ခ) **Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရယူပြီး အစိုးရအဖွဲ့သို့ ပြန်လည်တင်ပြရန်။**

၁၂။ ကုန်သွယ်မှု မူဝါဒကောင်စီ ဆုံးဖြတ်ချက်အရ အမှတ် (၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန မှ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင်ရွက်ရာတွင် **ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား လုပ်ငန်းများစတင်လည်ပတ်သည့်နေ့မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် ကင်းလွတ်ခွင့်ခံစားပြီး နောက် အရင်းကြေကာလ (၁၅) နှစ် နှင့် (၁၁) လ မတိုင်မီ ကာလများအတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုပါရန်၊ လုပ်ငန်းလုပ်ပိုင်ခွင့်အား (၆၀)နှစ်ခွင့်ပြုနိုင်ပါရန်နှင့် နောက်ထပ်(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်သက်တမ်းတိုးခွင့်ပြု ပါရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ (နောက်ဆက်တွဲ-ဇ) ဖြင့်တင်ပြခဲ့ရာ (၁၈.၂.၂၀၁၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၀) မှ (နောက်ဆက်တွဲ-စျ) ဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။**

၁၃။ သို့ဖြစ်ပါ၍ ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်းသည် နိုင်ငံတော်အတွင်းလိုအပ်သော လျှပ်စစ်ဓာတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်ဖြင့် ငွေကြေးအမြောက်အများ ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သည့် လုပ်ငန်းဖြစ်သည့်အတွက် စီမံကိန်းအားအောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်နှင့် တိုင်းရင်းသားလုပ်ငန်းရှင်ဖြစ်၍ စီးပွားရေးတွက်ခြေကိုက်ရန်၊ မနစ်နာစေရန် ဖော်ပြပါလိုက်လျောခွင့်များ၊ ဝင်ငွေခွန်နှင့်ကုန်သွယ်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို အတည်ပြုပေးနိုင်ပါရန်၊ တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက်လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဥ်နှင့် အခြားဆက်စပ် ပစ္စည်းများအားသက်မှတ်ဥပဒေနှင့်အညီတင်သွင်းခွင့်ပြုပါရန်နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်အား လုပ်ငန်းခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးဇော်မင်း)
ဝန်ကြီး

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန**
**နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန**
**နေပြည်တော်**

စာအမှတ်၊ နစ/ယ-၁/ ၅၁၉ / ၂၀၀၉ (၃၂၁၃)
ရက်စွဲ ၊ ၂၀၀၉ခုနှစ် ၊အောက်တိုဘာလ ( ၁ )ရက်

**အမှာစာ**

အကြောင်းအရာ။ **"ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား Build, Operate and Transfer (B.O.T) စနစ်ဖြင့် ဆောင်ရွက်ရေးဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေးရန် ကိစ္စ။**

ရည်ညွှန်းချက် ။ **"အမှတ် (၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ၏ ၂၉-၂၀၀၉ ရက်စွဲပါ စာ အမှတ် ၁၅၇ / လျှပ်စစ် ၁-(၂) / ၄၁၅၆ / ၂၀၀၉**

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း အတွက် ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန(DHPP) နှင့်အနာဂတ် စွမ်းအားကုမ္ပဏီလီမိတက် (လုပ်ငန်းလုပ်ကိုင်သူ)တို့ ချုပ်ဆိုသည့်စာချုပ် (မူကြမ်း) နှင့် စပ်လျဉ်း၍ အောက်ပါ သဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

၁။ စာချုပ် (မူကြမ်း)အရ ဘပ်ဆင်စက်အင်အား ၄၈ မဂ္ဂါဝပ်ရှိသည့် ဘီလူးချောင်း(၃) ရေအား လျှပ်စစ် စီမံကိန်း ကို လုပ်ငန်းလုပ်ကိုင်သူအား တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စနစ် ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် ချုပ်ဆိုခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည် ။

၂။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူမှ ရေအားလျှပ်စစ် စီမံကိန်းအတွက် စူးစမ်း လေ့လာခြင်း၊ စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊ ဒီဇိုင်းရေးဆွဲ ပုံစံထုတ်လုပ်ခြင်း ၊ရေလွှဲ အဆောက်အအုံ ၊ရေသွင်းမြောင်းများ ရေသွယ်ဥမင်လိုဏ်ခေါင်းများ တည်ဆောက်ခြင်း ၊ ရေအား လျှပ်စစ်စက်ရုံ ထိန်းသိမ်း ဆောင်ရွက်ခြင်း နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူ မှ မြေယာအသုံးချမှု ပရီမီယံကြေး သိန်း (၅၀၀) ပေးသွင်းရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ စာချုပ် (မူကြမ်း)အရ DHPP အနေဖြင့် စီမံကိန်း အတွက် မြေအသုံးချရန် ခွင့်ပြုချက် ရရှိရေး၊ လုပ်ငန်းလုပ်ကိုင်ရန် နှင့် ခွင့်ပြုမိန့်များရရှိရေး လျှပ်စစ်ဓါတ်အား ရောင်းချရန် အတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများ နှင့် ညှိနှိုင်းရေး စသည်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ စာချုပ် (မူကြမ်း)တွင် စီမံကိန်းတည်ဆောက်ရေးကာလကို (၄) နှစ် သတ်မှတ်ထားပြီး စာချုပ် သက်တမ်းကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ နှစ်ပေါင်း(၆၀) သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။

၆။ စာချုပ် (မူကြမ်း) အရ မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်သူမှ ပေးရန်ဖြစ်ပြီး [illegible]

၇။ B.O.T (မူကြမ်း) အရ လုပ်ငန်းလုပ်ကိုင်သူထံမှ လုပ်ငန်းဆောင်ရွက်မှု အာမခံရယူရန် သင့် - မသင့် စဉ်းစားသင့် ပါကြောင်း အကြံပြုအပ်ပါသည်။

၈။ စာချုပ်(မူကြမ်း)တွင် **အပိုဒ် ၇(ဆ)(ဈ)၊စ(တ)နှင့် အပိုဒ် ၂၂(က)**တွင် မင်နီဖြင့်မြင်ဆင်ပေးထားကြောင်း‌ဖော်ပြအပ်ပါသည်။

စာချုပ်လက်မှတ်ရေး**ထိုးချုပ်ဆိုပြီးစီးပါက မိတ္တူ (၂)စောင်ကို** ဤဦးစီးဌာနသို့ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
**(မောင်မောင်ခင်-ညွှန်ကြားရေးမှူး)**

အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

<u>ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှုကုမ္ပဏီလီမိတက်ကို ကိုယ်စားပြုသူများစာရင်း</u>

| စဉ် | ဒါရိုက်တာအမည် | ရာထူး | နိုင်ငံသားစိစစ်ရေး ကဒ်ပြားအမှတ် | လိပ်စာ |
|---|---|---|---|---|
| ၁။ | ဦးအိုက်ထွန်း | ဥက္ကဋ္ဌ | မြန်မာ ၁၂/လမတ(နိုင်)၀၁၄၃၀၀ | အမှတ်(၁၄/ခ)၊ မြစ်ကမ်းသာအိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့ |
| ၂။ | ဦးအောင်ဇော်နိုင် | အုပ်ချုပ်မှုဒါရိုက်တာ | မြန်မာ ၁၂/လမတ(နိုင်)၀၂၅၇၅၈ | အခန်း(၁၀၀၃)၊ အိုလံပစ်တာဝါ(၂)၊ မြစ်ကမ်းသာအိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့ |
| ၃။ | ဦးစိုးလှိုင် | ဒုတိယဥက္ကဋ္ဌ | မြန်မာ ၁၃/တကန(နိုင်)၀၀၀၅၈၆ | အမှတ်(၁၀၇)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |
| ၄။ | ဦးဝင်းရှိန် (ခ) ဦးရှင်ပိန်း | ဒါရိုက်တာ | မြန်မာ ၁၃/တကန(နိုင်)၁၂၆၉၄၀ | အမှတ်(၂၀)၊ မြိုင်ဟေဝန်အိမ်ရာ၊ (၈)မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့ |
| ၅။ | ဦးကျော်ခိုင် | ဒါရိုက်တာ | မြန်မာ ၁၂/ကတတ(နိုင်)၀၂၄၇၈၄ | အမှတ်(၆၀)၊ မဟာဗန္ဓုလလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့ |
| ၆။ | ဦးသိန်းဟန် | ဒါရိုက်တာ | မြန်မာ ၁၂/ကမရ(နိုင်)၀၄၄၄၈၇ | အမှတ်(၁၀၅/၇)၊ သံလွင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |
| ၇။ | ဦးအောင်သန်း | ဒါရိုက်တာ | မြန်မာ ၁၂/ပဇတ(နိုင်)၀၂၂၇၅၀ | အမှတ်(၁)၊ ဒဂုံလွင်လမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| ၈။ | ဦးရဲမြင့် | ဒါရိုက်တာ | မြန်မာ ၁၂/တမန(နိုင်)၀၇၃၉၉၇ | အမှတ်(၂)၊ ဒဂုံလွင်လမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| ၉။ | ဦးဝင်းဌေး | ဒါရိုက်တာ | မြန်မာ ၁၂/တမန(နိုင်)၀၇၀၄၀၆ | အမှတ်(၅)၊ ဘုံကျောင်းလမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| ၁၀။ | ဦးဟန်သိန်းလွင် | ဒါရိုက်တာ | မြန်မာ ၁၂/လမတ(နိုင်)၀၀၀၇၈၃ | အမှတ်(၈၁)၊ ပိတောက်လမ်း၊ အေးရိပ်မွန်အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့ |
| ၁၁။ | ဒေါ်စန္ဒာထွန်း | ဒါရိုက်တာ | မြန်မာ ၁၂/လမတ(နိုင်)၀၀၀၀၆၃ | အမှတ်(၁၄/ခ)၊ မြစ်ကမ်းသာအိမ်ရာ၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့ |
| ၁၂။ | ဦးမျိုးနောင် | ဒါရိုက်တာ | မြန်မာ ၁၂/တကန(နိုင်)၁၂၅၀၉၂ | မေခအိမ်ရာ၊ လေးဒေါင့်ကန်လမ်း၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့ |

| စဉ် | ဒါရိုက်တာအမည် | ရာထူး | နိုင်ငံသားစိစစ်ရေး ကဒ်ပြားအမှတ် | လိပ်စာ |
|---|---|---|---|---|
| ၁၃။ | ဦးအိုက်ရီ | ဒုတိယဥက္ကဋ္ဌ | မြန်မာ ၁၃/နခန(နိုင်)၀၃၃၆၉၉ | အမှတ်(၁၇-က)၊ ပြည်လမ်း၊ (၆)မိုင်ခွဲ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့ |
| ၁၄။ | ဦးစိန်မြင့် | ဒါရိုက်တာ | မြန်မာ ၁၃/ကမန(နိုင်)၀၀၉၉၃၉ | အမှတ်(၅၂၀)၊ (၃၉)လမ်းနှင့် လမ်း(၄၀)ကြား၊ လမ်း(၈၀)၊ မဟာအောင်မြေ |
| ၁၅။ | ဦးအောင်ရွှေ | ဒါရိုက်တာ | မြန်မာ ၁၂/ပဘတ(ဧည့်)၀၀၀၃၃၈ | အမှတ်(၂၁၆/၂၂၂)၊ (ဃ-၁)၊ ဘိုမြတ်ထွန်းအိမ်ရာ၊ မဟာဗန္ဓုလလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ |
| ၁၆။ | ဦးအောင်ပြည့်ကျော် | ဒါရိုက်တာ | မြန်မာ ၁၂/တမန(နိုင်)၁၀၅၉၀၆ | အမှတ်(၂)၊ ဒဂုံလွင်လမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| ၁၇။ | ဒေါ်လှလှဝင်း | ဒါရိုက်တာ | မြန်မာ ၁၂/တမန(နိုင်)၀၀၅၅၀၅ | အမှတ်(၅)၊ ဘုံကျောင်းလမ်း၊ တာမွေလေးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် စက်ယန္တရား/ ယာဉ်/ စက်ပစ္စည်းကိရိယာများ

| Sr | Item | Quantity | Amount in Million USD |
|---|---|---|---|
| (A) | **Plants, Machineries and Equipments** | | **14.03** |
| 1 | Jumbo Drill, wheel mounted hydraulic jumbo | 4 | |
| 2 | Air Leg drill | 12 | |
| 3 | Crawler Drill (Hydraulic / Air Compressor types) | 4 | |
| 4 | Load Haul Dump (2.5m$^3$) | 4 | |
| 5 | Tunnel Mucking Machine (0.25-0.5 m$^3$) | 4 | |
| 6 | Rigid Dump Truck (15 t) | 15 | |
| 7 | Mobile Crane (20t / 35t / 50t / 70t) | 5 | |
| 8 | Crawler Crane (50 t) | 2 | |
| 9 | Hydraulic Excavator (1.0m$^3$ / 1.8 m$^3$) | 9 | |
| 10 | Tracked Dozer (300 hp) | 8 | |
| 11 | Air compressor (300-600 cfm) | 3 | |
| 12 | Water supply pump Centrifugal Pump/ Submersible Pumps | 10 | |
| 13 | MAI pump | 3 | |
| 14 | Drainage Pumps ( 200-500 gpm) | 10 | |
| 15 | Crushing Plant (100t/hr) | 1 | |
| 16 | Washing plant (50t/hr) | 1 | |
| 17 | Batching & Mixing Plant (60-125 m$^3$/hr) | 1 | |
| 18 | Track shovel Hyd. Loading Shovel (1.5m$^3$ - 2.0m$^3$) | 2 | |
| 19 | Hydraulic Giant breaker | 4 | |
| 20 | Grout Machine | 3 | |
| 21 | Shotcrete Machine | 3 | |
| 22 | H- Beam Bender (100mm - 200mm) | 1 | |
| 23 | Ventilation Fan (50 kw - 75kw) | 8 | |
| 24 | Telescopic steel form (5mF) | 3 | |
| 25 | Metal Forms for Power House etc. | 1 Lot | |
| 26 | Re-bar cutter (25mm - 40mm) | 4 | |
| 27 | Boring (Drilling) Machine | 2 | |
| 28 | Concrete vibrator (Hand - held immersion type) | 15 | |
| 29 | Generator (100 kVA - 1000kVA) | 7 | |
| 30 | Motor Grader (120 hp) | 2 | |
| 31 | Compaction roller (Vibrating0 (10t / 15t) | 2 | |
| 32 | Welding machine | 7 | |
| 33 | Surveying instrument (Lot) | 10 | |
| | | | |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် စက်ယန္တရား/ ယာဉ်/ စက်ပစ္စည်းကိရိယာများ

| Sr | Item | Quantity | Amount in Million USD |
|---|---|---|---|
| **(B)** | **Heavy Machineries & Vehicles for Transportation** | | **8.53** |
| 1 | Dump Truck (For Tunnel) (6t/7.5t) | 35 | |
| 2 | Cargo truck (5t/10t/15t) | 10 | |
| 3 | Transporter Truck (High Bed) (20t / 40t/60t) | 2 | |
| 4 | Concrete Mixer Truck ($3m^3$ - $9m^3$) | 30 | |
| 5 | Concrete Pump Truck ($100m^3$ /hr) | 3 | |
| 6 | Wheel loader ($2m^3/3.5m^3/4.5m^3$) | 5 | |
| 7 | Sprinkler car (1600 gal / 2000 gal) | 5 | |
| 8 | Prime Mover with Trailer (350 hp) | 2 | |
| 9 | Forklift (2t) | 2 | |
| 10 | Station Wagon 4 x 4 | 15 | |
| 11 | Double Cab 4 x 4 | 5 | |
| 12 | Wagon 7 Seater | 5 | |
| 13 | Bus | 5 | |
| | **Total** | | **22.56** |

မှတ်ချက်။

၁။ စက်တန်ဖိုးအသေးစိတ်စာရင်းအတွက် ပစ္စည်းအမှန်ဝယ်ယူသည့်အချိန်တွင် ရရှိလာမည့် Quotation အား ဆက်လက်တင်ပြသွားပါမည်။

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် မော်တော်ယာဉ်များ၏ အသေးစိတ်စာရင်း

| No. | Type | Specification | Model | Qty | Price (USD) | Amount (USD) |
|---|---|---|---|---|---|---|
| 1 | Station Wagon ( 4 x 4 ) | Toyota Landcruser / Lexus 4 WD Off Road Wagon | 2008 & Up | 15 | 60,000 | 900,000 |
| 2 | Double Cab ( 4 x 4 ) | Toyota Hilux Double Pick up 4 WD | 2008 & Up | 5 | 15,000 | 75,000 |
| 3 | Wagon (7 Seater) | Toyota Wagon ( 7 Seater) | 2008 & Up | 5 | 60,000 | 300,000 |
| 4 | Bus | Toyota Coaster Mini Bus | 2008 & Up | 5 | 40,000 | 200,000 |
| | **Total** | | | | | **1,475,000** |

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘ၁ - ၁ / ၂၃၄ (၂၁၂၇/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့
ဝန်ကြီး
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက် ။ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၅၇-လျှပ်စစ်၁(၂)/၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား (B.O.T) (Build Operate and Transfer) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ်(၅)အရ လျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀)အား ပဋိညာဉ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း (၂၅၀)နှင့် လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀)ကို အနာဂတ်စွမ်းအားကုမ္ပဏီက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ ပေးအပ်ရန်ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ်(၆၀)အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း(၅၀၀)သာ ရရှိမည်ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ခ)တွင် ပဋိညာဉ်စာချုပ် သက်တမ်းကာလအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဟုဖော်ပြထားရာ ယခင် B.O.T စနစ်ဖြင့်ဆောင်ရွက်ခဲ့သည့်လုပ်ငန်းစီမံကိန်းများတွင် B.O.T ၏သက်တမ်းအား နှစ်(၃၀)မှ (၃၅) နှစ်အထိသာ ခွင့်ပြုလေ့ရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ဂ)တွင်ပဋိညာဉ်၏သက်တမ်းအားတိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့် ယခုပဋိညာဉ်၏ သက်တမ်းအား ကနဦးနှစ်(၃၀)သာ ခွင့်ပြု၍

hlu/1-274(scp)- 2

နောက်ထပ်သက်တမ်း ထပ်မံတိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုခြင်းသာလျှင် သင့်လျော်မည်ဟု ယူဆပါသည်။

(ဂ) အဆိုပါပဋိညာဉ်စာချုပ်(မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ ထည့်သွင်းဖော်ပြထားခြင်းမရှိသည့်အတွက် သဘောထားမှတ်ချက်ပြုရန်မရှိပါ။ သို့ရာတွင်လုပ်ငန်းဆောင်ရွက်ပေးခြင်းအတွက် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သို့စာချုပ်အရပေးချေသည့်တန်ဖိုးအပေါ်တွင်လည်းကောင်း၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်ကလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ တစ်ဆင့်ခံဆောင်ရွက်စေခြင်းအတွက် ပေးချေသည့်တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင် လည်းကောင်း ပင်ရင်းမှ နုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် (Withholding Tax)ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဃ) ထို့အပြင် စီမံကိန်းလုပ်ငန်းအတွက် ပြည်တွင်းပြည်ပမှငှားရမ်းသည့် အတိုင်ပင်ခံများ၊ကျွမ်းကျင်သူများ၊ဝန်ထမ်းများအား ထုတ်ပေးသည့် လစာခေါင်းစဉ်မှ ဝင်ငွေခွန်ကိုနုတ်ယူဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။ စီမံကိန်းတည်ဆောက်ပြီးစီး၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသဖြင့် ရရှိသည့်ရောင်းရငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့်လုပ်ငန်းမှရရှိသည့်အသားတင်အမြတ်ဝင်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းနှင့်အမိန့်ကြော်ငြာစာများနှင့်အညီပေးဆောင်ရန်တာဝန်ရှိပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးကြီးလှသိန်းဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

hh/1-274(scp)- 3

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး
နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၁၃ /နပတ( ၃၂၉ )
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ စက်တင်ဘာလ ၁၆ ရက်

အကြောင်းအရာ။ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင် ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း

ရည် ညွှန်း ချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂ - ၉-၂၀၀၉ ရက်စွဲပါစာအမှတ် ၁၅၇-လျှပ်စစ် ၁(၂)/ ၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့အကြားဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအားB.O.T(တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင်နိဒါန်းအပိုင်း၌ရည်ညွှန်းထားသောပူးတွဲ(၁)မှာမြေပုံပူးတွဲပါရှိခြင်း မရှိပါ။ ယင်းနောက်ဆက်တွဲသည်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲများကို ပြည့်စုံစွာပူးတွဲထားရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် မြေအသုံးချမှုပရီမီယံ(Land Use Premium) ပါရှိသော်လည်း မြေငှားရမ်းခမပါရှိသဖြင့် ဌာနအနေဖြင့်ရယူလိုခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံငွေရယူထားခြင်းမရှိသဖြင့် လုပ်ငန်းအာမခံရယူရန်သင့်မသင့်စဉ်းစားသင့်ပါသည်။လုပ်ငန်းအာမခံငွေထားရှိလျှင် ယင်း၏ဘဏ်အာမခံ

ပုံစံအားစာချုပ်တွင် ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာစံညွှန်းဟု ဖော်ပြထားရာ နောင်အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဂ)တွင် ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကိုဝန်ကြီးဌာနမှခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်ကြောင်းဖော်ပြထားရာ မည်သည့်ဝန်ကြီးဌာနဖြစ်ကြောင်းကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဇ)ပါ လုပ်ငန်းခွင့်ပြုသူအချိန်တိုးပေးခြင်းနှင့်စပ်လျဉ်းသည့် ကိစ္စရပ်မှာလုပ်ငန်းခွင့်ပြုသူနှင့် သက်ဆိုင်သဖြင့်လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ခေါင်းစဉ် အောက်သို့ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဏ)တွင်ဖော်ပြထားချက်မှာ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် သက်ဆိုင်သဖြင့်စာချုပ်သက်တမ်းခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၉(က)တွင်လုပ်ငန်းစတင်သည့်နေ့ကိုလုပ်ငန်းခွင့်ပြုသူမှလုပ်ငန်း စတင်ရန်အကြောင်းကြားစာကိုလုပ်ငန်းလုပ်ကိုင်သူမှလက်ခံရရှိသည့်နေ့ဟုဖော်ပြထားရာနောင်အငြင်းပွားမှုပေါ်ပေါက်နိုင်သဖြင့်ယင်းနေ့ကိုအတိအကျသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၁၆ လုပ်ငန်းလုပ်ကိုင်သူ၏ပျက်ကွက်မှုနှင့်ပတ်သက်၍အပိုဒ်(ခ) ပါအတိုင်း လုပ်ငန်းလုပ်ကိုင်သူသည် သတ်မှတ်ကာလကျော်လွန်မှ စာချုပ်လုပ်ငန်းများ ကိုဆောင်ရွက်ပြီးစီးပါက ဌာနအနေဖြင့် ရက်လွန်ကြေး၊ ဒဏ်ကြေးရယူရန်သင့် မသင့် စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၈(ဃ)၌ စာချုပ်ရပ်စဲခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်းကြောင့်ဖြစ်ပါက မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မည်သည့်ကာလအထိ ဆက်တိုက်ဖြစ်ပေါ်ခြင်းကို ဆိုလိုကြောင်းကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်ညှိနှိုင်းသတ်မှတ်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)၌ စာချုပ်ကာလမှာလျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးသည့် နေ့ရက်မှစတင်ကြောင်းဖော်ပြထားရာ နောင် နှစ်ဖက်အငြင်းပွားမှုမဖြစ်စေရန် " စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" သည် မည် သည်ကိုဆိုလိုကြောင်းအဓိပ္ပာယ်ဖွင့်ဆိုချက်များတွင်ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)ပါစာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစ၍ နှစ်ပေါင်း ၆၀ ဖြစ်သဖြင့် စာချုပ်အကျိုးသက် ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက် မတိုင်မီအထိ စာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမရှိသည်ကို သတိမူသင့် ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)တွင် B.O.T စာချုပ်များတွင်ပါလေ့ရှိသော သယံဇာတပစ္စည်းတွေ့ရှိ ခြင်းစာပိုဒ်ပါရှိလာခြင်းမရှိသည့်အတွက် ယင်းစာပိုဒ်အားမင်နီဖြင့် ရေးသားပေးလိုက်ပါ သည်၊

(ဇ) စာချုပ်(မူကြမ်း)တွင် လွှဲပြောင်း၍မရနိုင်သောအခွင့်အရေးစာပိုဒ်မပါရှိသဖြင့် ရေးသား ပေးလိုက်ပါသည်၊

(ဈ) စာချုပ်သက်တမ်းအတွင်း လျှပ်စစ်ဓါတ်အားခနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ရယူရန် အစီအစဉ်ရှိ မရှိ၊ ရယူပါက မည်သို့ရယူမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(ည) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကပ်သင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်သူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

C:\Documents and Settings\user\UKMT\Future Energy(EPC 1)(9-9-09)doc.doc

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ဋ္ဌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၁)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၆.၉.၀၉

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

C:\Documents and Settings\user\UKMT\Future Energy(EPC 1)(9-9-09)doc.doc

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြား

ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စီမံကိန်းအား

**B.O.T**

(တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်

၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာလ

ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်**

**လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန နှင့်**

**အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်**

**တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်**

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၉ခုနှစ်၊ ဒီဇင်ဘာလ၊ (၃၁)ရက်နေ့၌ **ညွှန်ကြားရေးမှူးချုပ်၊ ဦးကြီးစိုး** ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အဆောက်အဦ အမှတ်(၃၈)၊ နေပြည်တော် (ဤမှနောင်တွင် **"လုပ်ငန်းခွင့်ပြုသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

**အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးအောင်ဇော်နိုင်** ကိုယ်စားပြုသောပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် **အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်** အမှတ် ၅၈၄၊ ဟိုင်းတက်တာဝါ၊ ပထမထပ်၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်သူ"**ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

**"လုပ်ငန်းလုပ်ကိုင်သူ"** သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆) မိုင်ခန့် အကွာရှိ နောက်ဆက်တွဲ(၁)မြေပုံပါ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓါတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၃၃၄) ထွက်ရှိမည့်၊ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်း (ဤမှနောင်တွင် **"လျှပ်စစ်စီမံကိန်း"** ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့်လုပ်ငန်း၏ အကျိုးခံစားခွင့်များကို စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည်-

အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ"** ဆိုသည်မှာ ဤ **"လျှပ်စစ်စီမံကိန်း"** ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည်ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) **"အမြတ်မဲ့လုပ်ငန်းများ"** ဆိုသည်မှာ ဤစာချုပ်ပါ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သောပုံစံပြု၍ ဆောင်ရွက်ရမည့် အမြတ်မဲ့လုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) **"တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ်-၈ (၃) အရ **"လုပ်ငန်းလုပ်ကိုင်သူ"**ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ဃ) **"စက်ရုံ၊ အလုပ်ရုံ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ **"လုပ်ငန်းလုပ်ကိုင်သူ"** မှ ဤ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သော အမြတ်မဲ့ လုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) **"လုပ်ငန်းခွင်နေရာ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏နေရာများ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) **"စာချုပ်"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) "လျှပ်စစ်ဓါတ်အား" ဆိုသည်မှာ "လျှပ်စစ်စီမံကိန်း"မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို ဆိုလိုသည်။

(ဇ) **“စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း”** ဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေးစက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်ထုတ်လုပ်ရောင်းချ ပေးခြင်းကို ဆိုလိုသည်။

**အာမခံချက်နှင့်ကိုယ်စားပြုခြင်း**

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူ ဖြစ်ကြောင်းနှင့် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသူများ ဖြစ်ကြောင်း အာမခံပါသည်။ **“လုပ်ငန်းလုပ်ကိုင်သူ”** သည် ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှုရှိသူဖြစ်ကြောင်း အာမခံပါသည်။

**ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်**

၃။ ဤ **“လျှပ်စစ်စီမံကိန်း”** လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊

(ခ) ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီး ထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကိုပူးပေါင်း၍ ရေသွင်းတံခါးမှတစ်ဆင့် အမိက ဥမင်လိုဏ်ခေါင်း (Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း၊

(ဂ) ဘီလူးချောင်းမှရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း၊

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား (၄.၃)ကီလိုမီတာ၊ အကျယ် (အချင်း) (၄.၉) မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း၊

(င) အမိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ (၅၀,၀၀၀) ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပို့လွှဲ၊ ရေငြိမ်ကန်များ တည်ဆောက်ခြင်း၊

(စ) အလျား (၁၈၈) မီတာနှင့် အကျယ် (အချင်း) (၃.၈) မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း၊

(ဆ) ဖရန်စစ်အမျိုးအစား (၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများတပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ (Surface Type Power House) တည်ဆောက်ခြင်း၊

(ဇ) စက်ရုံမှထွက်လာသည့်ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း၊

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ (၁)ခုတည်ဆောက်ခြင်း၊

(ည) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ အမှတ် (၂) ရေအားလျှပ်စစ်စက်ရုံသို့ (၄. ၅)ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီလျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း၊

(ဋ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ် (၂) ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း၊

(ဌ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း၊

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း၊

(ဎ) လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း၊

**အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် (Concession Rights)**

၄။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း"ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းပေါ်နှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" က ဆောင်ရွက်ပေးရမည်။

**မြေအသုံးချမှု ပရီမီယံ (Land Used Premium)**

၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် "လုပ်ငန်းခွင့်ပြုသူ" အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည် -

(က) ဤပဋိညာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) **"လျှပ်စစ်စီမံကိန်း"**၏ တည်ဆောက်ရေးကာလပြီးနောက် **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

**စံချိန်စံညွှန်းများ**

၆။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" လုပ်ငန်းကို အဆင့်ဆင့် ဆောင်ရွက်ရာတွင် "လုပ်ငန်းခွင့်ပြုသူ" မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို

အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များ အတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

**"လုပ်ငန်းခွင့်ပြုသူ"၏တာဝန်များ**

၇။ "လုပ်ငန်းခွင့်ပြုသူ"၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းခွင့်ပြုသူ" သည် **"လျှပ်စစ်စီမံကိန်း"** ၏ ပဋိညာဉ်စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) "လုပ်ငန်းခွင့်ပြုသူ" သည် **"လျှပ်စစ်စီမံကိန်း"** အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "လုပ်ငန်းခွင့်ပြုသူ" သည် **"လျှပ်စစ်စီမံကိန်း"** အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက်ပေးရမည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ" သည် ဆိုခဲ့သည့် **"လျှပ်စစ်စီမံကိန်း"** အတွက် လိုအပ်မည့်မြေနေရာသုံးစွဲခွင့်ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) "လုပ်ငန်းခွင့်ပြုသူ" သည် **"လျှပ်စစ်စီမံကိန်း"** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) "လုပ်ငန်းခွင့်ပြုသူ" သည် **"လျှပ်စစ်စီမံကိန်း"** အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **"လျှပ်စစ်စီမံကိန်း"** အတွက် "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်းကိစ္စရပ်များကိုလည်းကောင်း၊ "လုပ်ငန်းခွင့်ပြုသူ" မှ ကူညီ ဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက

"လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြား သဘောတူညီချက် စာချုပ်များချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဈ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို "လုပ်ငန်းလုပ်ကိုင်သူ" မှ သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ညှိနှိုင်းစီစဉ်ဆောင်ရွက်ပေးရမည်။

(ည) "လုပ်ငန်းလုပ်ကိုင်သူ" သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကိုပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းခွင့်ပြုသူ" ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ "လုပ်ငန်းခွင့်ပြုသူ" သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

**"လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ**

၈။ "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်း ပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်းမှဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကို အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(င) “လုပ်ငန်းလုပ်ကိုင်သူ” သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(စ) “လုပ်ငန်းလုပ်ကိုင်သူ”သည် “လျှပ်စစ်စီမံကိန်း” ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက အဆိုပြုချက် အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ။

(ဆ) “လုပ်ငန်းလုပ်ကိုင်သူ” သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) “လျှပ်စစ်စီမံကိန်း” လုပ်ငန်းဆောင်ရွက်ရာတွင် “လုပ်ငန်းလုပ်ကိုင်သူ” သည် သစ်တော ဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဈ) “လုပ်ငန်းလုပ်ကိုင်သူ” သည် “လုပ်ငန်းခွင့်ပြုသူ” ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက် မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ။

(ည) “လုပ်ငန်းလုပ်ကိုင်သူ” သည် “လုပ်ငန်းခွင့်ပြုသူ” မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဋ) “လုပ်ငန်းလုပ်ကိုင်သူ” သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် ကာလအတွင်း “လျှပ်စစ်စီမံကိန်း”ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဌ) “လုပ်ငန်းလုပ်ကိုင်သူ” ၏ “လျှပ်စစ်စီမံကိန်း” မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ဍ) “လုပ်ငန်းလုပ်ကိုင်သူ” သည် “လျှပ်စစ်စီမံကိန်း” ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့်

ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် **"လုပ်ငန်းလုပ်ကိုင်သူ"** က တာဝန်ယူရမည်။

(ဃ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်းချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဏ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည်သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများပေးဆောင်ရမည်။

**နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ**

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည် -

(က) **"လုပ်ငန်းစတင်သည့်နေ့"** မှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးသည့်နေ့ ဖြစ်ပါသည်။

(ခ) **"တည်ဆောက်ရေးကာလ"** ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) **"နေ့ရက်"** ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ **"နှစ်"** ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) **"အကျိုးသက်ရောက်သည့်နေ့"** မှာ **"လုပ်ငန်းခွင့်ပြုသူ"**၏ တရားဝင် အကြောင်းကြားချက်အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုးသက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေး ကာလတိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

**လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း**

၁၀။ ဤစာချုပ်၏ **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

**သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၁၁။ "လုပ်ငန်းလုပ်ကိုင်သူ" သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသော မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက "လုပ်ငန်းခွင့်ပြုသူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံပိုင် ပစ္စည်းများ ဖြစ်စေရမည်။ "လုပ်ငန်းခွင့်ပြုသူ" သည် အဆိုပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

**လုပ်ငန်းတန်ဖိုး**

၁၂။ ဤစာချုပ် ချုပ်ဆိုသည့် **"လျှပ်စစ်စီမံကိန်း"** ၏ ခန့်မှန်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၁၀၄,၈၀၈. ၆၃) (ကျပ် တစ်သိန်းလေးထောင် ရှစ်ရာရှစ် ဒသမ ခြောက်သုံးသန်း) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန် ဒေါ်လာသန်းပေါင်း(၈၂. ၆၇) (အမေရိကန်ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနစ်သန်း) ဖြစ်ပါသည်။

**လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု**

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၆)လအတွင်း "လုပ်ငန်းခွင့်ပြုသူ"ထံ တင်သွင်းရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လစဉ် တိုးတက်မှုအစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး "လုပ်ငန်းခွင့်ပြုသူ" ထံ တင်သွင်းရမည်။

**စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း**

၁၄။ **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်း ဆောင်ရွက်မှု အစရှိသည်တို့ကို "လုပ်ငန်းခွင့်ပြုသူ" က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ "လုပ်ငန်းခွင့်ပြုသူ" ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက "လုပ်ငန်းခွင့်ပြုသူ" က ကန့်ကွက်နိုင်သည့်အပြင် "လုပ်ငန်း လုပ်ကိုင်သူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ " လုပ်ငန်းလုပ်ကိုင်သူ" သည် ချို့ယွင်းချက်ကို (၁)လ အတွင်းကောင်းစွာ

ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

**မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန်လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်နေသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ဆိုင်းငံ့ထားနိုင်သည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

**လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု**

၁၇။ "လုပ်ငန်းလုပ်ကိုင်သူ"၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါလုပ်ငန်းကို ပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်းမပြုလျှင်၊ "လုပ်ငန်းခွင့်ပြုသူ"မှ အဆိုပါ

ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ"သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ကျန်ရှိသောလုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းတန်ဖိုး၏ ၀.၅% အား ရက်သတ္တတစ်ပတ် နောက်ကျတိုင်း "လုပ်ငန်းခွင့်ပြုသူ" ထံပေးဆောင်ရန်နှင့် ထိုသို့ပေးဆောင်မှုသည် ကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းများ၏ စုစုပေါင်း တန်ဖိုး၏ ၅%ကို မကျော်လွန်စေရပါ။ ထို့အပြင် "လုပ်ငန်းခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်သူ" ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟု ယူဆပါက စာချုပ်လုပ်ငန်းအား လုပ်ငန်းခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါက လည်းကောင်း၊ ဤစာချုပ် "လုပ်ငန်းခွင့်ပြုသူ" မှ သိမ်းယူပါက လည်းကောင်း၊ တတိယ အဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော "လုပ်ငန်းလုပ်ကိုင်သူ" ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့်ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်မှု ရှိသည်။

ပြောင်းလဲခြင်းများ

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင် ပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို "လုပ်ငန်းခွင့်ပြုသူ" ထံမှအတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် ပုံစံပြုလွှာအသစ်၊ လုပ်ငန်း အစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် "လုပ်ငန်းလုပ်ကိုင်သူ" ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) "လုပ်ငန်းခွင့်ပြုသူ" မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြု အမိန့်များ (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) "လုပ်ငန်းခွင့်ပြုသူ" သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းကို မဆို "လုပ်ငန်းလုပ်ကိုင်သူ" အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည့်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ "လုပ်ငန်းလုပ်ကိုင်သူ" ၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) "လုပ်ငန်းခွင့်ပြုသူ" သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင် သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက်ရှိအောင် ဆက်လက် ဆောင်ရွက်ပေးရမည်။

**ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း**

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်-

( က ) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လ ကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း၊

( ခ ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

( ဂ ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) (၁၂) လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း။

( င ) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် **မြန်မာနိုင်ငံ** ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

ပြင်ဆင်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၂၂။ ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဤပဋိညာဉ်စာချုပ်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီးစာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အား နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍နောက်ထပ် နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လကြိုတင်၍ စာချုပ်ဝင် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် ပဋိညာဉ်စာချုပ်သက်တမ်း တိုးမြှင့်နိုင်သည်။

(ဃ) **"လုပ်ငန်းခွင့်ပြုသူ"** မှ ခွင့်ပြုထားသော **"လျှပ်စစ်စီမံကိန်း"** ၏စာချုပ်ပါ လုပ်ငန်း ကာလ ပြည့်ပြီးနောက် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်ပြ လျှောက်ထားရမည်။

**ခွင့်ပြုလွှဲအပ်ခြင်း**

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

**အာမခံထားရှိခြင်း**

၂၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

**အထွေထွေကိစ္စရပ်များ**

၂၆။ (က) တရားမဝင်ခြင်း။ ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင် လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) **ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း ။** ။ စာချုပ်ရုပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာကာလအတွင်း စာချုပ်ပါမြေနှင့် **"လျှော်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံထားသောပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနား မပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ထံ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) **လွှဲပြောင်း၍မရနိုင်သောအခွင့်အရေး။** ။ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်း ပိုင်ဆိုင်ခွင့်နှင့် မူလဘူတ အခွင့်အရေးကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတ ဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက်အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

(င) **တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။** ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ (၉) အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ထမ်းဆောင်ရမည် ဖြစ်ပါသည်။

(စ) **အကြောင်းကြားစာများ။** ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှ တစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှုမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်

လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှနောင်တွင် **"အကြောင်းကြားစာ"** ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက် မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှ ပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိတ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဆ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**ဆက်သွယ်ရန်လိပ်စာများ**

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

**ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန**
**ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် - ၀၆၇-၄၁၁၀၆၇**

**နှင့်**

**အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်**
**အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့၊**
**ဖက်(စ်)အမှတ် -(၉၅)-၁-၂၁၁၆၉၆, ၂၁၁၉၅၇**

**နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း**

၂၈။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှုစာချွန်လွှာကို ဤပဋိညာဉ် စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

**စာချုပ်လက်မှတ်ရေးထိုးခြင်း**

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ၊ -၃၇-- ရက်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန (ကိုယ်စား)

(ဦးကြီးစိုး)

ညွှန်ကြားရေးမှူးချုပ်

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

(ဦးအောင်ဇော်နိုင်)

အုပ်ချုပ်မှုဒါရိုက်တာ

<u>အသိသက်သေများ</u>

| | | | |
|---|---|---|---|
| အမည် | ၊ ဦးဘုန်းမြင့် | အမည် | ၊ ဦးရဲမြင့် |
| ရာထူး | ၊ ဒုတိယညွှန်ကြားရေးမှူးချုပ် | ရာထူး | ၊ ဒါရိုက်တာ |
| ဌာန | ၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန | ဌာန | ၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် |

နောက်ဆက်တွဲ (၁)

## ဘီလူးချောင်း (၃) ရေအားလျှပ်စစ်စီမံကိန်းတည်နေရာပြပုံ



**Future Energy Co., Ltd.**
**Baluchaung No.(3) Hydropower Project**
**Summary of Financial Information**

| No. | Item | Value | Unit | | | |
|---|---|---|---|---|---|---|
| 1 | Selling Price (Kyat/kw) | 50 | kyat/kw | (every 3 years incremental by 1.5%) | | |
| 2 | Annual Energy Output | 334,000,000 | kw/year | Sellable Energy | 317,300,000 | kw/year |
| 3 | Construction Period | 4 | Years | | | |

4 **Investment**

| | Kyat Portion | % | USD Portion | % | Equivalent to Kyat | Total Investment |
|---|---|---|---|---|---|---|
| Equity | 82,308.81 | 78.91% | 53.87 | 65.16% | 323.25 | **82,632.06** |
| Loan | 22,003.80 | 21.09% | 28.80 | 34.84% | 172.80 | **22,176.60** |
| **Total Investment** | **104,312.61** | **100.00%** | **82.67** | **100.00%** | **496.05** | **104,808.66** |
| Investment Ratio | 34.35% | 29.95% | 20.27% | 15.43% | **100%** | |

5 **Loan**

| | Kyat Portion | % | USD Portion | % | Equivalent to Kyat |
|---|---|---|---|---|---|
| Loan Drawdown Rate | 34.35% | 29.95% | 20.27% | 15.43% | **100%** |

| | Local Loan | Foreign Loan |
|---|---|---|
| Loan Interest | 15% | 5.5% |
| Loan Repayment | | |
| (a) Construction Period (Years) | 4 | 4 |
| (b) Grace Period (Years) | 1 | 1 |
| Loan Payback Period (Years) | 10 | 10 |

6 **Government**

| | Amount | % |
|---|---|---|
| Commercial Tax (Kyat) | 83,291,250,000.00 | 15% |
| Income Tax (Kyat) | 129,097,331,512.08 | 23% |
| | **212,388,581,512.08** | **38%** |

7 **Investor**

| | Amount | % |
|---|---|---|
| Net Profit | **348,765,635,140.16** | **62%** |

| No. | Item | Value |
|---|---|---|
| 8 | Depreciation for Tunnel & Intake | 60 Years |
| | Depreciation for Other Investment | 30 Years |
| 9 | Recoupment Year | 15 Years 11 Months |
| 10 | IRR | 7.37% |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၂၆၅ / ၂၀၀၈- ၂၀၀၉

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ဖျူချာ အင်နာဂျီ ကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၈ ခုနှစ် ဇွန် လ ၆ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL, PRODUCTION

ခင်စိုး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

## CERTIFICATE OF INCORPORATION

NO. 265 of 2008 2009

I hereby certify that FUTURE ENERGY COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this SIXTH day of JUNE, TWO THOUSAND AND EIGHT.

စက်ရုံ အလုပ်ရုံ တည်ရှိရာအရပ်သည်
စက်မှုလက်မှုဇုန်တွင် ဖြစ်စေရမည်။
(သို့မဟုတ်) လူနေရပ်ကွက်နှင့် ကင်း
လွတ်ရာ အရပ်၌ ဖြစ်စေရမည်။

KHIN SOE
DIRECTOR GENERAL
Directorate of Investment and Company Administration,
Registrar of Joint Stock Companies
Companies Registration Office

# FORM XXVI
## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN
(Myanmar Companies Act, See Section 87)

Name of Company : Future Energy Co., Ltd.

Presented by : U Aung Zaw (Managing Director)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Aik Htun | Myanmar 12/LaMaTa (Naing)014300 | No.14/B, River View Garden Housing, Sin Min Quarter, Ahlone Township, Yangon. | Merchant | Chairman |
| 2. U Aung Zaw Naing | Myanmar 12/LaMaTa (Naing)025758 | Room No.1003, Olympic Tower II, River View Garden Housing, Sin Min Quarter, Ahlone Township, Yangon. | Merchant | Managing Dierctor |
| 3. U Soe Hlaing | Myanmar 13/TaKaNa (Naing)000586 | No.107, University Avenue Road, Kamayut Township, Yangon. | Merchant | Vice-Chairman |
| 4. U Win Shein(a) U Shwin Pain | Myanmar 13/TaKaNa (Naing)126940 | No.20, Myaing Hay Wun Housing, 8th Miles, Mayangone Township, Yangon. | Merchant | Director |
| 5. U Kyaw Khaing | Myanmar 12/KaTaTa (Naing)024784 | No.640, Mahabandoola Street, Latha Township, Yangon. | Merchant | Director |

NOTE :
(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..............................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this 7-5-09

Signature ..................

Designation Aung Zaw Naing
Managing Director
Future Energy Co., Ltd.

# FORM XXVI
## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN
(Myanmar Companies Act, See Section 87)

Name of Company : Future Energy Co.,Ltd.

Presented by : U Aung Zaw Naing (Managing Director)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 6. U Thein Han | Myanmar 12/KaMaYa (Naing)044487 | No.105/7, Than Lwin Street, Kamayut Township, Yangon. | Merchant | Director |
| 7. U Aung Than | Myanmar 12/PaZaTa (Naing)022750 | No.1, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 8. U Ye Myint | Myanmar 12/TaMaNa (Naing)073997 | No.2, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 9. U Win Htay | Myanmar 12/TaMaNa (Naing)070406 | No.5, Bonekyone Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 10. U Han Thein Lwin | Myanmar 12/LaMaTa (Naing)000783 | No.81, Padauk Street, Aye Yeik Mon Housing, Hlaing Township, Yangon. | Merchant | Direcor |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this 7-5-09

Signature ............
Aung Zaw Naing
Designation Managing Director
Future Energy Co., Ltd.

# FORM XXVI
## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN
(Myanmar Companies Act, See Section 87)

Presented by : U Aung Zaw Naing (Managing Director)

Name of Company : Future Energy Co.,Ltd.

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 11. Daw Sandar Htun | Myanamr 12/LaMaTa (Naing)000063 | No.14/B, River View Garden Housing, Sin Min Quarter, Ahlone Township, Yangon. | Merchant | Director |
| 12. U Myo Naung | Myanmar 12/TaKaNa (Naing)125092 | Maykha Housing, Laydauntkan Road, Thingungyun Township, Yangon. | Merchant | Director |
| 13. U Aik Yee | Myanmar 13/NaKhaNa (Naing)033699 | No.17-A, Pyay Road, 6 ½ Mile, Hlaing Township, Yangon. | Merchant | Vice-Chairman |
| 14. U Sein Myint | Myanmar 13/Ka Ma Na (Naing)009939 | No.520, Bet:39&40 Street 80 Street, Maha Aung Myay | Merchant | Director |
| 15. U Aung Shwe | Myanmar 12/Pa Ba Ta (Ei)000338 | No.216/222, D-1, Bo Myat Tun Housing, Mahabandoola Road, Pazundaung Township, Yangon. | Merchant | Director |

NOTE :
(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ......................................" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this ....7-5-09....................

Signature ..............
Aung Zaw Naing

Designation ....Managing Director....
Future Energy Co., Ltd.

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : Presented by :

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 16. U Aung Paye Kyaw | Myanmar 12/TaMaNa (Naing)105906 | No.2, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 17. Daw Hla Hla Win | Myanmar 12/TaMaNa (Naing)005505 | No.5, Bonekyone Street, Tamwelay Quarter. Tamwe Township, Yangon. | Merchantq | Director |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..................... and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..............................

Dated this .............................................. Designation .............. Aung Zaw Naing
Managing Director
Future Energy Co., Ltd.

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂) /၉၉၅ / ၂၀၁၀
ရက်စွဲ ၊ ၂၀၁၀ခုနှစ်၊ ဖေဖော်ဝါရီလ (၂၅) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အမှာစာ**

အကြောင်းအရာ။ **အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လိုက်လျောခွင့်များ၊ ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်များ အားအတည်ပြု ပေးပါရန်နှင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြု ပါရန်တင်ပြခြင်း**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတအရင်းအမြစ်များကို အကျိုးရှိစွာအသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိရာတွင် "ပြည်တွင်းပြည်ပမှအတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ရေအားလျှပ်စစ်စီမံကိန်းများအား ပြည်တွင်းတိုင်းရင်းသားလုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်လျက်ရှိပါသည်။

၂။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း(၃၃၄) ထွက်ရှိမည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် ယခင် (B.O.O) စနစ်ဖြင့် ဆောင်ရွက်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၂/၂၀၀၈)အစည်းအဝေး သဘောတူညီချက် **(နောက်ဆက်တွဲ-က)**အရ (၂.၅.၂၀၀၈)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သော နားလည်မှု စာချွန်လွှာ **(နောက်ဆက်တွဲ-ခ)** အား ပြင်ဆင်၍ ပဋိညာဥ်စာချုပ် (မူကြမ်း)အား နှစ်ဖက်ညှိနှိုင်း ပြုစုခဲ့ကြပါသည်။

၃။ ညှိနှိုင်းပြုစုထားသော ပဋိညာဥ်စာချုပ်(မူကြမ်း)အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်အနေဖြင့် ဆောင်ရွက်မည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း။

(ခ) ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီးထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း(Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း။

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲ အဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း။

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား(၄.၃)ကီလိုမီတာ၊ အကျယ်(အချင်း)(၄.၉)မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်း ကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း။

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ(၅၀,၀၀၀)ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များတည်ဆောက်ခြင်း။

(စ) အလျား(၁၈၈)မီတာနှင့် အကျယ်(အချင်း)(၃.၈)မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း။

(ဆ) ဖရန်စစ်အမျိုးအစား(၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက်(၂)လုံးနှင့် ဆက်စပ် ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ(Surface Type Power House) တည်ဆောက်ခြင်း။

(ဇ) စက်ရုံမှထွက်ရှိလာသည့် ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း။

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ(၁)ခု တည်ဆောက်ခြင်း။

(ည) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ်(၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅) ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီ လျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း။

(ဋ) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း။

(ဌ) ရုံးအဆောက်အဦးနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း။

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်းမောင်းနှင်ခြင်း။

(ဎ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း။

၄။ စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၁၀၄,၈၀၈.၆၃ (ကျပ် တစ်သိန်း လေးထောင် ရှစ်ရာရှစ် ဒသမ ခြောက်သုံးသန်း)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း (၈၂.၆၇) (အမေရိကန် ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနှစ်သန်း) ဖြစ်ပါသည်။ စီမံကိန်းတည်ဆောက်ရေး ကာလမှာ(၄)နှစ်ဖြစ်ပြီး စုစုပေါင်းလုပ်ပိုင်ခွင့်ကာလမှာ လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ အထူးကိစ္စတစ်ရပ်အနေဖြင့် **နှစ်ပေါင်း(၆၀)**ပေးအပ်ရန်ဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလအား ဆက်လက်တိုးမြှင့်လိုပါက စည်းမျဉ်းစည်းကမ်းချက်များနှင့် အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြ၍ **(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်** သက်တမ်း တိုးမြှင့်နိုင်မည့် အခွင့်အလမ်းတစ်ရပ်ကို ပေးအပ်ရန်ဖြစ်ပါသည်။ ယခုအခါ စီမံကိန်းလုပ်ငန်းများအား အရှိန်အဟုန်မြှင့် ဆောင်ရွက်လျှက်ရှိရာတွင် ၂၀၁၀ခုနှစ်၊ ဇန်နဝါရီလ စုစုပေါင်း (၁၅.၆၄) ရာခိုင်နှုန်းအထိ လုပ်ငန်းများ ပြီးစီးပြီ ဖြစ်ပါသည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် **စုစုပေါင်းကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)** ကို အောက်ပါအတိုင်း ပေးအပ်မည်ဖြစ်ပါသည်-

(က) ပဋိညာဉ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း(၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ ) ကို ပေးအပ်ရန်။

(ခ) တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓာတ်အားဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီဖြန့်ဖြူး ရောင်းချမည်ဖြစ်ပါသည်။

၇။ အဆိုပြုစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမည့် ငွေများအနက်မှ နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း(၂၈.၈)ကို မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူမည်ဖြစ်ပြီး ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၂၂၀၀၃.၈)ကို နိုင်ငံတော်ဘဏ်တစ်ခုခုမှ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ခွင့်ပြုပါက နှစ်ရှည်စီမံကိန်းချေးငွေအဖြစ်ရယူပြီး စီမံကိန်းကို ရင်းနှီးမြှုပ်နှံ အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။ ချေးငွေများကို အောက်ပါအတိုင်းပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်-

(က) ပြည်တွင်းချေးငွေအားရန်ကုန်-မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော်တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ ရေအားလျှပ်စစ် တည်ဆောက်ရေး ကဏ္ဍများတွင် ပါဝင်ဆောင်ရွက်လျှက်ရှိသည့် ရဲရွာရေအားလျှပ်စစ် စီမံကိန်း၊ အထက်ပေါင်းလောင်းရေအားလျှပ်စစ်စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ High Tech Concrete Co., Ltd ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊

ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခုအဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခုအဆိုပြုစီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့်နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ခ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန်ပစ္စည်းများ၊ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊ ပြည်တွင်းတွင်ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်း များမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၈။ နိုင်ငံခြားချေးငွေဖြင့် စီမံကိန်းအတွက် စက်ယန္တရား၊ စက်ပစ္စည်းများကို လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနမှ တင်ဒါစနစ်ဖြင့် ဝယ်ယူ၍ စာချုပ်ပါအတိုင်း တင်သွင်းမည်ဖြစ်ပြီး၊ ဌာနနှင့် ကုမ္ပဏီတို့ အကြား ပစ္စည်းလွှဲပြောင်းရေးဆိုင်ရာ စာချုပ်အဖြစ် လွှဲပြောင်းရယူ၍ စီမံကိန်းတွင် အသုံးပြုမည်ဖြစ်ပါသည်။ အဆိုပါနိုင်ငံခြားချေးငွေအတွက် ကုမ္ပဏီနှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်တို့အကြား ချေးငွေပေးဆပ်ရေးဆိုင်ရာ စာချုပ်ချုပ်ဆို၍ ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ အဆိုပြုသည့် ရေအားလျှပ်စစ်စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ငွေကြေးပမာဏ၊ စီမံကိန်းချေးငွေနှင့် အတိုးနှုန်းများ၊ စီမံကိန်းမှထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဖြန့်ဖြူးမည့်နှုန်းထား၊ အဆိုပြုသည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်နှုန်းထား စသည့် အချက်များနှင့်အညီ စီးပွားရေးဆိုင်ရာတွက်ခြေကိုက်မှု စိစစ်ချက်များ အား တွက်ချက်နည်းပေါင်း (၅၀)နည်းဖြင့် အောက်ပါအတိုင်း စိစစ်တွက်ချက်ခဲ့ပါသည်-

(က) ၂၀၀၉ခုနှစ်၊ ဖေဖော်ဝါရီလတွင်နည်းပေါင်း( ၁၀)နည်းဖြင့်လည်းကောင်း၊

(ခ) ၂၀၀၉ခုနှစ်၊ ဧပြီလတွင်နည်းပေါင်း(၂၅)နည်းဖြင့်လည်းကောင်း၊

(ဂ) ၂၀၀၉ခုနှစ်၊ ဩဂုတ်လတွင်နည်းပေါင်း(၁၅)နည်းဖြင့်လည်းကောင်း၊

၁၀။ အထက်ပါ တွက်ချက်မှုနည်းလမ်းများအနက် အောက်ပါနည်းလမ်းသည် ဝန်ကြီးဌာနအဆင့် အနေဖြင့် အသင့်တော်နည်းလမ်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(က) ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်

(ခ) ကုန်သွယ်ခွန်ကင်းလွတ်ခွင့် (၃)နှစ်

(ဂ) ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်ပေးဆောင်မှု

| | |
|---|---|
| - ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား(၃)နှစ်ကင်းလွတ်ခွင့်<br>ခံစားပြီးနောက်(၁၅)နှစ်နှင့်(၁၁)လ | (၅၀)%သက်သာခွင့် |
| - ကျန်ကာလများ | တည်ဆဲဥပဒေနှင့်အညီ<br>ပေးဆောင်ပါမည် |

(ဃ) နှစ်ဖက်အကျိုးအမြတ်ရရှိနိုင်မှု

| | |
|---|---|
| - ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ | (၂၁၂,၃၈၈.၅၈) ကျပ်သန်းပေါင်း |
| - ရင်းနှီးမြှုပ်နှံသူ | (၃၄၈,၇၆၅.၆၄) ကျပ်သန်းပေါင်း |
| (င) အရင်းကြေကာလ | (၁၅)နှစ်နှင့် (၁၁)လ |
| (စ) အကြွေးကြေကာလ | (၁၀)နှစ် |
| (ဆ) လုပ်ပိုင်ခွင့်ကာလ(ပထမစက်တစ်လုံး<br>စီးပွားဖြစ်စက်လည်ပတ်သည့်ရက်မှစ၍) | (၆၀+၅+၅+၅)နှစ် |
| (ဇ) EIRR% | (၇.၃၇)% |

၁၁။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ဂ)**၊ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ဃ)** များနှင့်အညီ ရေးဆွဲထားသော ပဋိညာဉ်စာချုပ်အား (၁၀-၁၁-၂၀၀၉) ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၀/၂၀၀၉) အစည်းအဝေးဆုံးဖြတ်ချက် **(နောက်ဆက်တွဲ-င)** အရ လက်မှတ်ရေးထိုးရန် သဘောတူပြီးဖြစ်သဖြင့် (၁၁.၁၂.၂၀၀၉)ရက်နေ့တွင် လက်မှတ်ရေးထိုးပြီးဖြစ်ပါသည်။ အဆိုပါပဋိညာဉ်စာချုပ် **(နောက်ဆက်တွဲ-စ)** အား ပူးတွဲလျက်တင်ပြအပ်ပါသည်။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd) မှ B.O.T စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ တစ်ဆင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြခဲ့ရာ (၃.၂.၂၀၁၀)ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/၂၀၁၀)အစည်းအဝေးမှ **(နောက်ဆက်တွဲ-ဆ)** ဖြင့် အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd) မှ B.O.T စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအတွက် Exemption နှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် Exemption ကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီး ဌာနမှ အစိုးရအဖွဲ့သို့ Case by Case တင်ပြရန်။

(ခ) **Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရယူပြီး အစိုးရအဖွဲ့သို့ ပြန်လည်တင်ပြရန်။**

၁၂။ ကုန်သွယ်မှု မူဝါဒကောင်စီ ဆုံးဖြတ်ချက်အရ အမှတ် (၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန မှ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင်ရွက်ရာတွင် **ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား လုပ်ငန်းများစတင်လည်ပတ်သည့်နေ့မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် ကင်းလွတ်ခွင့်ခံစားပြီး နောက် အရင်းကြေကာလ (၁၅) နှစ် နှင့် (၁၁) လ မတိုင်မီ ကာလများအတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုပါရန်၊ လုပ်ငန်းလုပ်ပိုင်ခွင့်အား (၆၀)နှစ်ခွင့်ပြုနိုင်ပါရန်နှင့် နောက်ထပ်(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်သက်တမ်းတိုးခွင့်ပြု ပါရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ (နောက်ဆက်တွဲ-ဇ) ဖြင့်တင်ပြခဲ့ရာ (၁၈.၂.၂၀၁၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၀) မှ (နောက်ဆက်တွဲ-ဈ) ဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။**

၁၃။ သို့ဖြစ်ပါ၍ ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်းသည် နိုင်ငံတော်အတွင်းလိုအပ်သော လျှပ်စစ်ဓာတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်ဖြင့် ငွေကြေးအမြောက်အများ ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သည့် လုပ်ငန်းဖြစ်သည့်အတွက် စီမံကိန်းအားအောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်နှင့် တိုင်းရင်းသားလုပ်ငန်းရှင်ဖြစ်၍ စီးပွားရေးတွက်ခြေကိုက်ရန်၊ မနစ်နာစေရန် ဖော်ပြပါလိုက်လျောခွင့်များ၊ ဝင်ငွေခွန်နှင့်ကုန်သွယ်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို အတည်ပြုပေးနိုင်ပါရန်၊ တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက်လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဉ်နှင့် အခြားဆက်စပ် ပစ္စည်းများအားသက်မှတ်ဥပဒေနှင့်အညီတင်သွင်းခွင့်ပြုပါရန်နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်အား လုပ်ငန်းခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးဇော်မင်း)
ဝန်ကြီး

လျှို့ဝှက်



ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၅၇ /၁၄၈ / အဖရ (၁၂/၂၀၀၈) ။
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ မတ်လ ၂၅ ရက်။

# အ မှာ စာ

အကြောင်းအရာ။ **သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်းအား Asia World Co.,Ltd. အားလည်းကောင်း၊ ဘီလူးချောင်း (၃) ရေအားလျှပ်စစ်စီမံကိန်းအား High Tech Concrete Technology Co.,Ltd. အားလည်းကောင်း၊Build, Own, and Operate (BOO) စနစ်ဖြင့်လုပ်ကိုင်နိုင်ရေးအတွက် နားလည်မှုစာလွှာ ( Memorandum of Understanding ) များ လက်မှတ်ရေးထိုးခွင့် ပြုပါရန် ကိစ္စ။**

၁။ ၂၀၀၈ ခုနှစ် ၊ မတ်လ ၁၉ ရက် ( ဗုဒ္ဓဟူး ) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ( ၁၂ / ၂၀၀၈ ) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာအရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည် အစီရင်ခံ တင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

**ဝန်ကြီး၊**
**အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန။**

လျှို့ဝှက်

၂၀၀၈ ခုနှစ်၊ မတ်လ ၁၉ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၀၈) မှတ်တမ်းကောက်နုတ်ချက်။

၅၃။ သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်းအား Asia World Co.Ltd. အား လည်းကောင်း၊ ဘီလူးချောင်း (၃) ရေအား လျှပ်စစ်စီမံကိန်း အား High Tech Concrete Technology Co.,Ltd. အားလည်းကောင်း၊ Build, Own, and Operate (BOO) စနစ်ဖြင့် လုပ်ကိုင်နိုင်ရေးအတွက် နားလည်မှုစာလွှာ (Memorandum of Understanding) များလက်မှတ်ရေးထိုးခွင့် ပြုပါရန်ကိစ္စ။

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂၀၀၈ ခုနှစ်၊ မတ်လ ၁၁ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ၁၀-လျှပ်စစ်-၁(၁)၉၃၂/၂၀၀၈။

သောက်ရေခပ် (၂) ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်းတို့အား BOO စနစ်ဖြင့် ဆောင်ရွက်နိုင်ရန်အတွက် နားလည်မှုစာလွှာ(MOU)လက်မှတ်ရေးထိုးခွင့်ပြုပါရန် သဘောတူကြောင်း ဆုံးဖြတ်ကြသည်။

ဆောင်ရွက်ရန်၊
အမှတ်(၁)လျှပ်စစ်။

# Memorandum of Understanding

Between

**Department of Hydropower Implementation**

Ministry of Electric Power No (1)

The Union of Myanmar

And

**High Tech Concrete Technology Company., Ltd**

Union of Myanmar

On

**Baluchaung (3) Hydropower Project**

Dated: May 2008

**Memorandum of Understanding**

**On**

**Baluchaung(3) Hydropower Project**

**Kayah State, Myanmar**

This **MOU** signed and delivered in Nay Pyi Taw, the Union of Myanmar on ..2nd........ day of May 2008 by and between:

Department of Hydropower Implementation ( hereinafter referred to as **DHPI** ), Ministry of Electric Power No (1) of the Union of Myanmar, a legal body duly constituted under the laws of the Union of Myanmar, represented by U Aung Koe Shwe, Director General, for the purpose of signing **MOU.**

And

High Tech Concrete Technology Company Limited (hereinafter referred to as **HTCT**), a company organized and existing under the laws of the Union of Myanmar, represented by U Aung Zaw Naing, Vice Chairman, for the purpose of signing **MOU.**

Whereas, **DHPI** on behalf of the Ministry of Electric Power No (1) has the objective to develop Baluchaung (3)Hydropower Project (hereinafter referred to as **The Project** ) by private national enterprise on **B.O.O** ( Build, Own, Operate) basis.

Whereas, **HTCT** intends to participate in the implementation of "The Project" on **B.O.O** basis as a pioneer hydropower project in the country.

**It is hereby agreed by DHPI and HTCT as follows:**

**DHPI** authorizes **HTCT** to implement Baluchaung(3) Hydropower Project on Baluchaung . **"The Project"** includes, but not limited to, the following items of work;

(1) Preparation of Feasibility Study Report

(2) Employment of Consultant for "The Project" approved by **DHPI**

(3) Carrying out additional Investigation works

(4) Detailed Engineering Study & Design with construction drawings

(5) Undertaking of Civil Works, Metal Works, Electro-mechanical works

(6) Operation and maintenance of power station after completion

(7) Supply and sale of Power

**DHPI** shall supply the necessary & reliable data, information and reports related to "The Project" and shall be responsible for the relevant arrangement or formalities involved in "The Project" such as utilization of land, migration of inhabitants, and personnel security in accordance with the laws, ordinances and regulations of Myanmar. DHPI will assist in coordination with local authorities for project construction, and settlement of Power Purchase Agreement (PPA) with parties concerned, etc.

**HTCT** shall form a new company to sign the contract for "The Project" and to timely implement "The Project" and shall submit Quarterly Progress Report of "The Project" to **DHPI** and arrange for **DHPI** Technical Assist when necessary.

All parties shall treat the content and details of this MOU, information and data related to "The Project" as private and confidential, and not disclose any particulars of "The Project" to any third party without the written consent of either party.

HTCT Shall submit the Feasibility Report to DHPI/MOEP (1) within 6 months from the signing of this MOU.

If **HTCT** fails to start implementation of "The Project" within 12 months after signing of the **MOU**, both parties shall agree to transfer the development right to a third party and HTCT has the right to obtain the compensation of reasonable cost for earlier input from the third party.

This **MOU** shall enter into force on the date of its signing.

In the event that any situation or condition not envisaged under this **MOU** arises the Parties shall discuss and make necessary amendments to this **MOU**.

IN WITNESS WHEREOF, the undersigned, being duly authorized thereto by their respective parties, have signed this **MOU**.

Done at Nay Pyi Taw, Union of Myanmar, on this 2nd.....day of May 2008, in duplicate in the English / Myanmar Language.

| For and on behalf of | For and on behalf of |
| --- | --- |
| Department of Hydropower Implementation | High Tech Concrete |
| Ministry of Electric Power No (1) | Technology Co.,Ltd. |
| Union of Myanmar | Union of Myanmar |

| ................................ | ................................ |
| --- | --- |
| Signed by : U Aung Koe Shwe | Signed by : U Aung Zaw Naing |
| Designation: Director General | Designation: Vice Chairman |

**In the presence of**

2.5.2008 | 2/5/08

| Signed by :U Win Kyi | Signed by : U Ye Myint |
| --- | --- |
| Designation :Deputy Director General | Designation: Managing Director |

# ပြည်ထောင်စုမြန်မာနိုင်ငံ

# အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန

နှင့်

# ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်

# ပြည်ထောင်စုမြန်မာနိုင်ငံ

တို့၏

# ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်းအတွက်

# နားလည်မှုစာချွန်လွှာ

နေ့စွဲ – မေလ၊ ၂၀၀၈

D:\Kyaw Aung Win (2008)\MOU ewc-ktc\12-3-08\HTCT\baluchaung mou(New)131207.doc

**ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း၊ ကယားပြည်နယ်**

**အတွက်**

**နားလည်မှုစာချွန်လွှာ**

ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၀၈–ခုနှစ်၊ မေလ၊ (၂) ရက် နေ့တွင်–

မြန်မာနိုင်ငံ၏ ဥပဒေများအရတရားဝင်အဖွဲ့အစည်းတစ်ခုဖြစ်သည့် ရေအားလျှပ်စစ်အကောင်ထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ပြည်ထောင်စုမြန်မာနိုင်ငံကို ကိုယ်စားပြု၍ ဦးအောင်ကိုးရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ်အကောင်အထည်ဖေါ်ရေး ဦးစီးဌာန

နှင့်

မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရတည်ထောင်ထားသော ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်ကို ကိုယ်စားပြု၍ ဦးအောင်ဇော်နိုင်၊ ဒုတိယဥက္ကဋ္ဌ

တို့သည်

ဤနားလည်မှု စာချွန်လွှာ အား လက်မှတ်ရေးထိုးကြပါသည်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသည် ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း (စီမံကိန်း) ကို ပုဂ္ဂလိက အဖွဲ့အစည်း တစ်ခုအား (Build, Own, Operate)B.O.O (တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်စနစ်) စံနစ်ဖြင့် ဆောင်ရွက်စေရန် ရည်မှန်းချက်ဖြင့်လည်းကောင်း၊

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့်လည်း မြန်မာနိုင်ငံအတွင်း B.O.O စံနစ်ဖြင့်စံပြဆောင်ရွက်မည့် ရေအားလျှပ်စစ်စီမံကိန်းကို ပါဝင်ဆောင်ရွက် အကောင်ထည်ဖော်ရန် ဆန္ဒရှိသဖြင့်လည်းကောင်း၊

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိကက် တို့သည် အောက်ပါအတိုင်း သဘောတူညီကြပါသည်။

D:\Kyaw Aung Win (2008)\MOU new-hut12-3-08\HTCT\baluchaung mou(Nov)131207.doc

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန အနေနှင့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အား ဘီလူးချောင်းတွင်တည်ဆောက်မည့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်း အတွက် အောက်ဖော်ပြပါလုပ်ငန်းအပါအဝင် လိုအပ်သောလုပ်ငန်းများ ဆောင်ရွက်ရန်ခွင့်ပြုလိုက်ပါသည်။

(က) ဖြစ်မြောက်နိုင်စွမ်း အစီရင်ခံစာပြုစုရေးဆွဲရန်။

(ခ) စီမံကိန်းအတွက် အတိုင်ပင်ခံအင်ဂျင်နီယာအဖွဲ့ကို ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန၏ အတည်ပြုချက်ဖြင့် ခန့်အပ်ရန်။

(ဂ) ထပ်မံလိုအပ်သောစူးစမ်းလေ့လာမှုလုပ်ငန်းများဆက်လက်ပြုလုပ်ရန်။

(ဃ) အသေးစိတ်အင်ဂျင်နီယာပိုင်း လေ့လာမှုနှင့်ဆောက်လုပ်ရေးဒီဇိုင်းများကို ပုံစံရေးဆွဲထုတ်လုပ်ရန်။

(င) မြို့ပြလုပ်ငန်းများ၊သံထည်လုပ်ငန်းများနှင့် လျှပ်စစ်စက်မှုလုပ်ငန်းများဆောင်ရွက်ရန်။

(စ) ရေအားလျှပ်စစ်စက်ရုံတည်ဆောက်ပြီးပါက ထိန်းသိမ်းမောင်းနှင်ရန်။

(ဆ) လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုရန်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနအနေနှင့် စီမံကိန်းနှင့်ဆက်စပ်သည့် လိုအပ်သော အချက်အလက်၊ သတင်းနှင့်အစီရင်ခံစာများကို ပေးပို့ပေးပါမည်။ ထို့အပြင် စီမံကိန်းနှင့်ဆက်စပ်၍ သက်ဆိုင်ရာဥပဒေ၊ စည်းမျဉ်းများနှင့်အညီ မြေယာအသုံးချခွင့်ရရှိရေးကိစ္စများ၊ စီမံကိန်းဧရိယာအတွင်း လူ/စက်/ယာဉ်/ ယန္တရားများ ဝင်/ထွက်/သွားလာခွင့်ရရှိရေးကိစ္စများ၊ လုံခြုံရေးကိစ္စများ နှင့် ဓာတ်အားဝယ်ယူမှုဆိုင်ရာ သဘောတူညီချက်ရရှိရေးအတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများနှင့် ညှိနှိုင်း၍ကူညီ ဆောင်ရွက်ပေးမည် ဖြစ်ပါသည်။

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့် စီမံကိန်းအချိန်မှီပြီးစီးရေးအတွက် သီးခြားကုမ္ပဏီ တစ်ခုဖွဲ့စည်း၍ ဆောင်ရွက်သွားမည်ဖြစ်သည့်အပြင် စီမံကိန်း၏တိုးတက်မှုအစီရင်ခံစာကို အခါအားလျော်စွာ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနသို့ တင်ပြရမည်ဖြစ်ပြီး လိုအပ်ပါက ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနမှ နည်းပညာဆိုင်ရာကိစ္စရပ်များအား ကူညီဆောင်ရွက်ပေးနိုင်ရေးအတွက် စီစဉ်ပေးရပါမည်။

ဤနားလည်မှုစာချွန်လွှာတွင် ပါဝင်သော စီမံကိန်းနှင့်ဆက်စပ်နေသော အချက်အလက်များ နှင့် အသေးစိတ်များကိုဤစာချုပ်ပါ အဖွဲ့အစည်းများမှ အများနှင့်မဆိုင်သောကိစ္စနှင့်လျှို့ဝှက်ကိစ္စ တစ်ရပ်အနေဖြင့် လက်ခံထားရမည်ဖြစ်ပြီး ဤစာချုပ်ပါ အဖွဲ့အစည်းနှစ်ခုလုံး၏ စာဖြင့်ရေးသား သဘောတူညီမှု မပါဘဲနှင့်အခြားသော တတိယအဖွဲ့အစည်းတစ်ခုထံသို့ “စီမံကိန်း” နှင့် ပတ်သက်သည့် မည်သည့် အချက်အလက်ကိုမှ မပေါက်ကြား စေရပါ။

“စီမံကိန်း” ၏ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာကို ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေး ဦးစီးဌာန ၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန သို့ ( ၂.၅.၂၀၀၈)ရက်နေ့မှ (၆)လ အတွင်း တင်ပြရမည်ဖြစ်ပါသည်။

အကယ်၍ ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့် နားလည်မှု စာချွန်လွှာကို လက်မှတ်ရေးထိုးပြီး (၁၂)လအတွင်း“စီမံကိန်း”ကို အကောင်အထည်ဖော်ခြင်း မပြုလုပ်နိုင်ပါက တတိယအဖွဲ့အစည်း တစ်ခုအား လွှဲအပ်ပေးခဲ့သော် ဟိုက်တက်ကွန်ကရစ်တက်ခနို လိုဂျီကုမ္ပဏီလီမိတက် အနေနှင့် နဂိုမူလက ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုး ညီမျှသည့် ပမာဏအထိ တတိယအဖွဲ့အစည်းထံမှ လျော်ကြေး တောင်းခံနိုင်ခွင့်ရှိသည်။

ဤနားလည်မှုစာချွန်လွှာတွင် ဖော်ပြပါဝင်ခြင်းမရှိသော အနေအထား/အခြေအနေများပေါ် ပေါက်ပါက နှစ်ဘက်အဖွဲ့အစည်းတို့အနေနှင့် တိုင်ပင်ဆွေးနွေး၍ စာချွန်လွှာပါ အချက်အလက်များ ကို ပြင်ဆင်ရပါမည်။

ဤနားလည်မှုစာချွန်လွှာသည် စာချုပ်လက်မှတ်ရေးထိုး သည့်နေ့မှစတင်၍ အကျိုးဝင် သက်ရောက် ပါမည်။

အောက်တွင် ဖော်ပြပါရှိသော သက်သေများ၏ ရှေ့မှောက်တွင်နှစ်ဘက်သော အဖွဲ့အစည်း တို့သည်၎င်းတို့နှင့်သက်ဆိုင်သောအဖွဲ့အစည်းများမှ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များအရ လက်မှတ် ရေးထိုးကြပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၈ခုနှစ်၊ မေလ၊ ( ၂ )ရက်နေ့ တွင် လက်မှတ်ရေးထိုးပြီး အင်္ဂလိပ်/မြန်မာ နှစ်ဘာသာဖြင့် စာချွန်လွှာကို လဲလှယ်ကြပါသည်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန
အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန(ကိုယ်စား)

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီ
ကုမ္ပဏီလီမိတက်(ကိုယ်စား)

လက်မှတ်
အမည် ဦးအောင်ကိုးရွှေ
ရာထူး ညွှန်ကြားရေးမှူးချုပ်

လက်မှတ်
အမည် ဦးအောင်ဇော်နိုင်
ရာထူး ဒုတိယဥက္ကဋ္ဌ

ကျွန်ုပ်တို့၏ရှေ့မှောက်တွင်

လက်မှတ် ၂/၅/၂၀၀၈
အမည် ဦးဝင်းကြည်
ရာထူး ဒုတိယညွှန်ကြားရေးမှူးချုပ်

လက်မှတ် ၂/၅/၀၈
အမည် ဦးရဲမြင့်
ရာထူး အုပ်ချုပ်မှုဒါရိုက်တာ

Win
\\\Kyaw Aung Win (2008)\MOU awc-htcc12-3-08\HTCT\balachaung mou(New)131207.doc

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁ / ၂၇၄ (၂၁၂၅/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

သို့
ဝန်ကြီး
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက် ။ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၅၇-လျှပ်စစ်၁(၂)/၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား (B.O.T) (Build Operate and Transfer) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အောက်ပါ အတိုင်း ဖော်ပြအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ်(၅)အရ လျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀)အား ပဋိညာဉ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း (၂၅၀)နှင့် လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀)ကို အနာဂတ်စွမ်းအားကုမ္ပဏီက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ ပေးအပ်ရန်ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ်(၆၀)အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း(၅၀၀)သာ ရရှိမည်ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ခ)တွင် ပဋိညာဉ်စာချုပ် သက်တမ်းကာလအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဟုဖော်ပြထားရာ ယခင် B.O.T စနစ်ဖြင့်ဆောင်ရွက်ခဲ့သည့်လုပ်ငန်းစီမံကိန်းများတွင် B.O.T ၏သက်တမ်းအား နှစ်(၃၀)မှ (၃၅) နှစ်အထိသာ ခွင့်ပြုလေ့ရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ဂ)တွင်ပဋိညာဉ်၏သက်တမ်းအားတိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့် ယခုပဋိညာဉ်၏ သက်တမ်းအား ကနဦးနှစ်(၃၀)သာ ခွင့်ပြု၍

hh/1-274(scp)- 2

နောက်ထပ်သက်တမ်း ထပ်မံတိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုခြင်းသာလျှင် သင့်လျော်မည်ဟု ယူဆပါသည်။

(ဂ) အဆိုပါပဋိညာဥ်စာချုပ်(မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ ထည့်သွင်းဖော်ပြထားခြင်းမရှိသည့်အတွက် သဘောထားမှတ်ချက်ပြုရန် မရှိပါ။ သို့ရာတွင်လုပ်ငန်းဆောင်ရွက်ပေးခြင်းအတွက် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သို့စာချုပ်အရပေးချေသည့်တန်ဖိုးအပေါ်တွင်လည်းကောင်း၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်ကလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ တစ်ဆင့်ခံဆောင်ရွက်စေခြင်းအတွက် ပေးချေသည့်တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင် လည်းကောင်း ဝင်ရင်းမှ နှုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် (Withholding Tax)ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဃ) ထို့အပြင် စီမံကိန်းလုပ်ငန်းအတွက် ပြည်တွင်းပြည်ပမှငှားရမ်းသည့် အတိုင်ပင်ခံများ၊ကျွမ်းကျင်သူများ၊ဝန်ထမ်းများအား ထုတ်ပေးသည့် လစာခေါင်းစဥ်မှ ဝင်ငွေခွန်ကိုနှုတ်ယူဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။ စီမံကိန်းတည်ဆောက်ပြီးစီး၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသဖြင့် ရရှိသည့် ရောင်းရငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့်လုပ်ငန်းမှရရှိသည့်အသားတင်အမြတ်ဝင်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းနှင့်အမိန့်ကြော်ငြာစာများနှင့်အညီပေးဆောင်ရန်တာဝန်ရှိပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

၁၈.၁.၁၉

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးကြီးလှသိန်းဆွေ၊ ဒုတိယဝန်ကြီး)

၁၈.၁.၁၉

မိတ္တူကို
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

MH/1-274(scp)- 3

နောက်ဆက်တွဲ (ယ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရှေ့နေချုပ်ရုံး

နေပြည်တော်

၂၉
ယ/၂၉

စာအမှတ်၊ ၂(၅) ၄ - ၁၃ /နပတ( ၃၂၉ )

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၁၆ ရက်

အကြောင်းအရာ။ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင် ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း

ရည် ညွှန်း ချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂ - ၉-၂၀၀၉ ရက်စွဲပါစာအမှတ် ၁၅၇-လျှပ်စစ် ၁(၂)/ ၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်တို့အကြားဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအားB.O.T(တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင်နိဒါန်းအပိုင်း၌ရည်ညွှန်းထားသောပူးတွဲ(၁)မှာမြေပုံပူးတွဲပါရှိခြင်း မရှိပါ။ ယင်းနောက်ဆက်တွဲသည်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ် လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲများကို ပြည့်စုံစွာပူးတွဲထားရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် မြေအသုံးချမှုပရီမီယံ (Land Use Premium) ပါရှိသော်လည်း မြေငှားရမ်းခမပါရှိသဖြင့် ဌာနအနေဖြင့်ရယူလိုခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံငွေရယူထားခြင်းမရှိသဖြင့် လုပ်ငန်းအာမခံရယူ ရန်သင့်မသင့်စဉ်းစားသင့်ပါသည်။လုပ်ငန်းအာမခံငွေထားရှိလျှင် ယင်း၏ဘဏ်အာမခံ

C:\Documents and Settings\user\UKMT\Future Energy(EPC 1)(9-9-09)doc.doc

ပုံစံအားစာချုပ်တွင် ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာစံညွှန်းဟု ဖော်ပြထားရာ နောင်အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဂ)တွင် ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကိုဝန်ကြီးဌာနမှခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်ကြောင်းဖော်ပြထားရာ မည်သည့်ဝန်ကြီးဌာနဖြစ်ကြောင်းကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဇ)ပါ လုပ်ငန်းခွင့်ပြုသူအချိန်တိုးပေးခြင်းနှင့်စပ်လျဉ်းသည့် ကိစ္စရပ်မှာလုပ်ငန်းခွင့်ပြုသူနှင့် သက်ဆိုင်သဖြင့်လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဈ)တွင်ဖော်ပြထားချက်မှာ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် သက်ဆိုင်သဖြင့်စာချုပ်သက်တမ်းခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၉(က)တွင်လုပ်ငန်းစတင်သည့်နေ့ကိုလုပ်ငန်းခွင့်ပြုသူမှလုပ်ငန်းစတင်ရန်အကြောင်းကြားစာကိုလုပ်ငန်းလုပ်ကိုင်သူမှလက်ခံရရှိသည့်နေ့ဟုဖော်ပြထားရာနောင်အငြင်းပွားမှုပေါ်ပေါက်နိုင်သဖြင့်ယင်းနေ့ကိုအတိအကျသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၁၆ လုပ်ငန်းလုပ်ကိုင်သူ၏ပျက်ကွက်မှုနှင့်ပတ်သက်၍အပိုဒ်(ခ) ပါအတိုင်း လုပ်ငန်းလုပ်ကိုင်သူသည် သတ်မှတ်ကာလကျော်လွန်မှ စာချုပ်လုပ်ငန်းများကိုဆောင်ရွက်ပြီးစီးပါက ဌာနအနေဖြင့် ရက်လွန်ကြေး၊ ဒဏ်ကြေးရယူရန်သင့် မသင့် စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၈(ဃ)၌ စာချုပ်ရပ်စဲခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်းကြောင့်ဖြစ်ပါက မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မည်သည့်ကာလအထိ ဆက်တိုက်ဖြစ်ပေါ်ခြင်းကို ဆိုလိုကြောင်းကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်သင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)၌ စာချုပ်ကာလမှာလျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးသည့် နေ့ရက်မှစတင်ကြောင်းဖော်ပြထားရာ နောင်နှစ်ဖက်အငြင်းပွားမှုမဖြစ်စေရန် " စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" သည် မည်သည်ကိုဆိုလိုကြောင်းအဓိပ္ပာယ်ဖွင့်ဆိုချက်များတွင်ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)ပါစာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစ၍ နှစ်ပေါင်း ၆၀ ဖြစ်သဖြင့် စာချုပ်အကျိုးသက်ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မတိုင်မီအထိ စာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမရှိသည်ကို သတိမူသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)တွင် B.O.T စာချုပ်များတွင်ပါလေ့ရှိသော သယံဇာတပစ္စည်းတွေ့ရှိခြင်းစာပိုဒ်ပါရှိလာခြင်းမရှိသည့်အတွက် ယင်းစာပိုဒ်အားမင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် လွှဲပြောင်း၍မရနိုင်သောအခွင့်အရေးစာပိုဒ်မပါရှိသဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဏ) စာချုပ်သက်တမ်းအတွင်း လျှပ်စစ်ဓါတ်အားခနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ရယူရန်အစီအစဉ်ရှိ မရှိ၊ ရယူပါက မည်သို့ရယူမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(တ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်သူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ဋ္ဌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

နောက်ဆက်တွဲ (င)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

ဖုန်း-၀၆၇-၄၀၆၃၃၃၊၄၀၆၀၇၅
67-406333

စာအမှတ်၊ ရက-၆(တ)/မ-၁၀၁၂၁၀၁၈/၂၀၀၉ (၂၀၅၇၅)
ရက်စွဲ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာလ ၂၁ ရက်။

သို့/
ဝန်ကြီးရုံး၊
အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းတို့အား BOT (Build, Operate and Transfer) စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏

(၁) (၁၉-၁၀-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁၀ - လျှပ်စစ် ၁ (၁) / ၄၃၃၉ / ၂၀၀၉ (သောက်ရေခပ် -၂)

(၂) (၂၁-၁၀-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂)/-၄၈၄၉ / ၂၀၀၉ (ဘီလူးချောင်း - ၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်းကို(၁၀-၁၁-၂၀၀၉)နေ့တွင်ကျင်းပသော ဤကော်မရှင်၏ (၄၀/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) သောက်ရေခပ်(၂)ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့အား BOT စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြချက်ကို ကော်မရှင်မှ သဘောတူကြသည်။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၁၂)နှင့် (၁၃) တို့အရ အခွန်အကောက်တင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားနိုင်ရေးအတွက် စီးပွားရေးဆိုင်ရာ အချက်အလက်များ ဖော်ပြလျှောက် အဆိုပြုလွှာ တင်ပြနိုင်ရေး ဆောင်ရွက်ရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင် ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန။

(၂) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန။

(၃) ရွှေစွမ်းအင် ကုမ္ပဏီလီမိတက်။

(၄) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။

(၅) ရုံးလက်ခံ/ မျှောစာတွဲ။

Thoukyaekhet

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြား

ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စီမံကိန်းအား

## B.O.T

(တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်

၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာလ

ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်**

**လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန နှင့်**

**အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်**

**တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်**

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၉ခုနှစ်၊ ဒီဇင်ဘာလ၊ (၃၁)ရက်နေ့၌ **ညွှန်ကြားရေးမှူးချုပ်၊ ဦးကြီးစိုး** ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အဆောက်အဦ အမှတ်(၃၈)၊ နေပြည်တော် (ဤမှနောင်တွင် **"လုပ်ငန်းခွင့်ပြုသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

**အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးအောင်ဇော်နိုင်** ကိုယ်စားပြုသောပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် **အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်** အမှတ် ၅၈၄၊ ဟိုင်းတက်တာဝါ၊ ပထမထပ်၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်သူ"**ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

**"လုပ်ငန်းလုပ်ကိုင်သူ"** သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆) မိုင်ခန့် အကွာရှိ နောက်ဆက်တွဲ(၁)မြေပုံပါ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှ ထုတ်လုပ်မည့်ဓါတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၃၃၄) ထွက်ရှိမည့်၊ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်း (ဤမှနောင်တွင် **"လျှပ်စစ်စီမံကိန်း"** ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့်လုပ်ငန်း၏ အကျိုးခံစားခွင့်များကို စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည်-

## အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ"** ဆိုသည်မှာ ဤ **"လျှပ်စစ်စီမံကိန်း"** ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည်ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) **"အမြဲတမ်းလုပ်ငန်းများ"** ဆိုသည်မှာ ဤစာချုပ်ပါ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သောပုံစံပြု၍ ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) **"တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ်-၈ (၃) အရ **"လုပ်ငန်းလုပ်ကိုင်သူ"**ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ဃ) **"စက်ရုံ၊ အလုပ်ရုံ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ **"လုပ်ငန်းလုပ်ကိုင်သူ"** မှ ဤ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) **"လုပ်ငန်းခွင်နေရာ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏နေရာများ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) **"စာချုပ်"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) **"လျှပ်စစ်ဓါတ်အား"** ဆိုသည်မှာ **"လျှပ်စစ်စီမံကိန်း"**မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို ဆိုလိုသည်။

(ဈ) **"စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း"** ဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေးစက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်ထုတ်လုပ်ရောင်းချ ပေးခြင်းကို ဆိုလိုသည်။

**အာမခံချက်နှင့်ကိုယ်စားပြုခြင်း**

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ကြောင်းနှင့် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသူများ ဖြစ်ကြောင်း အာမခံပါသည်။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှုရှိသူဖြစ်ကြောင်း အာမခံပါသည်။

**ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်**

၃။ ဤ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊

(ခ) ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီး ထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကိုပူးပေါင်း၍ ရေသွင်းတံခါးမှတစ်ဆင့် အဓိက ဥမင်လိုဏ်ခေါင်း (Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း၊

(ဂ) ဘီလူးချောင်းမှရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း၊

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား (၄. ၃)ကီလိုမီတာ၊ အကျယ် (အချင်း) (၄. ၉) မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း၊

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ (၅၀,၀၀၀) ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များ တည်ဆောက်ခြင်း၊

(စ) အလျား (၁၈၈) မီတာနှင့် အကျယ် (အချင်း) (၃. ၈) မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း၊

(ဆ) ဖရန်စစ်အမျိုးအစား (၂၅. ၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများတပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ (Surface Type Power House) တည်ဆောက်ခြင်း၊

(ဈ) စက်ရုံမှထွက်လာသည့်ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း၊

(ည) မြေပေါ်ဓာတ်အားခွဲရုံ (၁)ခုတည်ဆောက်ခြင်း၊

(ဋ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ အမှတ် (၂) ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅)ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီလျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း၊

(ဌ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ် (၂) ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း၊

(ဍ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း၊

(ဎ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း၊

(ဏ) လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း၊

**အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် (Concession Rights)**

၄။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း"ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းပေါ်နှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" က ဆောင်ရွက်ပေးရမည်။

**မြေအသုံးချမှု ပရီမီယံ (Land Used Premium)**

၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် "လုပ်ငန်းခွင့်ပြုသူ" အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည် -

(က) ဤပဋိညာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) "လျှပ်စစ်စီမံကိန်း"၏ တည်ဆောက်ရေးကာလပြီးနောက် "လျှပ်စစ်ဓါတ်အား" စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

**စံချိန်စံညွှန်းများ**

၆။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" လုပ်ငန်းကို အဆင့်ဆင့် ဆောင်ရွက်ရာတွင် "လုပ်ငန်းခွင့်ပြုသူ" မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို

အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များ အတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

**"လုပ်ငန်းခွင့်ပြုသူ"၏တာဝန်များ**

၇။ "လုပ်ငန်းခွင့်ပြုသူ"၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** ၏ ပဋိညာဉ်စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက် နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို ပြည်ထောင်စု မြန်မာနိုင်ငံအစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက် ပေးရမည်။

(ခ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာန များ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက်ပေးရမည်။

(ဃ) **"လုပ်ငန်းခွင့်ပြုသူ"** သည် ဆိုခဲ့သည့် **"လျှပ်စစ်စီမံကိန်း"** အတွက် လိုအပ်မည့်မြေနေရာသုံးစွဲခွင့် ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်း ဆောင်ရွက်ပေးရမည်။

(င) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဥပဒေ့ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် ဥပဒေ နှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **"လျှပ်စစ်စီမံကိန်း"** အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူ သုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများ ဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ ကူညီ ဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက

"လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြား သဘောတူညီချက် စာချုပ်များချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို "လုပ်ငန်းလုပ်ကိုင်သူ" မှ သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ညှိနှိုင်းစီစဉ်ဆောင်ရွက်ပေးရမည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကိုပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းခွင့်ပြုသူ" ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ "လုပ်ငန်းခွင့်ပြုသူ" သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

## "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ

၈။ "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်း ပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်းမှဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကို အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်သူ"သည် "လျှပ်စစ်စီမံကိန်း" ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက အဆိုပြုချက် အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ။

(ဆ) "လုပ်ငန်းလုပ်ကိုင်သူ" သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) "လျှပ်စစ်စီမံကိန်း" လုပ်ငန်းဆောင်ရွက်ရာတွင် "လုပ်ငန်းလုပ်ကိုင်သူ" သည် သစ်တော ဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက် မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ။

(ည) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဋ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် ကာလအတွင်း "လျှပ်စစ်စီမံကိန်း"ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဌ) "လုပ်ငန်းလုပ်ကိုင်သူ" ၏ "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ဍ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့်

ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" က တာဝန်ယူရမည်။

(ပ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေ ပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ "လုပ်ငန်းလုပ်ကိုင်သူ" သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဖ) "လုပ်ငန်းလုပ်ကိုင်သူ"သည်သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများပေးဆောင်ရမည်။

**နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ**

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည် -

(က) **"လုပ်ငန်းစတင်သည့်နေ့"** မှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုး သည့်နေ့ ဖြစ်ပါသည်။

(ခ) **"တည်ဆောက်ရေးကာလ"** ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) **"နေ့ရက်"** ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ **"နှစ်"** ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) **"အကျိုးသက်ရောက်သည့်နေ့"** မှာ **"လုပ်ငန်းခွင့်ပြုသူ"**၏ တရားဝင် အကြောင်းကြားချက် အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုး သက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်း တစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေး ကာလတိုးမြှင့်မှု ကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

**လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း**

၁၀။ ဤစာချုပ်၏ "လျှပ်စစ်စီမံကိန်း" မှ "လျှပ်စစ်ဓါတ်အား" ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များ နှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

**သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၁၁။ **''လုပ်ငန်းလုပ်ကိုင်သူ''** သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသော မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက **''လုပ်ငန်းခွင့်ပြုသူ''** ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံပိုင် ပစ္စည်းများ ဖြစ်စေရမည်။ **''လုပ်ငန်းခွင့်ပြုသူ''** သည် အဆိုပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

**လုပ်ငန်းတန်ဖိုး**

၁၂။ ဤစာချုပ် ချုပ်ဆိုသည့် **"လျှပ်စစ်စီမံကိန်း"** ၏ ခန့်မှန်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၁၀၄,၈၀၈. ၆၃) (ကျပ် တစ်သိန်းလေးထောင် ရှစ်ရာရှစ် ဒသမ ခြောက်သုံးသန်း) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန် ဒေါ်လာသန်းပေါင်း(၈၂. ၆၇) (အမေရိကန်ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနစ်သန်း) ဖြစ်ပါသည်။

**လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု**

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်-

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၆)လအတွင်း **"လုပ်ငန်းခွင့်ပြုသူ"**ထံ တင်သွင်းရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လစဉ် တိုးတက်မှုအစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်သွင်းရမည်။

**စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း**

၁၄။ **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်း ဆောင်ရွက်မှု အစရှိသည်တို့ကို **"လုပ်ငန်းခွင့်ပြုသူ"** က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ **"လုပ်ငန်းခွင့်ပြုသူ"** ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက **"လုပ်ငန်းခွင့်ပြုသူ"** က ကန့်ကွက်နိုင်သည့်အပြင် **"လုပ်ငန်း လုပ်ကိုင်သူ"** ထံ ချက်ချင်းအကြောင်းကြားရမည်။ **" လုပ်ငန်းလုပ်ကိုင်သူ"** သည် ချို့ယွင်းချက်ကို (၁)လ အတွင်းကောင်းစွာ

ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

## မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန်လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်နေသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ဆိုင်းငံ့ထားနိုင်သည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

## လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု

၁၇။ "လုပ်ငန်းလုပ်ကိုင်သူ"၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါလုပ်ငန်းကို ပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်းမပြုလျှင်၊ "လုပ်ငန်းခွင့်ပြုသူ"မှ အဆိုပါ

ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ"သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ကျန်ရှိသောလုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းတန်ဖိုး၏ ၀.၅% အား ရက်သတ္တတစ်ပတ် နောက်ကျတိုင်း "လုပ်ငန်းခွင့်ပြုသူ" ထံပေးဆောင်ရန်နှင့် ထိုသို့ပေးဆောင်မှုသည် ကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းများ၏ စုစုပေါင်း တန်ဖိုး၏ ၅%ကို မကျော်လွန်စေရပါ။ ထို့အပြင် "လုပ်ငန်းခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်သူ" ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟု ယူဆပါက စာချုပ်လုပ်ငန်းအား လုပ်ငန်းခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါက လည်းကောင်း၊ ဤစာချုပ် "လုပ်ငန်းခွင့်ပြုသူ" မှ သိမ်းယူပါက လည်းကောင်း၊ တတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော် "လုပ်ငန်းလုပ်ကိုင်သူ" ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြေးကျိုးညီမျှသည့်ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်မှု ရှိသည်။

## ပြောင်းလဲခြင်းများ

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင် ပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို "လုပ်ငန်းခွင့်ပြုသူ" ထံမှအတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် ပုံစံပြုလွှာအသစ်၊ လုပ်ငန်း အစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် "လုပ်ငန်းလုပ်ကိုင်သူ" ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) "လုပ်ငန်းခွင့်ပြုသူ" မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) "လုပ်ငန်းခွင့်ပြုသူ" သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းကို မဆို "လုပ်ငန်းလုပ်ကိုင်သူ" အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ "လုပ်ငန်းလုပ်ကိုင်သူ" ၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) "လုပ်ငန်းခွင့်ပြုသူ" သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင် သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက်ရှိအောင် ဆက်လက် ဆောင်ရွက်ပေးရမည်။

**ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း**

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်-

( က ) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လ ကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း၊

( ခ ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

( ဂ ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) (၁၂) လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း။

( င ) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် **မြန်မာနိုင်ငံ** ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

ပြင်ဆင်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၂၂။ ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဤပဋိညာဉ်စာချုပ်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီးစာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အား နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး “လျှပ်စစ်စီမံကိန်း” မှ “လျှပ်စစ်ဓါတ်အား” စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍နောက်ထပ် နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လကြိုတင်၍ စာချုပ်ဝင် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် ပဋိညာဉ်စာချုပ်သက်တမ်း တိုးမြှင့်နိုင်သည်။

(ဃ) “လုပ်ငန်းခွင့်ပြုသူ” မှ ခွင့်ပြုထားသော “လျှပ်စစ်စီမံကိန်း” ၏စာချုပ်ပါ လုပ်ငန်း ကာလ ပြည့်ပြီးနောက် “လုပ်ငန်းလုပ်ကိုင်သူ” သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် “လုပ်ငန်းခွင့်ပြုသူ” ထံ တင်ပြ လျှောက်ထားရမည်။

**ခွင့်ပြုလွှဲအပ်ခြင်း**

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

**အာမခံထားရှိခြင်း**

၂၅။ “လုပ်ငန်းလုပ်ကိုင်သူ” သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

**အထွေထွေကိစ္စရပ်များ**

၂၆။ (က) တရားမဝင်ခြင်း။ ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင် လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) **ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း ။** ။ စာချုပ်ရုပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာကာလအတွင်း စာချုပ်ပါမြေနှင့် **"လျှပ်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံထားသောပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနား မပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ထံ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) **လွှဲပြောင်း၍မရနိုင်သောအခွင့်အရေး။** ။ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်း ပိုင်ဆိုင်ခွင့်နှင့် မူလဘူတ အခွင့်အရေးကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတ ဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက်အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

(င) **တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။** ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ (၉) အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ထမ်းဆောင်ရမည် ဖြစ်ပါသည်။

(စ) **အကြောင်းကြားစာများ။** ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှ တစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်

လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှနောင်တွင် **"အကြောင်းကြားစာ"** ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက် မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှ ပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိတ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဆ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**ဆက်သွယ်ရန်လိပ်စာများ**

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

**ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန**
**ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် - ၀၆၇-၄၁၁၀၆၇**

**နှင့်**

**အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်**
**အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့၊**
**ဖက်(စ်)အမှတ် -(၉၅)-၁-၂၁၁၆၉၆, ၂၁၁၉၅၇**

**နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း**

၂၈။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှုစာချွန်လွှာကို ဤပဋိညာဉ် စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

**စာချုပ်လက်မှတ်ရေးထိုးခြင်း**

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ၊ -၃၇-- ရက်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် - လို့ဝှက်

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန (ကိုယ်စား)

(ဦးကြီးစိုး)
ညွှန်ကြားရေးမှူးချုပ်

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

(ဦးအောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ

အသိသက်သေများ

| | | | |
|---|---|---|---|
| အမည် | ၊ ဦးဘုန်းမြင့် | အမည် | ၊ ဦးရဲမြင့် |
| ရာထူး | ၊ ဒုတိယညွှန်ကြားရေးမှူးချုပ် | ရာထူး | ၊ ဒါရိုက်တာ |
| ဌာန | ၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန | ဌာန | ၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် |

# ဘီလူးချောင်း (၃) ရေအားလျှပ်စစ်စီမံကိန်းတည်နေရာပြပုံ



**Future Energy Co., Ltd.**
**Baluchaung No.(3) Hydropower Project**
**Summary of Financial Information**

| No. | Item | Kyat Portion | % | USD Portion | % | Equivalent to Kyat | Total Investment |
|---|---|---|---|---|---|---|---|
| 1 | Selling Price (Kyat/kw) | 50 | kyat/kw | (every 3 years incremental by 1.5%) | | | |
| 2 | Annual Energy Output | 334,000,000 | kw/year | Sellable Energy | 317,300,000 | kw/year | |
| 3 | Construction Period | 4 | Years | | | | |
| 4 | **Investment** | | | | | | |
| | Equity | 82,308.81 | 78.91% | 53.87 | 65.16% | 323.25 | **82,632.06** |
| | Loan | 22,003.80 | 21.09% | 28.80 | 34.84% | 172.80 | **22,176.60** |
| | **Total Investment** | **104,312.61** | **100.00%** | **82.67** | **100.00%** | **496.05** | **104,808.66** |
| | Investment Ratio | 34.35% | 29.95% | 20.27% | 15.43% | **100%** | |
| 5 | **Loan**<br>Loan Drawdown Rate | 34.35% | 29.95% | 20.27% | 15.43% | **100%** | |

| | **Local Loan** | **Foreign Loan** |
|---|---|---|
| Loan Interest | 15% | 5.5% |
| Loan Repayment | | |
| (a) Construction Period (Years) | 4 | 4 |
| (b) Grace Period (Years) | 1 | 1 |
| Loan Payback Period (Years) | 10 | 10 |

| No. | Item | Amount | % |
|---|---|---|---|
| 6 | **Government** | | |
| | Commercial Tax (Kyat) | 83,291,250,000.00 | 15% |
| | Income Tax (Kyat) | 129,097,331,512.08 | 23% |
| | | **212,388,581,512.08** | **38%** |
| 7 | **Investor**<br>Net Profit | **348,765,635,140.16** | **62%** |
| 8 | Depreciation for Tunnel & Intake | 60 Years | |
| | Depreciation for Other Investment | 30 Years | |
| 9 | Recoupment Year | 15 Years 11 Months | |
| 10 | IRR | 7.37% | |

## ဘီလူးချောင်း(၃)စီမံကိန်း၏ စီးပွားရေးဆိုင်ရာတွက်ခြေကိုက်မှု

| စဉ် | ကုန်သွယ်ခွန် ကင်းလွတ်ခွင့် (နှစ်) | ဝင်ငွေခွန် သက်သာခွင့် (နှစ်) | ဝင်ငွေခွန် သက်သာခွင့် (%) | ကုန်သွယ်ခွန် သက်သာခွင့် (%) | ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဘက်မှ အကျိုးအမြတ် (ကျပ်သန်းပေါင်း) | | အကျိုးအမြတ် နှိုင်းယှဥ်ချက် | | နှစ်ဖက် အကျိုးအမြတ် ကွာခြားချက် (ကျပ်သန်းပေါင်း) | နှစ်ဖက် အကျိုးအမြတ် စုစုပေါင်း (ကျပ်သန်းပေါင်း) | အရင်းကျေ ကာလ (နှစ်) | EIRR(%) |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | Commercial Tax | Income Tax | ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရဘက်မှ စုစုပေါင်း (ကျပ်သန်းပေါင်း) | ကုမ္ပဏီဘက်မှ စုစုပေါင်း (ကျပ်သန်းပေါင်း) | | | | |
| ၁။ | ၇ | ၇ | ၅၀% | ၅၀% | ၈၃,၂၉၁.၂၅ | ၁၂၉,၀၉၇.၃၃၀ | ၂၁၂,၃၈၈.၅၈၁ | ၃၄၈,၇၆၅.၆၃၅ | ၁၃၆,၇၇၇.၀၅၄ | ၅၆၁,၁၅၄.၂၁၆ | (၁၅)နှစ်နှင့်(၁၁)လ | ၇.၃၇% |

| အမှတ်စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁၀။ | အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်မှ ဘီလူးချောင်း (၃) ရေအား လျှပ်စစ်စီမံကိန်းအား BOT (Build, Operate and Transfer) စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။<br><br>ဆုံးဖြတ်ချက်<br><br>- ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာနနှင့် အနာဂတ် စွမ်းအား ကုမ္ပဏီလီမိတက်တို့သည် ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချသည့်လုပ်ငန်းကို BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ကြပါသည် -<br><br>(က) ပြည်တွင်းသုံးဈေးငွေအတွက် အတိုးနှုန်းကို (၁၅%) ဖြင့် ပြင်ဆင်တင်ပြပေးရန်၊<br><br>(ခ) လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင်ထုတ်လုပ် ဖြန့်ဖြူးမည့် နေ့ရက် တင်ပြပေးရန်၊<br><br>(ဂ) တင်သွင်းလိုသည့် မော်တော်ယာဉ်များ၏ Model, Specification တို့ကို တင်ပြပေးပါရန်၊<br><br>(ဃ) ဌာန၏တင်ပြစာပါ လျှပ်စစ်ဓါတ်အားခနှုန်းဖော်ပြချက်နှင့် စပ်လျဉ်း၍ သောက်ရေခပ် (၂) စီမံကိန်းကဲ့သို့ တင်ပြရန်၊<br><br>(င) ဈေးငွေ ကိစ္စ၊ အခွန် ကင်းလွတ်ခွင့်/ သက်သာခွင့်၊ မော်တော်ယာဉ် တင်သွင်းရန် ကိစ္စရပ်များနှင့် အတူ ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်<br><br>အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန |

## ပြည်ထောင်စုမြန်မာနိုင်ငံတော်

## ရှေ့နေချုပ်ရုံး

## နေပြည်တော်

၂၉

၂၂၂၉

စာအမှတ်၊ ၂(၅) ၄ - ၁၃ /နပတ( ၃၂၉ )

ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ စက်တင်ဘာလ ၁၆ ရက်

အကြောင်းအရာ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင် ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂ - ၉-၂၀၀၉ ရက်စွဲပါစာအမှတ် ၁၅၇-လျှပ်စစ် ၁(၂)/ ၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့အကြားဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအားB.O.T(တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင်နိဒါန်းအပိုင်း၌ရည်ညွှန်းထားသောပူးတွဲ(၁)မှာမြေပုံပူးတွဲပါရှိခြင်း မရှိပါ။ ယင်းနောက်ဆက်တွဲသည်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲများကို ပြည့်စုံစွာပူးတွဲထားရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် မြေအသုံးချမှုပရီမီယံ(Land Use Premium) ပါရှိသော်လည်း မြေငှားရမ်းခမပါရှိသဖြင့် ဌာနအနေဖြင့်ရယူလိုခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံငွေရယူထားခြင်းမရှိသဖြင့် လုပ်ငန်းအာမခံရယူရန်သင့်မသင့်စဉ်းစားသင့်ပါသည်။လုပ်ငန်းအာမခံငွေထားရှိလျှင် ယင်း၏ဘဏ်အာမခံ

ပုံစံအားစာချုပ်တွင် ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာစံညွှန်းဟု ဖော်ပြထားရာ နောင်အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဂ)တွင် ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကိုဝန်ကြီးဌာနမှခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်ကြောင်းဖော်ပြထားရာ မည်သည့်ဝန်ကြီးဌာနဖြစ်ကြောင်းကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဇ)ပါ လုပ်ငန်းခွင့်ပြုသူအချိန်တိုးပေးခြင်းနှင့်စပ်လျဉ်းသည့်ကိစ္စရပ်မှာလုပ်ငန်းခွင့်ပြုသူနှင့် သက်ဆိုင်သဖြင့်လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဈ)တွင်ဖော်ပြထားချက်မှာ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် သက်ဆိုင်သဖြင့်စာချုပ်သက်တမ်းခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၉(က)တွင်လုပ်ငန်းစတင်သည့်နေ့ကိုလုပ်ငန်းခွင့်ပြုသူမှလုပ်ငန်းစတင်ရန်အကြောင်းကြားစာကိုလုပ်ငန်းလုပ်ကိုင်သူမှလက်ခံရရှိသည့်နေ့ဟုဖော်ပြထားရာနောင်အငြင်းပွားမှုပေါ်ပေါက်နိုင်သဖြင့်ယင်းနေ့ကိုအတိအကျသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၁၆ လုပ်ငန်းလုပ်ကိုင်သူ၏ပျက်ကွက်မှုနှင့်ပတ်သက်၍အပိုဒ်(ခ) ပါအတိုင်း လုပ်ငန်းလုပ်ကိုင်သူသည် သတ်မှတ်ကာလကျော်လွန်မှ စာချုပ်လုပ်ငန်းများကိုဆောင်ရွက်ပြီးစီးပါက ဌာနအနေဖြင့် ရက်လွန်ကြေး၊ ဒဏ်ကြေးရယူရန်သင့် မသင့် စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၈(ဃ)၌ စာချုပ်ရပ်စဲခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်းကြောင့်ဖြစ်ပါက မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မည်သည့်ကာလအထိ ဆက်တိုက်ဖြစ်ပေါ်ခြင်းကို ဆိုလိုကြောင်းကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်ညှိနှိုင်းသတ်မှတ်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)၌ စာချုပ်ကာလမှာလျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးသည့် နေ့ရက်မှစတင်ကြောင်းဖော်ပြထားရာ နောင် နှစ်ဖက်အငြင်းပွားမှုမဖြစ်စေရန် " စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" သည် မည် သည်ကိုဆိုလိုကြောင်းအဓိပ္ပာယ်ဖွင့်ဆိုချက်များတွင်ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)ပါစာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစ၍ နှစ်ပေါင်း ၆၀ ဖြစ်သဖြင့် စာချုပ်အကျိုးသက် ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက် မတိုင်မီအထိ စာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမရှိသည်ကို သတိမူသင့် ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)တွင် B.O.T စာချုပ်များတွင်ပါလေ့ရှိသော သယံဇာတပစ္စည်းတွေ့ရှိ ခြင်းစာပိုဒ်ပါရှိလာခြင်းမရှိသည့်အတွက် ယင်းစာပိုဒ်အားမင်နီဖြင့် ရေးသားပေးလိုက်ပါ သည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် လွှဲပြောင်း၍မရနိုင်သောအခွင့်အရေးစာပိုဒ်မပါရှိသဖြင့် ရေးသား ပေးလိုက်ပါသည်၊

(ဏ) စာချုပ်သက်တမ်းအတွင်း လျှပ်စစ်ဓါတ်အားခနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ရယူရန် အစီအစဉ်ရှိ မရှိ၊ ရယူပါက မည်သို့ရယူမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(တ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်သူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ၌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၈.၉.၀၉

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး)

**အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂) /၅၆၂၀/ ၂၀၀၉
ရက်စွဲ ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ( ၂၃ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အမှာစာ**

အကြောင်းအရာ။ **ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T (Build, Operate and Transfer) (တည်ဆောက်၊ မောင်းနှင်၊ လွှဲပြောင်း) စနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့်ပြုပါရန်ကိစ္စ**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတအရင်းအမြစ်များကို အကျိုးရှိစွာအသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော်ဆောင်ရွက်လျှက်ရှိရာတွင် "ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ရေအားလျှပ်စစ်စီမံကိန်းများအား ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်လျှက်ရှိပါသည်။

၂။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း(၃၃၄) ထွက်ရှိမည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)အား နှစ်ဖက်ညှိနှိုင်းပြုစုခဲ့ကြပါသည်။

၃။ ညှိနှိုင်းပြုစုထားသော ပဋိညာဉ်စာချုပ်(မူကြမ်း)အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်အနေဖြင့် ဆောင်ရွက်မည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း။

(ခ) ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီးထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း(Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း။

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း။

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား(၄.၃)ကီလိုမီတာ၊ အကျယ်(အချင်း)(၄.၉)မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း။

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ(၅၀,၀၀၀)ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များတည်ဆောက်ခြင်း။

(စ) အလျား(၁၈၈)မီတာနှင့် အကျယ်(အချင်း)(၃.၈)မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း။

(ဆ) ဖရန်စစ်အမျိုးအစား(၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက်(၂)လုံးနှင့် ဆက်စပ်ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ(Surface Type Power House) တည်ဆောက်ခြင်း။

(ဇ) စက်ရုံမှထွက်ရှိလာသည့် ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း။

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ(၁)ခု တည်ဆောက်ခြင်း။

(ည) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ်(၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅) ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီ လျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း။

(ဋ) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း။

(ဌ) ရုံးအဆောက်အဦးနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း။

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်းမောင်းနှင်ခြင်း။

(ဎ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း။

၄။ စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၁၀၅၆၁၄.၉၇ (ကျပ် တစ်သိန်း ငါးထောင် ခြောက်ရာ တစ်ဆယ့်လေးသန်း၊ ကိုးသိန်း ခုနှစ်သောင်းတိတိ)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ(၈၂.၆၇)သန်း (အမေရိကန်ဒေါ်လာရှစ်ဆယ့်နှစ်သန်းခြောက်သိန်း ခုနှစ်သောင်း တိတိ) ဖြစ်ပါသည်။

စီမံကိန်းတည်ဆောက်ရေး ကာလမှာ(၄)နှစ်ဖြစ်ပြီး စုစုပေါင်းလုပ်ပိုင်ခွင့်ကာလမှာ လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလအား ဆက်လက်တိုးမြှင့်လိုပါက စည်းမျဉ်းစည်းကမ်းချက်များနှင့် အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြ၍(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်သက်တမ်း တိုးမြှင့်နိုင်မည်ဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလကုန်ဆုံးပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ်ပစ္စည်းများအား အခမဲ့လွှဲပြောင်း ပေးအပ်မည်ဖြစ်ပါသည်။ လုပ်ငန်းများအား အရှိန်အဟုန်ဖြင့် ဆောင်ရွက်လျှက်ရှိရာတွင် ၂၀၀၉ခုနှစ်၊ အောက်တိုဘာလအထိ (၁၄.၅၉) ရာခိုင်နှုန်း ပြီးစီးပြီဖြစ်ပါသည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် စုစုပေါင်းကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ) ကို အောက်ပါအတိုင်း ပေးအပ်မည်ဖြစ်ပါသည်-

(က) ပဋိညာဉ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း(၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်။

(ခ) တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓာတ်အားဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီဖြန့်ဖြူးရောင်းချမည်ဖြစ်ပြီး သဘောတူခွင့်ပြုမည့် အောက်ပါနည်းလမ်းများမှ တစ်ခုခုဖြင့် စီမံကိန်းပြီးစီးသည့် အချိန်တွင် ဖြစ်ပေါ်မည့်ဓာတ်အားခနှုန်းထားဖြင့် ရောင်းချမည်ဖြစ်ပါသည်-

(က) ဘီလူးချောင်းအမှတ်(၃) လျှပ်စစ်ဓာတ်အားခွဲရုံတွင် မီတာတပ်ဆင်ရောင်းချသောစနစ် (Metering at the Fence of Baluchaung No.3 Hydropower Project) ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍလုပ်ငန်းဌာန တစ်ခုခုသို့ ရောင်းချခြင်း၊ (သို့မဟုတ်)

(ခ) နယ်မြေဒေသတစ်ခုခု၊ စက်မှုဇုန်တစ်ခုခုသို့ ဖြန့်ဖြူးရောင်းချခြင်း၊ (သို့မဟုတ်)

(ဂ) ပြည်ပအိမ်နီးချင်းနိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်း၊

၇။ အဆိုပြုစီမံကိန်းသည် ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏများပြားခြင်းကြောင့် ဆောင်ရွက်မည့်စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင် ဘဏ်တစ်ခုခုမှ ငွေကျပ်သန်းပေါင်း (၂၂၀၀၃.၈) ကို ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ နှစ်ရှည်စီမံကိန်းချေးငွေ (Project Finance) ရယူဆောင်ရွက်မည်ဖြစ်ပြီး၊ နိုင်ငံခြားသုံးငွေဖြင့် ရင်းနှီးမြှုပ်နှံမှုအတွက် နိုင်ငံခြားဘဏ်မှ အမေရိကန်ဒေါ်လာသန်းပေါင်း (၂၈.၈) ကို

မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူမည် ဖြစ်ပါသည်။ ချေးငွေများကို အောက်ပါအတိုင်းပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်-

(က) ပြည်တွင်းချေးငွေအားရန်ကုန်-မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော်တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ ရေအားလျှပ်စစ် တည်ဆောက်ရေး ကဏ္ဍများတွင် ပါဝင်ဆောင်ရွက်လျက်ရှိသည့် ရဲရွာရေအားလျှပ်စစ် စီမံကိန်း၊ အထက်ပေါင်းလောင်းရေအားလျှပ်စစ်စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ High Tech Concrete Co., Ltd ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊ ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခုအဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခုအဆိုပြုစီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့်နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ခ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန်ပစ္စည်းများ၊ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊ ပြည်တွင်းတွင်ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်း များမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၈။ အဆိုပြုသည့် ရေအားလျှပ်စစ်စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ငွေကြေးပမာဏ၊ စီမံကိန်းချေးငွေနှင့် အတိုးနှုန်းများ၊ စီမံကိန်းမှထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဖြန့်ဖြူးမည့်နှုန်းထား၊ အဆိုပြုသည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်နှုန်းထား စသည့် အချက်များနှင့်အညီ ငွေကြေးဆိုင်ရာ စာရင်းဇယား တွက်ချက်မှုများ အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်မှ တင်ပြထားသော စီးပွားရေးဆိုင်ရာ တွက်ခြေကိုက်မှုအခြေအနေ အချက်အလက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) နိုင်ငံတော်အတွက်ရရှိမည့် အကျိုးခံစားခွင့်များ

| | | | |
|---|---|---|---|
| (ကက) | ကုန်သွယ်ခွန် | (ကျပ်) | ၉၇,၉၄၂,၀၁၆,၂၇၁.၆၈ |
| (ခခ) | ဝင်ငွေခွန် | (ကျပ်) | ၁၆၇,၇၃၄,၅၈၉,၈၇၇.၂၉ |
| | | စုစုပေါင်း(ကျပ်) | ၂၆၅,၆၇၆,၆၀၆,၁၄၈.၉၇ |

(ခ) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အကျိုးခံစားခွင့်(ကျပ်) ၄၃၈,၅၄၂,၂၈၀,၇၆၅.၂၉

(ဂ) အရင်းကြေကာလ (၁၅)နှစ်နှင့် (၁၁)လ

(ဃ) Internal Rate of Return (IRR) (၇.၀၅)%

၉။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-က)** ၊ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ခ)**၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-ဂ)** များနှင့်အညီ ရေးဆွဲထားသော ပဋိညာဉ်စာချုပ်**(နောက်ဆက်တွဲ-ဃ)** အား (၁၀.၁၁.၂၀၀၉) ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၀/၂၀၀၉) အစည်းအဝေးဆုံးဖြတ်ချက်**(နောက်ဆက်တွဲ-င)**အရ လက်မှတ်ရေးထိုးရန် သဘောတူပြီးဖြစ်ပါသည်။

၁၀။ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းသည် နိုင်ငံအတွင်းလိုအပ်သော လျှပ်စစ်ဓာတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်ဖြင့် ငွေကြေးအမြောက်အများ ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သည့် လုပ်ငန်းဖြစ်သည့်အတွက် စီမံကိန်းအားအောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် အောက်ပါအချက်များကို ခွင့်ပြုပေးပါရန် ထောက်ခံတင်ပြအပ်ပါသည်-

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား လုပ်ငန်းစတင်လည်ပတ်သည့် နှစ်မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် ယင်းကာလပြည့်ပြီးနောက် အရင်းကြေကာလမတိုင်မီ ကာလများအတွက် (၅၀)ရာခိုင်နှုန်းသက်သာခွင့် ပြုပါရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ကာလအား နှစ်(၆၀)ခွင့်ပြုပေးပါရန်နှင့် ယင်းကာလပြည့်ပြီးနောက် လုပ်ငန်းဆက်လက်လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ်တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်၊

(ဂ) တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဉ်နှင့် အခြားဆက်စပ်ပစ္စည်းများအား တင်သွင်းခွင့်ပြုပါရန်၊

၁၁။ သို့ဖြစ်ပါ၍ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်အား လုပ်ငန်းခွင့်ပြုမိန့်ချမှတ်ပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၁၂)နှင့် (၁၃)တို့အရ အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား ခံစားခွင့်ပြုပါရန် တင်ပြလာသည့် အဆိုပြုချက်အား ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးဇော်မင်း)
ဝန်ကြီး

နောက်ဆက်တွဲ(က)

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁ / ၂၇၄ (၂၅၂၅/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

သို့

ဝန်ကြီး
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၅၇-လျှပ်စစ်၁(၂)/၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား (B.O.T) (Build Operate and Transfer) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အောက်ပါ အတိုင်း ဖော်ပြအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ်(၅)အရ လျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀)အား ပဋိညာဉ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း (၂၅၀)နှင့် လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀)ကို အနာဂတ်စွမ်းအားကုမ္ပဏီက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ ပေးအပ်ရန်ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ်(၆၀)အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း(၅၀၀)သာ ရရှိမည်ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ်(မူကြမ်း) အပိုဒ်၂၂(ခ)တွင် ပဋိညာဉ်စာချုပ် သက်တမ်းကာလအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဟုဖော်ပြထားရာ ယခင် B.O.T စနစ်ဖြင့်ဆောင်ရွက်ခဲ့သည့်လုပ်ငန်းစီမံကိန်းများတွင် B.O.T ၏သက်တမ်းအား နှစ်(၃၀)မှ (၃၅) နှစ်အထိသာ ခွင့်ပြုလေ့ရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ်၂၂(ဂ)တွင်ပဋိညာဉ်၏သက်တမ်းအားတိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့် ယခုပဋိညာဉ်၏ သက်တမ်းအား ကနဦးနှစ်(၃၀)သာ ခွင့်ပြု၍

နောက်ထပ်သက်တမ်း ထပ်မံတိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုခြင်းသာလျှင် သင့်လျော်မည်ဟု ယူဆပါသည်။

(ဂ) အဆိုပါပဋိညာဥ်စာချုပ်(မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဥ်း၍ ထည့်သွင်းဖော်ပြထားခြင်းမရှိသည့်အတွက် သဘောထားမှတ်ချက်ပြုရန်မရှိပါ။ သို့ရာတွင်လုပ်ငန်းဆောင်ရွက်ပေးခြင်းအတွက် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သို့စာချုပ်အရပေးချေသည့်တန်ဖိုးအပေါ်တွင်လည်းကောင်း၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်ကလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ တစ်ဆင့်ခံဆောင်ရွက်စေခြင်းအတွက် ပေးချေသည့်တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင် လည်းကောင်း ပင်ရင်းမှ နှုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် (Withholding Tax)ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဃ) ထို့အပြင် စီမံကိန်းလုပ်ငန်းအတွက် ပြည်တွင်းပြည်ပမှငှားရမ်းသည့် အတိုင်ပင်ခံများ၊ကျွမ်းကျင်သူများ၊ဝန်ထမ်းများအား ထုတ်ပေးသည့် လစာခေါင်းစဥ်မှ ဝင်ငွေခွန်ကိုနှုတ်ယူဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။ စီမံကိန်းတည်ဆောက်ပြီးစီး၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသဖြင့် ရရှိသည့်ရောင်းရငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့်လုပ်ငန်းမှရရှိသည့်အသားတင်အမြတ်ဝင်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊နည်းဥပဒေ၊စည်းမျဥ်းနှင့်အမိန့်ကြော်ငြာစာများနှင့်အညီပေးဆောင်ရန်တာဝန်ရှိပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးကြီးလှသိန်းဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို

မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

hh//1-274(sep)- 3

နောက်ဆက်တွဲ(၃)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**

**ရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၄ - ၁၃ /နပတ( ၃၂၉ )

ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ စက်တင်ဘာလ၁၆ရက်

အကြောင်းအရာ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင် ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂ - ၉-၂၀၀၉ ရက်စွဲပါစာအမှတ် ၁၅၇-လျှပ်စစ် ၁(၂)/ ၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့အကြားဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအားB.O.T(တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင်နိဒါန်းအပိုင်း၌ရည်ညွှန်းထားသောပူးတွဲ(၁)မှာမြေပုံပူးတွဲပါရှိခြင်းမရှိပါ။ ယင်းနောက်ဆက်တွဲသည်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲများကို ပြည့်စုံစွာပူးတွဲထားရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် မြေအသုံးချမှုပရီမီယံ(Land Use Premium) ပါရှိသော်လည်း မြေငှားရမ်းခမပါရှိသဖြင့် ဌာနအနေဖြင့်ရယူလိုခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံငွေရယူထားခြင်းမရှိသဖြင့် လုပ်ငန်းအာမခံရယူရန်သင့်မသင့်စဉ်းစားသင့်ပါသည်။လုပ်ငန်းအာမခံငွေထားရှိလျှင် ယင်း၏ဘဏ်အာမခံ

ပုံစံအားစာချုပ်တွင် ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာစံညွှန်းဟု ဖော်ပြထားရာ နောင်အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဂ)တွင် ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကိုဝန်ကြီးဌာနမှခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်ကြောင်းဖော်ပြထားရာ မည်သည့်ဝန်ကြီးဌာနဖြစ်ကြောင်းကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဇ)ပါ လုပ်ငန်းခွင့်ပြုသူအချိန်တိုးပေးခြင်းနှင့်စပ်လျဉ်းသည့် ကိစ္စရပ်မှာလုပ်ငန်းခွင့်ပြုသူနှင့် သက်ဆိုင်သဖြင့်လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဏ)တွင်ဖော်ပြထားချက်မှာ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် သက်ဆိုင်သဖြင့်စာချုပ်သက်တမ်းခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၉(က)တွင်လုပ်ငန်းစတင်သည့်နေ့ကိုလုပ်ငန်းခွင့်ပြုသူမှလုပ်ငန်းစတင်ရန်အကြောင်းကြားစာကိုလုပ်ငန်းလုပ်ကိုင်သူမှလက်ခံရရှိသည့်နေ့ဟုဖော်ပြထားရာနောင်အငြင်းပွားမှုပေါ်ပေါက်နိုင်သဖြင့်ယင်းနေ့ကိုအတိအကျသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၁၆ လုပ်ငန်းလုပ်ကိုင်သူ၏ပျက်ကွက်မှုနှင့်ပတ်သက်၍အပိုဒ်(ခ) ပါအတိုင်း လုပ်ငန်းလုပ်ကိုင်သူသည် သတ်မှတ်ကာလကျော်လွန်မှ စာချုပ်လုပ်ငန်းများကိုဆောင်ရွက်ပြီးစီးပါက ဌာနအနေဖြင့် ရက်လွန်ကြေး၊ ဒဏ်ကြေးရယူရန်သင့် မသင့် စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၈(ဃ)၌ စာချုပ်ရပ်စဲခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်းကြောင့်ဖြစ်ပါက မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မည်သည့်ကာလအထိ ဆက်တိုက်ဖြစ်ပေါ်ခြင်းကို ဆိုလိုကြောင်းကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်ညှိနှိုင်းသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)၌ စာချုပ်ကာလမှာလျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးသည့် နေ့ရက်မှစတင်ကြောင်းဖော်ပြထားရာ နောင် နှစ်ဖက်အငြင်းပွားမှုမဖြစ်စေရန် " စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" သည် မည် သည်ကိုဆိုလိုကြောင်းအဓိပ္ပာယ်ဖွင့်ဆိုချက်များတွင်ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)ပါစာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစ၍ နှစ်ပေါင်း ၆၀ ဖြစ်သဖြင့် စာချုပ်အကျိုးသက် ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက် မတိုင်မီအထိ စာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမရှိသည်ကို သတိမူသင့် ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)တွင် B.O.T စာချုပ်များတွင်ပါလေ့ရှိသော သယံဇာတပစ္စည်းတွေ့ရှိ ခြင်းစာပိုဒ်ပါရှိလာခြင်းမရှိသည့်အတွက် ယင်းစာပိုဒ်အားမင်နီဖြင့် ရေးသားပေးလိုက်ပါ သည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် လွှဲပြောင်း၍မရနိုင်သောအခွင့်အရေးစာပိုဒ်မပါရှိသဖြင့် ရေးသား ပေးလိုက်ပါသည်၊

(ဏ) စာချုပ်သက်တမ်းအတွင်း လျှပ်စစ်ဓါတ်အားခနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ရယူရန် အစီအစဉ်ရှိ မရှိ၊ ရယူပါက မည်သို့ရယူမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(တ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်သူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ၌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၆.၉.၀၉

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)

( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

**အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**



C:\Documents and Settings\user\UKMT\Future Energy(EPC 1)(9-9-09)doc.doc

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ နစ/ဃ-၁/ ၅၁၉ / ၂၀၀၉ (၃၂၅၃)
ရက်စွဲ ။၂၀၀၉ခုနှစ်၊အောက်တိုဘာလ ( ၁ )ရက်

<u>အမှာစာ</u>

အကြောင်းအရာ။ ။ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား Build, Operate and Transfer (B.O.T) စနစ်ဖြင့် ဆောင်ရွက်ရေးဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေးရန် ကိစ္စ။

ရည်ညွှန်းချက် ။ ။အမှတ် (၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ၏ ၂.၉.၂၀၀၉ ရက်စွဲပါ စာ အမှတ် ၁၅၇ / လျှပ်စစ် ၁- (၂) / ၄၁၅၆ / ၂၀၀၉

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း အတွက် ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန(DHPP) နှင့်အနာဂတ် စွမ်းအားကုမ္ပဏီလီမိတက် (လုပ်ငန်းလုပ်ကိုင်သူ)တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) နှင့် စပ်လျဉ်း၍ အောက်ပါ သဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

၁။ စာချုပ် (မူကြမ်း)အရ တပ်ဆင်စက်အင်အား ၄၈ မဂ္ဂါဝပ်ရှိသည့် ဘီလူးချောင်း(၃) ရေအား လျှပ်စစ် စီမံကိန်း ကို လုပ်ငန်းလုပ်ကိုင်သူအား တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စနစ် ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် ချုပ်ဆိုခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည် ။

၂။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူမှ ရေအားလျှပ်စစ် စီမံကိန်းအတွက် စူးစမ်း လေ့လာခြင်း၊ စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊ ဒီဇိုင်းရေးဆွဲ ပုံစံထုတ်လုပ်ခြင်း ၊ရေလွှဲ အဆောက်အအုံ ၊ရေသွင်းမြောင်းများ ရေသွယ်ဥမင်လိုဏ်ခေါင်းများ တည်ဆောက်ခြင်း ၊ ရေအား လျှပ်စစ်စက်ရုံ ထိန်းသိမ်း ဆောင်ရွက်ခြင်း နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူ မှ မြေယာအသုံးချမှု ပရီမီယံကြေး သိန်း (၅၀၀) ပေးသွင်းရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ စာချုပ် (မူကြမ်း)အရ DHPP အနေဖြင့် စီမံကိန်း အတွက် မြေအသုံးချရန် ခွင့်ပြုချက် ရရှိရေး၊ လုပ်ငန်းလုပ်ကိုင်ရန် နှင့် ခွင့်ပြုမိန့်များရရှိရေး လျှပ်စစ်ဓါတ်အား ရောင်းချရန် အတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများ နှင့် ညှိနှိုင်းရေး စသည်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ စာချုပ် (မူကြမ်း)တွင် စီမံကိန်းတည်ဆောက်ရေးကာလကို (၄) နှစ် သတ်မှတ်ထားပြီး စာချုပ် သက်တမ်းကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ နှစ်ပေါင်း(၆၀) သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။

၆။ စာချုပ် (မူကြမ်း) အရ မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်သူမှ ပေးရန်ဖြစ်ပြီး မြေငှားရမ်းခ သီးခြားပါဝင်ခြင်း မရှိကြောင်းတွေ့ရှိရပါသည်။

၇။ B.O.T (မူကြမ်း) အရ လုပ်ငန်းလုပ်ကိုင်သူထံမှ လုပ်ငန်းဆောင်ရွက်မှု အာမခံရယူရန် သင့် - မသင့် စဉ်းစားသင့် ပါကြောင်း အကြံပြုအပ်ပါသည်။

၈။ စာချုပ်(မူကြမ်း)တွင် အပိုဒ် ၇(ဆ)(ဇ)၊၈(တ)နှင့် အပိုဒ်၂၂(က)တွင် မင်နီဖြင့်ပြင်ဆင်ပေးထား ကြောင်းဖော်ပြအပ်ပါသည်။

စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီးစီးပါက မိတ္တူ (၂)စောင်ကို ဤဦးစီးဌာနသို့ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား )
(မောင်မောင်ခင်-ညွှန်ကြားရေးမှူး)

<u>အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန</u>

(ဂ) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”** အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက် ပေးရမည်။

(ဃ) **“လုပ်ငန်းခွင့်ပြုသူ”**သည် ဆိုခဲ့သည့် **“လျှပ်စစ်စီမံကိန်း”**အတွက် လိုအပ်မည့် မြေနေရာ သုံးစွဲခွင့် ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) **“လုပ်ငန်းခွင့်ပြုသူ”**သည် **“လျှပ်စစ်စီမံကိန်း”**အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **“လျှပ်စစ်စီမံကိန်း”** အတွက် **“လုပ်ငန်းလုပ်ကိုင်သူ”** သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ ကူညီဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက **“လုပ်ငန်းလုပ်ကိုင်သူ”** နှင့် အဆိုပါ ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြားသဘောတူညီချက် စာချုပ်များ ချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”**မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်း များနှင့် ညှိနှိုင်း စီစဉ်ဆောင်ရွက်ပေးရမည်။

(ပ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့် ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များအရ လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" က တာဝန်ယူရမည်။

(ဖ) "လုပ်ငန်းခွင့်ပြုသူ" မှ ခွင့်ပြုထားသော "လျှပ်စစ်စီမံကိန်း" ၏စာချုပ်ပါ လုပ်ငန်း ကာလပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်သူ" သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်း တိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" ထံ တင်ပြ လျှောက်ထားရမည်။

(ဗ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ "လုပ်ငန်းလုပ်ကိုင်သူ" သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဘ) လုပ်ငန်းလုပ်ကိုင်သူသည် ၁၀ ဧက အပိုင်ကွက် ၃ ခု ဒေသနှင့်ဘာသာရေးအသုံးပြုရန် အခမဲ့ ပေးအောင်ပြုမည်။

နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည်။

(က) "စတင်ဆောင်ရွက်မည့်နေ့" မှာ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို "လုပ်ငန်းလုပ်ကိုင်သူ" မှ လက်ခံရရှိသည့်နေ့ ဖြစ်သည်။

(ခ) "တည်ဆောက်ရေးကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

**ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ**

၂၂။ ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) ဤပဋိညာဉ်စာချုပ်သည် [handwritten insertion, illegible] စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လအတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် တိုးမြှင့်ခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့်သာ ပဋိညာဉ်စာချုပ်သက်တမ်း တိုးရန်ဖြစ်သည်။

နောက်ဆက်တွဲ (ဃ)

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

## အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

## ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

## အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြား

## ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စီမံကိန်းအား

# B.O.T

## (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

## ပဋိညာဉ်စာချုပ်

၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာလ

ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T** (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ် (မူကြမ်း)

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၉ခုနှစ်၊ ဒီဇင်ဘာလ၊ ( )ရက်နေ့၌ ညွှန်ကြားရေးမှူးချုပ်၊ ဦးကြီးစိုး ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အဆောက်အဦ အမှတ်(၃၈)၊ နေပြည်တော် (ဤမှနောင်တွင် "လုပ်ငန်းခွင့်ပြုသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးအောင်ဇော်နိုင် ကိုယ်စားပြုသောပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် အမှတ် ၅၈၄၊ ဟိုင်းတက်တာဝါ၊ ပထမထပ်၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်သူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

နိဒါန်း

"လုပ်ငန်းလုပ်ကိုင်သူ" သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆) မိုင်ခန့် အကွာရှိ နောက်ဆက်တွဲ(၁)မြေပုံပါ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှ ထုတ်လုပ်မည့်ဓါတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၃၃၄) ထွက်ရှိမည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်း (ဤမှနောင်တွင် "လျှပ်စစ်စီမံကိန်း" ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့်လုပ်ငန်း၏ အကျိုးခံစားခွင့်များကို စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည်-

အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ" ဆိုသည်မှာ ဤ "လျှပ်စစ်စီမံကိန်း" ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည် ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) "အမြဲတမ်းလုပ်ငန်းများ" ဆိုသည်မှာ ဤစာချုပ်ပါ "လျှပ်စစ်စီမံကိန်း" လုပ်ငန်းတွင် အကျုံးဝင်သောပုံစံပြု၍ ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) "တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ်-၈ (၃) အရ "လုပ်ငန်းလုပ်ကိုင်သူ"ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ဃ) "စက်ရုံ၊ အလုပ်ရုံ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ၊ "လုပ်ငန်းလုပ်ကိုင်သူ" မှ ဤ "လျှပ်စစ်စီမံကိန်း" လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) "လုပ်ငန်းခွင်နေရာ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်း အပိုင်း၏နေရာများ၊ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) "စာချုပ်" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) "လျှပ်စစ်ဓါတ်အား" ဆိုသည်မှာ "လျှပ်စစ်စီမံကိန်း"မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ် ဓါတ်အားကို ဆိုလိုသည်။

(ဇ) "စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" ဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေးစက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်ထုတ်လုပ်ရောင်းချ ပေးခြင်းကို ဆိုလိုသည်။

အာမခံချက်နှင့်ကိုယ်စားပြုခြင်း

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူ ဖြစ်ကြောင်းနှင့် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသူများ ဖြစ်ကြောင်း အာမခံပါသည်။ "လုပ်ငန်းလုပ်ကိုင်သူ" သည် ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှုရှိသူဖြစ်ကြောင်း အာမခံပါသည်။

ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်

၃။ ဤ "လျှပ်စစ်စီမံကိန်း" လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊

(ခ) ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီး ထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကိုပူးပေါင်း၍ ရေသွင်းတံခါးမှတစ်ဆင့် အဓိက ဥမင်လိုဏ်ခေါင်း (Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း၊

(ဂ) ဘီလူးချောင်းမှရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း၊

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား (၄.၃)ကီလိုမီတာ၊ အကျယ် (အချင်း) (၄.၉) မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း၊

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ (၅၀,၀၀၀) ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များ တည်ဆောက်ခြင်း၊

(စ) အလျား (၁၈၈) မီတာနှင့် အကျယ် (အချင်း) (၃.၈) မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း၊

(ဆ) ဖရန်စစ်အမျိုးအစား (၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများတပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ (Surface Type Power House) တည်ဆောက်ခြင်း၊

(ဇ) စက်ရုံမှထွက်လာသည့်ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ်ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း၊

(ဈ) မြေပေါ်ခေတ်အားခွဲရုံ (၁)ခုတည်ဆောက်ခြင်း၊

(ည) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ အမှတ် (၂) ရေအားလျှပ်စစ်စက်ရုံသို့ (၄. ၅)ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီလျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း၊

(ဋ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ် (၂) ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း၊

(ဌ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း၊

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း၊

(ဎ) လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း၊

အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် **(Concession Rights)**

၄။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း"ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းပေါ်နှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" က ဆောင်ရွက်ပေးရမည်။

မြေအသုံးချမှု ပရီမီယံ **(Land Used Premium)**

၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် "လုပ်ငန်းခွင့်ပြုသူ" အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည် -

(က) ဤပဋိညာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) "လျှပ်စစ်စီမံကိန်း"၏ တည်ဆောက်ရေးကာလပြီးနောက် "လျှပ်စစ်ဓါတ်အား" စီးပွားဖြစ်စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

စံချိန်စံညွှန်းများ

၆။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" လုပ်ငန်းကို အဆင့်ဆင့် ဆောင်ရွက်ရာတွင် "လုပ်ငန်းခွင့်ပြုသူ" မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို

အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များ အတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

"လုပ်ငန်းခွင့်ပြုသူ"၏တာဝန်များ

၇။ "လုပ်ငန်းခွင့်ပြုသူ"၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" ၏ ပဋိညာဉ်စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက်ပေးရမည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ" သည် ဆိုခဲ့သည့် "လျှပ်စစ်စီမံကိန်း" အတွက် လိုအပ်မည့်မြေနေရာသုံးစွဲခွင့်ကို ဥပဒေပြဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) "လျှပ်စစ်စီမံကိန်း" အတွက် "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများ ဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ "လုပ်ငန်းခွင့်ပြုသူ" မှ ကူညီ ဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက

"လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြား သဘောတူညီချက် စာချုပ်များချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို "လုပ်ငန်းလုပ်ကိုင်သူ" မှ သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ညှိနှိုင်းစီစဉ်ဆောင်ရွက်ပေးရမည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကိုပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းခွင့်ပြုသူ" ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ "လုပ်ငန်းခွင့်ပြုသူ" သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

"လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ

၈။ "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်း ပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်းမှဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကို အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(င) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်သူ"သည် "လျှပ်စစ်စီမံကိန်း" ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက အဆိုပြုချက် အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ၊

(ဆ) "လုပ်ငန်းလုပ်ကိုင်သူ" သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) "လျှပ်စစ်စီမံကိန်း" လုပ်ငန်းဆောင်ရွက်ရာတွင် "လုပ်ငန်းလုပ်ကိုင်သူ" သည် သစ်တော ဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက် မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ၊

(ည) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဋ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် ကာလအတွင်း "လျှပ်စစ်စီမံကိန်း"ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဌ) "လုပ်ငန်းလုပ်ကိုင်သူ" ၏ "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ဍ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့်

ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" က တာဝန်ယူရမည်။

(ဎ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်းချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ "လုပ်ငန်းလုပ်ကိုင်သူ" သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဏ) "လုပ်ငန်းလုပ်ကိုင်သူ"သည်သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများပေးဆောင်ရမည်။

နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည် -

(က) "လုပ်ငန်းစတင်သည့်နေ့" မှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးသည့်နေ့ ဖြစ်ပါသည်။

(ခ) "တည်ဆောက်ရေးကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) "အကျိုးသက်ရောက်သည့်နေ့" မှာ "လုပ်ငန်းခွင့်ပြုသူ"၏ တရားဝင် အကြောင်းကြားချက်အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုးသက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေး ကာလတိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း

၁၀။ ဤစာချုပ်၏ "လျှပ်စစ်စီမံကိန်း" မှ "လျှပ်စစ်ဓါတ်အား" ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

သယံဇာတပစ္စည်းတွေ့ရှိခြင်း

၁၁။ "လုပ်ငန်းလုပ်ကိုင်သူ" သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသော မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက "လုပ်ငန်းခွင့်ပြုသူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများ ဖြစ်စေရမည်။ "လုပ်ငန်းခွင့်ပြုသူ" သည် အဆိုပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

လုပ်ငန်းတန်ဖိုး

၁၂။ ဤစာချုပ် ချုပ်ဆိုသည့် "လျှပ်စစ်စီမံကိန်း" ၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၁၀၅,၁၁၈. ၉၁) (ကျပ် တစ်သိန်းငါးထောင် တစ်ရာ တစ်ဆယ့်ရှစ် ဒသမ ကိုးတစ်သန်း) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန် ဒေါ်လာသန်းပေါင်း(၈၂. ၆၇) (အမေရိကန်ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနစ်သန်း) ဖြစ်ပါသည်။

လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၆)လအတွင်း "လုပ်ငန်းခွင့်ပြုသူ"ထံ တင်သွင်းရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လစဉ် တိုးတက်မှုအစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး "လုပ်ငန်းခွင့်ပြုသူ" ထံ တင်သွင်းရမည်။

စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း

၁၄။ "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို "လုပ်ငန်းခွင့်ပြုသူ" က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ "လုပ်ငန်းခွင့်ပြုသူ" ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက "လုပ်ငန်းခွင့်ပြုသူ" က ကန့်ကွက်နိုင်သည့်အပြင် "လုပ်ငန်းလုပ်ကိုင်သူ" ထံ ချက်ချင်း အကြောင်းကြားရမည်။ "လုပ်ငန်းလုပ်ကိုင်သူ" သည် ချို့ယွင်းချက်ကို (၁) လ အတွင်းကောင်းစွာ

ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန်လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်နေသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ဆိုင်းငံ့ထားနိုင်သည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု

၁၇။ "လုပ်ငန်းလုပ်ကိုင်သူ"၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါလုပ်ငန်းကို ပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်းမပြုလျှင်၊ "လုပ်ငန်းခွင့်ပြုသူ"မှ အဆိုပါ

ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ"သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ကျန်ရှိသောလုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းတန်ဖိုး၏ ၀.၅% အား ရက်သတ္တတစ်ပတ် နောက်ကျတိုင်း "လုပ်ငန်းခွင့်ပြုသူ" ထံပေးဆောင်ရန်နှင့် ထိုသို့ပေးဆောင်မှုသည် ကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန်မှန်းခြေစာရင်းများ၏ စုစုပေါင်း တန်ဖိုး၏ ၅%ကို မကျော်လွန်စေရပါ။ ထို့အပြင် "လုပ်ငန်းခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်သူ" ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟု ယူဆပါက စာချုပ်လုပ်ငန်းအား လုပ်ငန်းခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါက လည်းကောင်း၊ ဤစာချုပ် "လုပ်ငန်းခွင့်ပြုသူ" မှ သိမ်းယူပါက လည်းကောင်း၊ တတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော် "လုပ်ငန်းလုပ်ကိုင်သူ" ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့်ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်မှု ရှိသည်။

ပြောင်းလဲခြင်းများ

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင် ပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို "လုပ်ငန်းခွင့်ပြုသူ" ထံမှအတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် ပုံစံပြုလွှာအသစ်၊ လုပ်ငန်း အစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် "လုပ်ငန်းလုပ်ကိုင်သူ" ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) "လုပ်ငန်းခွင့်ပြုသူ" မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြု အမိန့်များ (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) "လုပ်ငန်းခွင့်ပြုသူ" သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းကို မဆို "လုပ်ငန်းလုပ်ကိုင်သူ" အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည့်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ "လုပ်ငန်းလုပ်ကိုင်သူ" ၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) "လုပ်ငန်းခွင့်ပြုသူ" သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင် သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက်ရှိအောင် ဆက်လက် ဆောင်ရွက်ပေးရမည်။

ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်-

( က ) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လ ကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း၊

( ခ ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

( ဂ ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) (၁၂) လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း။

( င ) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

ပြင်ဆင်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၂၂။ ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဤပဋိညာဉ်စာချုပ်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီးစာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အား နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး "လျှပ်စစ်စီမံကိန်း" မှ "လျှပ်စစ်ဓါတ်အား" စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍နောက်ထပ် နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လကြိုတင်၍ စာချုပ်ဝင် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် ပဋိညာဉ်စာချုပ်သက်တမ်း တိုးမြှင့်နိုင်သည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ" မှ ခွင့်ပြုထားသော "လျှပ်စစ်စီမံကိန်း" ၏စာချုပ်ပါ လုပ်ငန်း ကာလပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်သူ" သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" ထံ တင်ပြလျှောက်ထားရမည်။

ခွင့်ပြုလွှဲအပ်ခြင်း

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှုစာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

အာမခံထားရှိခြင်း

၂၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

အထွေထွေကိစ္စရပ်များ

၂၆။ (က) တရားမဝင်ခြင်း။ ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။ ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင် လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း ။ ။ စာချုပ်ရပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာကာလအတွင်း စာချုပ်ပါမြေနှင့် "လျှပ်စစ်စီမံကိန်း" ၌ ရင်းနှီးမြှုပ်နှံထားသောပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို "လုပ်ငန်းလုပ်ကိုင်သူ" က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ "လုပ်ငန်းခွင့်ပြုသူ" ထံ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) လွှဲပြောင်း၍မရနိုင်သောအခွင့်အရေး။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်း ပိုင်ဆိုင်ခွင့်နှင့် မူလဘူတ အခွင့်အရေးကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတ ဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက်အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

(င) တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။ ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ (၉) အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို "လုပ်ငန်းလုပ်ကိုင်သူ" က ထမ်းဆောင်ရမည် ဖြစ်ပါသည်။

(စ) အကြောင်းကြားစာများ။ ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှ တစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်

လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှနောင်တွင် "အကြောင်းကြားစာ" ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက် မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှ ပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိတ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဆ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

ဆက်သွယ်ရန်လိပ်စာများ

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန
ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် - ၀၆၇-၄၁၁၀၆၇

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်
အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့၊
ဖက်(စ်)အမှတ် -(၉၅)-၁-၂၁၁၆၉၆, ၂၁၁၉၅၇

နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း

၂၈။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှုစာချွန်လွှာကို ဤပဋိညာဉ် စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

စာချုပ်လက်မှတ်ရေးထိုးခြင်း

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ၊ ------ ရက်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန (ကိုယ်စား) အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

(ဦးကြီးစိုး)
ညွှန်ကြားရေးမှူးချုပ်

(ဦးအောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ

<u>အသိသက်သေများ</u>

| | | | |
|---|---|---|---|
| အမည် | ၊ ဦးဘုန်းမြင့် | အမည် | ၊ ဦးရဲမြင့် |
| ရာထူး | ၊ ဒုတိယညွှန်ကြားရေးမှူးချုပ် | ရာထူး | ၊ ဒါရိုက်တာ |
| ဌာန | ၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန | ဌာန | ၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် |

နောက်ဆက်တွဲ(ဂ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရကာ-၆(က)/မ-၁၀၁၂၊၁၀၁၈/၂၀၀၉ (၂၀၅၇၅)
ရက်စွဲ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာလ ၂၀ ရက်။

သို့/

ဝန်ကြီးရုံး၊
အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ <u>သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းတို့အား BOT(Build, Operate and Transfer) စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာခြင်း ကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏

(၁) (၁၉-၁၀-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁၀ - လျှပ်စစ် ၁ (၁) / ၄၃၃၉ / ၂၀၀၉ (သောက်ရေခပ် -၂)

(၂) (၂၁-၁၀-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂)/-၄၈၄၉ / ၂၀၀၉ (ဘီလူးချောင်း - ၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်းကို(၁၀-၁၁-၂၀၀၉)နေ့တွင်ကျင်းပသော ဤကော်မရှင်၏ (၄၀/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည် ။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) သောက်ရေခပ်(၂)ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့အား BOT စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ် စာချုပ် လက်မှတ် ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြချက်ကို ကော်မရှင်မှ သဘောတူကြသည်။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၁၂)နှင့် (၁၃) တို့အရ အခွန် အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားနိုင်ရေးအတွက် စီးပွားရေး ဆိုင်ရာ အချက်အလက်များ ဖော်ပြလျှက် အဆိုပြုလွှာ တင်ပြနိုင်ရေး ဆောင်ရွက်ရန်၊

Thoukyaekhet

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင် ပါရန် အကြောင်းကြားအပ်ပါသည်။

ဦးတင့်ဌေး (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန။

(၂) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန။

(၃) ရွှေစွမ်းအင် ကုမ္ပဏီလီမိတက်။

(၄) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။

(၅) ရုံးလက်ခံ/ မျှောစာတွဲ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

M-1742
9/12

စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁(၂)/၅၆၂၀/ ၂၀၀၉
ရက်စွဲ ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ( ၉ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အမှာစာ**

အကြောင်းအရာ။ **ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T (Build, Operate and Transfer) (တည်ဆောက်၊ မောင်းနှင်၊ လွှဲပြောင်း) စနစ်ဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့်ပြုပါရန်ကိစ္စ**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတအရင်းအမြစ်များကို အကျိုးရှိစွာအသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော်ဆောင်ရွက်လျှက်ရှိရာတွင် "ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ရေအားလျှပ်စစ်စီမံကိန်းများအား ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်လျှက်ရှိပါသည်။

၂။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း(၃၃၄) ထွက်ရှိမည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)အား နှစ်ဖက်ညှိနှိုင်းပြုစုခဲ့ကြပါသည်။

၃။ ညှိနှိုင်းပြုစုထားသော ပဋိညာဉ်စာချုပ်(မူကြမ်း)အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်အနေဖြင့် ဆောင်ရွက်မည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း။

(ခ) ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီးထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း(Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း။

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း။

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဥ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား(၄.၃)ကီလိုမီတာ၊ အကျယ်(အချင်း)(၄.၉)မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း။

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ(၅၀,၀၀၀)ဆန့် ကွန်ကရစ်ရေထိန်းကန်(၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များတည်ဆောက်ခြင်း။

(စ) အလျား(၁၈၈)မီတာနှင့် အကျယ်(အချင်း)(၃.၈)မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း။

(ဆ) ဖရန်စစ်အမျိုးအစား(၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက်(၂)လုံးနှင့် ဆက်စပ်ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ(Surface Type Power House) တည်ဆောက်ခြင်း။

(ဇ) စက်ရုံမှထွက်ရှိလာသည့် ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း။

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ(၁)ခု တည်ဆောက်ခြင်း။

(ည) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ်(၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅) ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီ လျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း။

(ဋ) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း။

(ဌ) ရုံးအဆောက်အဦးနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း။

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်းမောင်းနှင်ခြင်း။

(ဎ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း။

၄။ စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၁၀၅၆၁၄.၉၇ (ကျပ် တစ်သိန်း ငါးထောင် ခြောက်ရာ တစ်ဆယ့်လေးသန်း၊ ကိုးသိန်း ခုနှစ်သောင်းတိတိ)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ(၈၂.၆၇)သန်း (အမေရိကန်ဒေါ်လာရှစ်ဆယ့်နှစ်သန်းခြောက်သိန်း ခုနှစ်သောင်း တိတိ) ဖြစ်ပါသည်။

စီမံကိန်းတည်ဆောက်ရေး ကာလမှာ(၄)နှစ်ဖြစ်ပြီး စုစုပေါင်းလုပ်ပိုင်ခွင့်ကာလမှာ လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလအား ဆက်လက်တိုးမြှင့်လိုပါက စည်းမျဉ်းစည်းကမ်းချက်များနှင့် အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြ၍(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်သက်တမ်း တိုးမြှင့်နိုင်မည်ဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလကုန်ဆုံးပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ်ပစ္စည်းများအား အခမဲ့လွှဲပြောင်း ပေးအပ်မည်ဖြစ်ပါသည်။ လုပ်ငန်းများအား အရှိန်အဟုန်ဖြင့် ဆောင်ရွက်လျှက်ရှိရာတွင် ၂၀၁၉ခုနှစ်၊ အောက်တိုဘာလအထိ (၁၄.၅၉) ရာခိုင်နှုန်း ပြီးစီးပြီဖြစ်ပါသည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် စုစုပေါင်းကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ) ကို အောက်ပါအတိုင်း ပေးအပ်မည်ဖြစ်ပါသည်-

(က) ပဋိညာဉ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း(၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ ) ကို ပေးအပ်ရန်။

(ခ) တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓာတ်အားဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီဖြန့်ဖြူးရောင်းချမည်ဖြစ်ပြီး သဘောတူခွင့်ပြုမည့် အောက်ပါနည်းလမ်းများမှ တစ်ခုခုဖြင့် စီမံကိန်းပြီးစီးသည့် အချိန်တွင် ဖြစ်ပေါ်မည့်ဓာတ်အားခန့်မှန်းထားဖြင့် ရောင်းချမည်ဖြစ်ပါသည်-

(က) ဘီလူးချောင်းအမှတ်(၃) လျှပ်စစ်ဓာတ်အားခွဲရုံတွင် မီတာတပ်ဆင်ရောင်းချသောစနစ် (Metering at the Fence of Baluchaung No.3 Hydropower Project) ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍလုပ်ငန်းဌာန တစ်ခုခုသို့ ရောင်းချခြင်း၊ (သို့မဟုတ်)

(ခ) နယ်မြေဒေသတစ်ခုခု၊ စက်မှုဇုန်တစ်ခုခုသို့ ဖြန့်ဖြူးရောင်းချခြင်း၊ (သို့မဟုတ်)

(ဂ) ပြည်ပအိမ်နီးချင်းနိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်း၊

၇။ အဆိုပြုစီမံကိန်းသည် ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏများပြားခြင်းကြောင့် ဆောင်ရွက်မည့်စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင် ဘဏ်တစ်ခုခုမှ ငွေကျပ်သန်းပေါင်း (၂၂၀၀၃.၈) ကို ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ နှစ်ရှည်စီမံကိန်းချေးငွေ (Project Finance) ရယူဆောင်ရွက်မည်ဖြစ်ပြီး၊ နိုင်ငံခြားသုံးငွေဖြင့် ရင်းနှီးမြှုပ်နှံမှုအတွက် နိုင်ငံခြားဘဏ်မှ အမေရိကန်ဒေါ်လာသန်းပေါင်း (၂၈.၈) ကို

မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူမည် ဖြစ်ပါသည်။ ချေးငွေများကို အောက်ပါအတိုင်းပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်-

(က) ပြည်တွင်းချေးငွေအားရန်ကုန်-မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော်တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ ရေအားလျှပ်စစ်တည်ဆောက်ရေး ကဏ္ဍများတွင် ပါဝင်ဆောင်ရွက်လျက်ရှိသည့် ရဲရွာရေအားလျှပ်စစ်စီမံကိန်း၊ အထက်ပေါင်းလောင်းရေအားလျှပ်စစ်စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ High Tech Concrete Co., Ltd ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊ ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခုအဆိုပြုစီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခုအဆိုပြုစီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ်မြောက်သည့်နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ခ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြားပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန်ပစ္စည်းများ၊ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊ ပြည်တွင်းတွင်ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၈။ အဆိုပြုသည့် ရေအားလျှပ်စစ်စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ငွေကြေးပမာဏ၊ စီမံကိန်းချေးငွေနှင့် အတိုးနှုန်းများ၊ စီမံကိန်းမှထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဖြန့်ဖြူးမည့်နှုန်းထား၊ အဆိုပြုသည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်နှုန်းထား စသည့် အချက်များနှင့်အညီ ငွေကြေးဆိုင်ရာ စာရင်းဇယား တွက်ချက်မှုများအရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်မှ တင်ပြထားသော စီးပွားရေးဆိုင်ရာ တွက်ခြေကိုက်မှုအခြေအနေ အချက်အလက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) နိုင်ငံတော်အတွက်ရရှိမည့် အကျိုးခံစားခွင့်များ

| | |
|---|---|
| (ကက) ကုန်သွယ်ခွန် (ကျပ်) | ၉၇,၉၄၂,၀၁၆,၂၇၁.၆၈ |
| (ခခ) ဝင်ငွေခွန် (ကျပ်) | ၁၆၇,၇၃၄,၅၈၉,၈၇၇.၂၉ |
| စုစုပေါင်း(ကျပ်) | ၂၆၅,၆၇၆,၆၀၆,၁၄၈.၉၇ |

(ခ) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အကျိုးခံစားခွင့်(ကျပ်) ၄၃၈,၅၄၂,၂၈၀,၇၆၅.၂၉

(ဂ) အရင်းကြေကာလ (၁၅)နှစ်နှင့် (၁၁)လ

(ဃ) Internal Rate of Return (IRR) (၇.၀၅)%

၉။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-က)** ၊ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-ခ)**၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ သဘောထားမှတ်ချက် **(နောက်ဆက်တွဲ-ဂ)** များနှင့်အညီ ရေးဆွဲထားသော ပဋိညာဉ်စာချုပ် **(နောက်ဆက်တွဲ-ဃ)** အား (၁၀.၁၁.၂၀၀၉) ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၀/၂၀၀၉) အစည်းအဝေးဆုံးဖြတ်ချက် **(နောက်ဆက်တွဲ-င)** အရ လက်မှတ်ရေးထိုးရန် သဘောတူပြီးဖြစ်ပါသည်။

၁၀။ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းသည် နိုင်ငံအတွင်းလိုအပ်သော လျှပ်စစ်ဓာတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်ဖြင့် ငွေကြေးအမြောက်အမြား ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သည့် လုပ်ငန်းဖြစ်သည့်အတွက် စီမံကိန်းအားအောင်မြင်စွာ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် အောက်ပါအချက်များကို ခွင့်ပြုပေးပါရန် ထောက်ခံတင်ပြအပ်ပါသည်-

(က) ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား လုပ်ငန်းစတင်လည်ပတ်သည့် နှစ်မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် ယင်းကာလပြည့်ပြီးနောက် အရင်းကြေကာလမတိုင်မီ ကာလများအတွက် (၅၀)ရာခိုင်နှုန်းသက်သာခွင့် ပြုပါရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ကာလအား နှစ်(၆၀)ခွင့်ပြုပေးပါရန်နှင့် ယင်းကာလပြည့်ပြီးနောက် လုပ်ငန်းဆက်လက်လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ်တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်၊

(ဂ) တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက် လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဉ်နှင့် အခြားဆက်စပ်ပစ္စည်းများအား တင်သွင်းခွင့်ပြုပါရန်၊

၁၁။ သို့ဖြစ်ပါ၍ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်အား လုပ်ငန်းခွင့်ပြုမိန့်ချမှတ်ပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၁၂)နှင့် (၁၃)တို့အရ အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား ခံစားခွင့်ပြုပါရန် တင်ပြလာသည့် အဆိုပြုချက်အား ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးဇော်မင်း)
ဝန်ကြီး

နောက်ဆက်တွဲ(က)

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘ၁ - ၁ / ၂၇၄ (၂၅၂၅/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့

ဝန်ကြီး
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၅၇-လျှပ်စစ်၁(၂)/၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား (B.O.T) (Build Operate and Transfer) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အောက်ပါ အတိုင်း ဖော်ပြအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ်(၅)အရ လျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀)အား ပဋိညာဉ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း (၂၅၀)နှင့် လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀)ကို အနာဂတ်စွမ်းအားကုမ္ပဏီက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ ပေးအပ်ရန်ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ်(၆၀)အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း(၅၀၀)သာ ရရှိမည်ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ်(မူကြမ်း) အပိုဒ်၂၂(ခ)တွင် ပဋိညာဉ်စာချုပ် သက်တမ်းကာလအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဟုဖော်ပြထားရာ ယခင် B.O.T စနစ်ဖြင့်ဆောင်ရွက်ခဲ့သည့်လုပ်ငန်းစီမံကိန်းများတွင် B.O.T ၏သက်တမ်းအား နှစ်(၃၀)မှ (၃၅) နှစ်အထိသာ ခွင့်ပြုလေ့ရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ်၂၂(ဂ)တွင်ပဋိညာဉ်၏သက်တမ်းအားတိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့် ယခုပဋိညာဉ်၏ သက်တမ်းအား ကနဦးနှစ်(၃၀)သာ ခွင့်ပြု၍

နောက်ထပ်သက်တမ်း ထပ်မံတိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုခြင်းသာလျှင် သင့်လျော်မည်ဟု ယူဆပါသည်။

(ဂ) အဆိုပါပဋိညာဉ်စာချုပ်(မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ ထည့်သွင်းဖော်ပြထားခြင်းမရှိသည့်အတွက် သဘောထားမှတ်ချက်ပြုရန်မရှိပါ။ သို့ရာတွင်လုပ်ငန်းဆောင်ရွက်ပေးခြင်းအတွက် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သို့စာချုပ်အရပေးချေသည့်တန်ဖိုးအပေါ်တွင်လည်းကောင်း၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်ကလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ တစ်ဆင့်ခံဆောင်ရွက်စေခြင်းအတွက် ပေးချေသည့်တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင် လည်းကောင်း ပင်ရင်းမှ နှုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် (Withholding Tax)ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဃ) ထို့အပြင် စီမံကိန်းလုပ်ငန်းအတွက် ပြည်တွင်းပြည်ပမှငှားရမ်းသည့် အတိုင်ပင်ခံများ၊ကျွမ်းကျင်သူများ၊ဝန်ထမ်းများအား ထုတ်ပေးသည့် လစာခေါင်းစဉ်မှ ဝင်ငွေခွန်ကိုနှုတ်ယူဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။ စီမံကိန်းတည်ဆောက်ပြီးစီး၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသဖြင့် ရရှိသည့်ရောင်းရငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့်လုပ်ငန်းမှရရှိသည့်အသားတင်အမြတ်ဝင်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းနှင့်အမိန့်ကြော်ငြာစာများနှင့်အညီပေးဆောင်ရန်တာဝန်ရှိပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးကြီးလှသိန်းဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

hh//1-274(sep)- 3

**ပြည်ထောင်စုမြန်မာနိုင်ငံတော်**

**ရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၄ - ၁၃ /နပတ( ၃၂၉ )

ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ စက်တင်ဘာလ၁၆ရက်

အကြောင်းအရာ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင် ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂ - ၉-၂၀၀၉ ရက်စွဲပါစာအမှတ် ၁၅၇-လျှပ်စစ် ၁(၂)/ ၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့အကြားဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအားB.O.T(တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)တွင်နိဒါန်းအပိုင်း၌ရည်ညွှန်းထားသောပူးတွဲ(၁)မှာမြေပုံပူးတွဲပါရှိခြင်းမရှိပါ။ ယင်းနောက်ဆက်တွဲသည်စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပူးတွဲများကို ပြည့်စုံစွာပူးတွဲထားရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)တွင် မြေအသုံးချမှုပရီမီယံ(Land Use Premium) ပါရှိသော်လည်း မြေငှားရမ်းခမပါရှိသဖြင့် ဌာနအနေဖြင့်ရယူလိုခြင်းရှိ မရှိ စဉ်းစားသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံငွေရယူထားခြင်းမရှိသဖြင့် လုပ်ငန်းအာမခံရယူရန်သင့်မသင့်စဉ်းစားသင့်ပါသည်။လုပ်ငန်းအာမခံငွေထားရှိလျှင် ယင်း၏ဘဏ်အာမခံ

ပုံစံအားစာချုပ်တွင် ပူးတွဲပါရှိရန်နှင့် ဘဏ်အာမခံပုံစံမှာ စာချုပ်ပါစည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၆ တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာစံညွှန်းဟု ဖော်ပြထားရာ နောင်အငြင်းမပွားစေရန် စံချိန်စံညွှန်းအား စာချုပ်တွင်နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဂ)တွင် ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကိုဝန်ကြီးဌာနမှခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်ကြောင်းဖော်ပြထားရာ မည်သည့်ဝန်ကြီးဌာနဖြစ်ကြောင်းကို ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဇ)ပါ လုပ်ငန်းခွင့်ပြုသူအချိန်တိုးပေးခြင်းနှင့်စပ်လျဉ်းသည့် ကိစ္စရပ်မှာလုပ်ငန်းခွင့်ပြုသူနှင့် သက်ဆိုင်သဖြင့်လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၈(ဏ)တွင်ဖော်ပြထားချက်မှာ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် သက်ဆိုင်သဖြင့်စာချုပ်သက်တမ်းခေါင်းစဉ်အောက်သို့ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ်၉(က)တွင်လုပ်ငန်းစတင်သည့်နေ့ကိုလုပ်ငန်းခွင့်ပြုသူမှလုပ်ငန်းစတင်ရန်အကြောင်းကြားစာကိုလုပ်ငန်းလုပ်ကိုင်သူမှလက်ခံရရှိသည့်နေ့ဟုဖော်ပြထားရာနောင်အငြင်းပွားမှုပေါ်ပေါက်နိုင်သဖြင့်ယင်းနေ့ကိုအတိအကျသတ်မှတ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ်၁၆ လုပ်ငန်းလုပ်ကိုင်သူ၏ပျက်ကွက်မှုနှင့်ပတ်သက်၍အပိုဒ်(ခ)ပါအတိုင်း လုပ်ငန်းလုပ်ကိုင်သူသည် သတ်မှတ်ကာလကျော်လွန်မှ စာချုပ်လုပ်ငန်းများကိုဆောင်ရွက်ပြီးစီးပါက ဌာနအနေဖြင့် ရက်လွန်ကြေး၊ ဒဏ်ကြေးရယူရန်သင့် မသင့် စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၈(ဃ)၌ စာချုပ်ရပ်စဲခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) ဖြစ်ပေါ်လာခြင်းကြောင့်ဖြစ်ပါက မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မည်သည့်ကာလအထိ ဆက်တိုက်ဖြစ်ပေါ်ခြင်းကို ဆိုလိုကြောင်းကို စာချုပ်ဝင်နှစ်ဦး နှစ်ဖက်ညှိနှိုင်းသတ်မှတ်သင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)၌ စာချုပ်ကာလမှာလျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးသည့် နေ့ရက်မှစတင်ကြောင်းဖော်ပြထားရာ နောင် နှစ်ဖက်အငြင်းပွားမှုမဖြစ်စေရန် " စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" သည် မည် သည်ကိုဆိုလိုကြောင်းအဓိပ္ပာယ်ဖွင့်ဆိုချက်များတွင်ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် ၂၂(ခ)ပါစာချုပ်သက်တမ်းမှာ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစ၍ နှစ်ပေါင်း ၆၀ ဖြစ်သဖြင့် စာချုပ်အကျိုးသက် ရောက်သည့်နေ့မှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက် မတိုင်မီအထိ စာချုပ်သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်းမရှိသည်ကို သတိမူသင့် ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)တွင် B.O.T စာချုပ်များတွင်ပါလေ့ရှိသော သယံဇာတပစ္စည်းတွေ့ရှိ ခြင်းစာပိုဒ်ပါရှိလာခြင်းမရှိသည့်အတွက် ယင်းစာပိုဒ်အားမင်နီဖြင့် ရေးသားပေးလိုက်ပါ သည်၊

(ဎ) စာချုပ်(မူကြမ်း)တွင် လွှဲပြောင်း၍မရနိုင်သောအခွင့်အရေးစာပိုဒ်မပါရှိသဖြင့် ရေးသား ပေးလိုက်ပါသည်၊

(ဏ) စာချုပ်သက်တမ်းအတွင်း လျှပ်စစ်ဓါတ်အားခနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ရယူရန် အစီအစဉ်ရှိ မရှိ၊ ရယူပါက မည်သို့ရယူမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(တ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်သူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ၌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၆.၉.၀၉

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

**အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

နောက်ဆက်တွဲ(ဂ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ နစ/ဃ-၁/ ၅၁၉ / ၂၀၀၉ (၅၂၅၃)
ရက်စွဲ ။၂၀၀၉ခုနှစ် ၊အောက်တိုဘာလ ( ၁ )ရက်

အမှာစာ

အကြောင်းအရာ။ ။ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား Build, Operate and Transfer (B.O.T) စနစ်ဖြင့် ဆောင်ရွက်ရေးဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေးရန် ကိစ္စ။

ရည်ညွှန်းချက် ။ ။အမှတ် (၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ၏ ၂.၉.၂၀၀၉ ရက်စွဲပါ စာ အမှတ် ၁၅၇ / လျှပ်စစ် ၁- (၂) / ၄၁၅၆ / ၂၀၀၉

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း အတွက် ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန(DHPP) နှင့်အနာဂတ် စွမ်းအားကုမ္ပဏီလီမိတက် (လုပ်ငန်းလုပ်ကိုင်သူ)တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) နှင့် စပ်လျဉ်း၍ အောက်ပါ သဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

၁။ စာချုပ် (မူကြမ်း)အရ တပ်ဆင်စက်အင်အား ၄၈ မဂ္ဂါဝပ်ရှိသည့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်း ကို လုပ်ငန်းလုပ်ကိုင်သူအား တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် ချုပ်ဆိုခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည် ။

၂။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူမှ ရေအားလျှပ်စစ် စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊ ဒီဇိုင်းရေးဆွဲ ပုံစံထုတ်လုပ်ခြင်း ၊ရေလွှဲအဆောက်အအုံ ၊ရေသွင်းမြောင်းများ ရေသွယ်ဥမင်လိုဏ်ခေါင်းများ တည်ဆောက်ခြင်း ၊ ရေအားလျှပ်စစ်စက်ရုံ ထိန်းသိမ်း ဆောင်ရွက်ခြင်း နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူ မှ မြေယာအသုံးချမှု ပရီမီယံကြေး သိန်း (၅၀၀) ပေးသွင်းရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ စာချုပ် (မူကြမ်း)အရ DHPP အနေဖြင့် စီမံကိန်း အတွက် မြေအသုံးချရန် ခွင့်ပြုချက် ရရှိရေး၊ လုပ်ငန်းလုပ်ကိုင်ရန် နှင့် ခွင့်ပြုမိန့်များရရှိရေး လျှပ်စစ်ဓါတ်အား ရောင်းချရန် အတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများ နှင့် ညှိနှိုင်းရေး စသည်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ စာချုပ် (မူကြမ်း)တွင် စီမံကိန်းတည်ဆောက်ရေးကာလကို (၄) နှစ် သတ်မှတ်ထားပြီး စာချုပ်သက်တမ်းကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ နှစ်ပေါင်း(၆၀) သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။

၆။ စာချုပ် (မူကြမ်း) အရ မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်သူမှ ပေးရန်ဖြစ်ပြီး မြေငှားရမ်းခ သီးခြားပါဝင်ခြင်း မရှိကြောင်းတွေ့ရှိရပါသည်။

၇။ B.O.T (မူကြမ်း) အရ လုပ်ငန်းလုပ်ကိုင်သူထံမှ လုပ်ငန်းဆောင်ရွက်မှု အာမခံရယူရန် သင့် - မသင့် စဉ်းစားသင့် ပါကြောင်း အကြံပြုအပ်ပါသည်။

၈။ စာချုပ်(မူကြမ်း)တွင် အပိုဒ် ၇(ဆ)(ဇ)၊၈(တ)နှင့် အပိုဒ် ၂၂(က)တွင် မင်နီဖြင့်ပြင်ဆင်ပေးထားကြောင်းဖော်ပြအပ်ပါသည်။

စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီးစီးပါက မိတ္တူ (၂)စောင်ကို ဤဦးစီးဌာနသို့ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား )
(မောင်မောင်ခင်-ညွှန်ကြားရေးမှူး)

<u>အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန</u>

(ဂ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက် ပေးရမည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ"သည် ဆိုခဲ့သည့် "လျှပ်စစ်စီမံကိန်း"အတွက် လိုအပ်မည့် မြေနေရာ သုံးစွဲခွင့် ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) "လုပ်ငန်းခွင့်ပြုသူ"သည် "လျှပ်စစ်စီမံကိန်း"အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) "လျှပ်စစ်စီမံကိန်း" အတွက် "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်း/ပြည်ပဈေးငွေ ဈေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ ကူညီဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက "လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြားသဘောတူညီချက် စာချုပ်များ ချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း"မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ညှိနှိုင်း စီစဉ်ဆောင်ရွက်ပေးရမည်။

(ပ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့် ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များအရ လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" က တာဝန်ယူရမည်။

(ဏ) "လုပ်ငန်းခွင့်ပြုသူ" မှ ခွင့်ပြုထားသော "လျှပ်စစ်စီမံကိန်း" ၏စာချုပ်ပါ လုပ်ငန်းကာလပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်သူ" သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" ထံ တင်ပြလျှောက်ထားရမည်။

(တ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ "လုပ်ငန်းလုပ်ကိုင်သူ" သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ထ) [illegible]

နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည်။

(က) "စတင်ဆောင်ရွက်မည့်နေ့" မှာ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို "လုပ်ငန်းလုပ်ကိုင်သူ" မှ လက်ခံရရှိသည့်နေ့ ဖြစ်သည်။

(ခ) "တည်ဆောက်ရေးကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

## ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၂။ ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) ဤပဋိညာဉ်စာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လအတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် တိုးမြှင့်ခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့်သာ ပဋိညာဉ်စာချုပ်သက်တမ်း တိုးရန်ဖြစ်သည်။

နောက်ဆက်တွဲ(ဃ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြား

ဘီလူးချောင်း အမှတ် (၃) ရေအားလျှပ်စစ်စီမံကိန်းအား

B.O.T

(တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်

၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာလ

ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T** (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ် (မူကြမ်း)

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၉ခုနှစ်၊ ဒီဇင်ဘာလ၊ (   )ရက်နေ့၌ ညွှန်ကြားရေးမှူးချုပ်၊ ဦးကြီးစိုး ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အဆောက်အဦ အမှတ်(၃၈)၊ နေပြည်တော် (ဤမှနောင်တွင် "လုပ်ငန်းခွင့်ပြုသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးအောင်ဇော်နိုင် ကိုယ်စားပြုသောပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် အမှတ် ၅၈၄၊ ဟိုင်းတက်တာဝါ၊ ပထမထပ်၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်သူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

နိဒါန်း

"လုပ်ငန်းလုပ်ကိုင်သူ" သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆) မိုင်ခန့် အကွာရှိ နောက်ဆက်တွဲ(၁)မြေပုံပါ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှ ထုတ်လုပ်မည့်ဓါတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၃၃၄) ထွက်ရှိမည့်၊ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်း (ဤမှနောင်တွင် "လျှပ်စစ်စီမံကိန်း" ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့်လုပ်ငန်း၏ အကျိုးခံစားခွင့်များကို စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည်-

အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ" ဆိုသည်မှာ ဤ "လျှပ်စစ်စီမံကိန်း" ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည်ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) "အမြဲတမ်းလုပ်ငန်းများ" ဆိုသည်မှာ ဤစာချုပ်ပါ "လျှပ်စစ်စီမံကိန်း" လုပ်ငန်းတွင် အကျုံးဝင်သောပုံစံပြု၍ ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) "တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ်-၈ (၃) အရ "လုပ်ငန်းလုပ်ကိုင်သူ"ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ဃ) "စက်ရုံ၊ အလုပ်ရုံ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ "လုပ်ငန်းလုပ်ကိုင်သူ" မှ ဤ "လျှပ်စစ်စီမံကိန်း" လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) "လုပ်ငန်းခွင်နေရာ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏နေရာများ၊ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) "စာချုပ်" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) "လျှပ်စစ်ဓါတ်အား" ဆိုသည်မှာ "လျှပ်စစ်စီမံကိန်း"မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို ဆိုလိုသည်။

(ဈ) "စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း" ဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေးစက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်ထုတ်လုပ်ရောင်းချ ပေးခြင်းကို ဆိုလိုသည်။

အာမခံချက်နှင့်ကိုယ်စားပြုခြင်း

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ကြောင်းနှင့် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသူများဖြစ်ကြောင်း အာမခံပါသည်။ "လုပ်ငန်းလုပ်ကိုင်သူ" သည် ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှုရှိသူဖြစ်ကြောင်း အာမခံပါသည်။

ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်

၃။ ဤ "လျှပ်စစ်စီမံကိန်း" လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊

(ခ) ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီး ထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကိုပူးပေါင်း၍ ရေသွင်းတံခါးမှတစ်ဆင့် အဓိက ဥမင်လိုဏ်ခေါင်း (Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း၊

(ဂ) ဘီလူးချောင်းမှရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း၊

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား (၄. ၃)ကီလိုမီတာ၊ အကျယ် (အချင်း) (၄. ၉) မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း၊

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ (၅၀,၀၀၀) ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များ တည်ဆောက်ခြင်း၊

(စ) အလျား (၁၈၈) မီတာနှင့် အကျယ် (အချင်း) (၃. ၈) မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း၊

(ဆ) ဖရန်စစ်အမျိုးအစား (၂၅. ၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများတပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ (Surface Type Power House) တည်ဆောက်ခြင်း၊

(ဈ) စက်ရုံမှထွက်လာသည့်ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ်ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း၊

(ည) မြေပေါ်ဓာတ်အားခွဲရုံ (၁)ခုတည်ဆောက်ခြင်း၊

(ဋ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ အမှတ် (၂) ရေအားလျှပ်စစ်စက်ရုံသို့ (၄. ၅)ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီလျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း၊

(ဌ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ် (၂) ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း၊

(ဍ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း၊

(ဎ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း၊

(ဏ) လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း၊

အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် **(Concession Rights)**

၄။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း"ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းပေါ်နှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" က ဆောင်ရွက်ပေးရမည်။

မြေအသုံးချမှု ပရီမီယံ **(Land Used Premium)**

၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသဖြင့် "လုပ်ငန်းခွင့်ပြုသူ" အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည် -

(က) ဤပဋိဉာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) "လျှပ်စစ်စီမံကိန်း"၏ တည်ဆောက်ရေးကာလပြီးနောက် "လျှပ်စစ်ဓါတ်အား" စီးပွားဖြစ်စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

စံချိန်စံညွှန်းများ

၆။ "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" လုပ်ငန်းကို အဆင့်ဆင့် ဆောင်ရွက်ရာတွင် "လုပ်ငန်းခွင့်ပြုသူ" မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို

အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များ အတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

"လုပ်ငန်းခွင့်ပြုသူ"၏တာဝန်များ

၇။ "လုပ်ငန်းခွင့်ပြုသူ"၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" ၏ ပဋိညာဉ်စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက်ပေးရမည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ" သည် ဆိုခဲ့သည့် "လျှပ်စစ်စီမံကိန်း" အတွက် လိုအပ်မည့်မြေနေရာသုံးစွဲခွင့်ကို ဥပဒေပြဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) "လျှပ်စစ်စီမံကိန်း" အတွက် "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများ ဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ "လုပ်ငန်းခွင့်ပြုသူ" မှ ကူညီ ဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက

"လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြားသဘောတူညီချက် စာချုပ်များချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို "လုပ်ငန်းလုပ်ကိုင်သူ" မှ သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ညှိနှိုင်းစီစဉ်ဆောင်ရွက်ပေးရမည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကိုပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းခွင့်ပြုသူ" ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ "လုပ်ငန်းခွင့်ပြုသူ" သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

"လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ

၈။ "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ်ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်းမှဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(င) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်သူ"သည် "လျှပ်စစ်စီမံကိန်း" ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက အဆိုပြုချက် အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ၊

(ဆ) "လုပ်ငန်းလုပ်ကိုင်သူ" သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာအတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) "လျှပ်စစ်စီမံကိန်း" လုပ်ငန်းဆောင်ရွက်ရာတွင် "လုပ်ငန်းလုပ်ကိုင်သူ" သည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက် မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ၊

(ည) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဋ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် ကာလအတွင်း "လျှပ်စစ်စီမံကိန်း"ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဌ) "လုပ်ငန်းလုပ်ကိုင်သူ" ၏ "လျှပ်စစ်စီမံကိန်း" မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ဍ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့်

ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" က တာဝန်ယူရမည်။

(ဎ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေ ပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ "လုပ်ငန်းလုပ်ကိုင်သူ" သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဏ) "လုပ်ငန်းလုပ်ကိုင်သူ"သည်သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများပေးဆောင်ရမည်။

နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည် -

(က) "လုပ်ငန်းစတင်သည့်နေ့" မှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုး သည့်နေ့ ဖြစ်ပါသည်။

(ခ) "တည်ဆောက်ရေးကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) "အကျိုးသက်ရောက်သည့်နေ့" မှာ "လုပ်ငန်းခွင့်ပြုသူ"၏ တရားဝင် အကြောင်းကြားချက် အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုး သက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်း တစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေး ကာလတိုးမြှင့်မှု ကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း

၁၀။ ဤစာချုပ်၏ "လျှပ်စစ်စီမံကိန်း" မှ "လျှပ်စစ်ဓါတ်အား" ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များ နှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

သယံဇာတပစ္စည်းတွေ့ရှိခြင်း

၁၁။ "လုပ်ငန်းလုပ်ကိုင်သူ" သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသော မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက "လုပ်ငန်းခွင့်ပြုသူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများ ဖြစ်စေရမည်။ "လုပ်ငန်းခွင့်ပြုသူ" သည် အဆိုပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

လုပ်ငန်းတန်ဖိုး

၁၂။ ဤစာချုပ် ချုပ်ဆိုသည့် "လျှပ်စစ်စီမံကိန်း" ၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၁၀၅,၁၁၈. ၉၁) (ကျပ် တစ်သိန်းငါးထောင် တစ်ရာ တစ်ဆယ့်ရှစ် ဒသမ ကိုးတစ်သန်း) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန် ဒေါ်လာသန်းပေါင်း(၈၂. ၆၇) (အမေရိကန်ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနစ်သန်း) ဖြစ်ပါသည်။

လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၆)လအတွင်း "လုပ်ငန်းခွင့်ပြုသူ"ထံ တင်သွင်းရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လစဉ် တိုးတက်မှုအစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး "လုပ်ငန်းခွင့်ပြုသူ" ထံ တင်သွင်းရမည်။

စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း

၁၄။ "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို "လုပ်ငန်းခွင့်ပြုသူ" က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ "လုပ်ငန်းခွင့်ပြုသူ" ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက "လုပ်ငန်းခွင့်ပြုသူ" က ကန့်ကွက်နိုင်သည့်အပြင် "လုပ်ငန်းလုပ်ကိုင်သူ" ထံ ချက်ချင်း အကြောင်းကြားရမည်။ "လုပ်ငန်းလုပ်ကိုင်သူ" သည် ချို့ယွင်းချက်ကို (၁) လ အတွင်းကောင်းစွာ

ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန်လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်နေသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ဆိုင်းငံ့ထားနိုင်သည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု

၁၇။ "လုပ်ငန်းလုပ်ကိုင်သူ"၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါလုပ်ငန်းကို ပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်းမပြုလျှင်၊ "လုပ်ငန်းခွင့်ပြုသူ"မှ အဆိုပါ

ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ"သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ကျန်ရှိသောလုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းတန်ဖိုး၏ ၀.၅% အား ရက်သတ္တတစ်ပတ် နောက်ကျတိုင်း "လုပ်ငန်းခွင့်ပြုသူ" ထံပေးဆောင်ရန်နှင့် ထိုသို့ပေးဆောင်မှုသည် ကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန်မှန်းခြေစာရင်းများ၏ စုစုပေါင်း တန်ဖိုး၏ ၅%ကို မကျော်လွန်စေရပါ။ ထို့အပြင် "လုပ်ငန်းခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်သူ" ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟု ယူဆပါက စာချုပ်လုပ်ငန်းအား လုပ်ငန်းခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါက လည်းကောင်း၊ ဤစာချုပ် "လုပ်ငန်းခွင့်ပြုသူ" မှ သိမ်းယူပါက လည်းကောင်း၊ တတိယ အဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော် "လုပ်ငန်းလုပ်ကိုင်သူ" ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့်ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်မှု ရှိသည်။

ပြောင်းလဲခြင်းများ

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင် ပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို "လုပ်ငန်းခွင့်ပြုသူ" ထံမှအတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ "လုပ်ငန်းခွင့်ပြုသူ" မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်သူ" အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် ပုံစံပြုလွှာအသစ်၊ လုပ်ငန်း အစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် "လုပ်ငန်းလုပ်ကိုင်သူ" ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) "လုပ်ငန်းခွင့်ပြုသူ" မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) "လုပ်ငန်းခွင့်ပြုသူ" သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းကို မဆို "လုပ်ငန်းလုပ်ကိုင်သူ" အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည့်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ "လုပ်ငန်းလုပ်ကိုင်သူ" ၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) "လုပ်ငန်းခွင့်ပြုသူ" သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင် သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက်ရှိအောင် ဆက်လက် ဆောင်ရွက်ပေးရမည်။

ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်-

( က ) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လ ကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း၊

( ခ ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

( ဂ ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) (၁၂) လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း။

( င ) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

ပြင်ဆင်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၂၂။ ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဤပဋိညာဉ်စာချုပ်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီးစာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အား နှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး "လျှပ်စစ်စီမံကိန်း" မှ "လျှပ်စစ်ဓါတ်အား" စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍နောက်ထပ် နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လကြိုတင်၍ စာချုပ်ဝင် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် ပဋိညာဉ်စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ" မှ ခွင့်ပြုထားသော "လျှပ်စစ်စီမံကိန်း" ၏စာချုပ်ပါ လုပ်ငန်း ကာလပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်သူ" သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" ထံ တင်ပြလျှောက်ထားရမည်။

ခွင့်ပြုလွှဲအပ်ခြင်း

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှုစာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

အာမခံထားရှိခြင်း

၂၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

အထွေထွေကိစ္စရပ်များ

၂၆။ (က) တရားမဝင်ခြင်း။ ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။ ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင် လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း ။ ။ စာချုပ်ရပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာကာလအတွင်း စာချုပ်ပါမြေနှင့် "လျှပ်စစ်စီမံကိန်း" ၌ ရင်းနှီးမြှုပ်နှံထားသောပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို "လုပ်ငန်းလုပ်ကိုင်သူ" က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ "လုပ်ငန်းခွင့်ပြုသူ" ထံ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) လွှဲပြောင်း၍မရနိုင်သောအခွင့်အရေး။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်း ပိုင်ဆိုင်ခွင့်နှင့် မူလဘူတ အခွင့်အရေးကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတ ဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက်အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

(င) တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။ ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ (၉) အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို "လုပ်ငန်းလုပ်ကိုင်သူ" က ထမ်းဆောင်ရမည် ဖြစ်ပါသည်။

(စ) အကြောင်းကြားစာများ။ ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှ တစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်

လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှနောင်တွင် "အကြောင်းကြားစာ" ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက် မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှ ပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိတ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဆ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

ဆက်သွယ်ရန်လိပ်စာများ

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန
ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် - ၀၆၇-၄၁၁၀၆၇

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်
အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့၊
ဖက်(စ်)အမှတ် -(၉၅)-၁-၂၁၁၆၉၆, ၂၁၁၉၅၇

နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း

၂၈။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှုစာချွန်လွှာကို ဤပဋိညာဉ် စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

စာချုပ်လက်မှတ်ရေးထိုးခြင်း

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ၊ ------ ရက်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန (ကိုယ်စား)

(ဦးကြီးစိုး)

ညွှန်ကြားရေးမှူးချုပ်

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

(ဦးအောင်ဇော်နိုင်)

အုပ်ချုပ်မှုဒါရိုက်တာ

<u>အသိသက်သေများ</u>

အမည် ၊ ဦးဘုန်းမြင့်
ရာထူး ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်
ဌာန ၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

အမည် ၊ ဦးရဲမြင့်
ရာထူး ၊ ဒါရိုက်တာ
ဌာန ၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ(ဂ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရကု-၆(က)/မ-၁၀၁၂၁၀၁၈/၂၀၀၉ (၂၀၅၇၅)
ရက်စွဲ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာလ ၂၀ ရက်။

သို့/

ဝန်ကြီးရုံး၊
အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ <u>သောက်ရေခပ်(၂) ရေအားလျှပ်စစ် စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းတို့အား BOT(Build, Operate and Transfer) စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာခြင်း ကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏

(၁) (၁၉-၁၀-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁၀ - လျှပ်စစ် ၁ (၁) / ၄၇၃၉ / ၂၀၀၉ (သောက်ရေခပ် -၂)

(၂) (၂၁-၁၀-၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁ (၂)/ ၄၈၄၉ / ၂၀၀၉ (ဘီလူးချောင်း - ၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် တင်ပြခြင်းကို(၁၀-၁၁-၂၀၀၉)နေ့တွင်ကျင်းပသော ဤကော်မရှင်၏ (၄၀/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည် ။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) သောက်ရေခပ်(၂)ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်း အမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့အား BOT စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ တင်ပြချက်ကို ကော်မရှင်မှ သဘောတူကြသည်။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၁၂)နှင့် (၁၃) တို့အရ အခွန်အကောက်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားနိုင်ရေးအတွက် စီးပွားရေးဆိုင်ရာ အချက်အလက်များ ဖော်ပြလျှက် အဆိုပြုလွှာ တင်ပြနိုင်ရေး ဆောင်ရွက်ရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင် ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန။
(၂) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန။
(၃) ရွှေစွမ်းအင် ကုမ္ပဏီလီမိတက်။
(၄) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။
(၅) ရုံးလက်ခံ/ မျှောစာတွဲ။

နောက်ဆက်တွဲ(ခ)

## အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် မှ ဆောင်ရွက်မည့် ဘီလူးချောင်း ( ၃) ရေအားလျှပ်စစ် စီမံကိန်း နှင့် စပ်လျဉ်းသည့် အချက်များ

၁။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အား ဘီလူးချောင်းပေါ်တွင် နိုင်ငံသားပိုင် ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသည့် လုပ်ငန်း (ဘီလူးချောင်း- ၃ ရေအားလျှပ်စစ်စီမံကိန်း) ဆောင်ရွက်ခွင့်ပြုပါရန် (၂၄-၁၂-၂၀၀၈) ရက်စွဲပါ စာဖြင့် အမှတ် (၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ဤကော်မရှင်သို့ အဆိုပြုချက် တင်ပြလာ ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်(၁၀၇၃၃၀.၄၃)သန်း နှင့် အမေရိကန် ဒေါ်လာ (၈၃.၃၂)သန်း ဖြစ်ပါသည်။ယင်းအနက် စက်ပစ္စည်း US$ (၂၂.၈၀) သန်းဘိုးကို စက်ာပူ နိုင်ငံ မှ ဝယ်ယူ မည်ဖြစ်ပြီး L / C ဖွင့်လှစ်ပေးချေမည် ဖြစ်ပါသည်။ ကျပ် (၂၂၀၀၃.၈၀) သန်း ကို ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန မှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့် အညီ နှစ်ရှည်စီမံကိန်း ချေးငွေ (Project Finance) အဖြစ် ချေးယူမည် ဖြစ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံခြားပို့ကုန်ရငွေဖြင့် L / C စည်းမျဉ်းစည်းကမ်းအတိုင်း အရစ်ကျ ပေးချေရမည့် အချိန်အပိုင်းအခြားအလိုက် စေ့ရောက်ချိန်တွင် စေ့ရောက်သည့်ပမာဏ ကို L /C ဖွင့်လှစ်သည့် နိုင်ငံတော်ဘဏ်သို့ ပေးချေမည်ဖြစ်ကြောင်း၊ L /C စတင် ဖွင့်လှစ်ချိန် တွင် ကျသင့်သည့် စာချုပ်လုပ်ငန်းတန်ဖိုး၏ (၁၀%)အား ရင်းနှီးမြှုပ်နှံသူ မှ Down Payment ဖြင့် နိုင်ငံတော်သို့ စတင်ပေးချေသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ အရင်းကြေကာလအတွင်း ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်းခွန်တို့ကို နိုင်ငံတော်သို့ တစ်ဝက်နှုန်းပေးဆောင်ခွင့်တင်ပြထားပါသည်။ အရင်းကြေကာလမှာ (၁၆ နှစ်၊ ၆ လ)ဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်းမှာ (၆.၇၉%)ဖြစ်ပါသည်။

၅။ အဆိုပြုချက် နှင့် စပ်လျဉ်း၍ ကော်မရှင်၏(၈/ ၂၀၀၉)(၄-၃-၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ပြီးအောက်ပါအစည်းအဝေးဆုံးဖြတ်ချက်များကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ (၁၇-၃-၂၀၀၉)ရက်စွဲပါစာဖြင့် အကြောင်းကြားထားပါသည်။

(က)အထူး ချေးငွေ ကိစ္စ၊ ငွေလွှဲစာတမ်း ဖွင့်လှစ်ရေး ကိစ္စ နှင့် ကုန်သွယ် လုပ်ငန်းခွန် ကိစ္စတို့ နှင့် စပ်လျဉ်း၍ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာနမှ သဘောထား အကြံပြုချက်များနှင့်အညီ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ ညှိနှိုင်းရန်၊

(ခ) ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာန၏ သဘောထား အကြံပြုချက်ပါ ကုမ္ပဏီမှ ဝင်ငွေခွန် တစ်ဝက်သက်သာခွင့်ရရှိရေးနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) (၁၃)ပါ လုပ်ငန်းသဘာဝအရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စိစစ်ပြီး အထက်သို့ တင်ပြခွင့်ပြုပေးရန်၊

(ဂ) လုပ်ငန်းသုံး မော်တော်ယာဉ်များ တင်သွင်းခွင့်အတွက် တည်ဆောက်ရေးကာလ အတွင်း လိုအပ်သော အရေအတွက်နှင့် လုပ်ငန်းစတင်လည်ပတ်ချိန်တွင် လိုအပ်သော အရေအတွက် တို့ကို အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ စိစစ်ထောက်ခံ တင်ပြပေးရန်၊

(ဃ) BOO စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသော ဟိုက်တက်ကုမ္ပဏီနှင့် လုပ်ငန်းအကောင်အထည်ဖော်မည့် Future Energy Co., Ltd. တို့၏ ဆက်စပ်မှုကို ဥပဒေနှင့်အညီ ဆောင်ရွက်ရန်၊

(င) ဓါတ်အားခနှုန်း သတ်မှတ်ချက်နှင့် Royalty ရယူခြင်းကိစ္စများနှင့် စပ်လျဉ်း၍ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်နှင့် အညီ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ညှိနှိုင်းရန်။

၆။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ သဘောထား ပြန်ကြားချက်ကို အောက်ပါအတိုင်းကောက်နုတ်တင်ပြအပ်ပါသည်။

(က) နိုင်ငံပိုင်ဘဏ်တစ်ခုမှ စီမံကိန်းချေးငွေ အဖြစ် <u>ရယူလို သည့် ချေးငွေပမာဏ မှာ ကျပ်(၂၂.၀၀၃) ဘီလီယံ ဖြစ်၍ အထူး ချေးငွေ အဖြစ် အစိုးရအဖွဲ့သို့ တင်ပြဆောင်ရွက်ရန် ဖြစ်ပါသည်။</u>

(ခ) စက်ပစ္စည်း အမေရိကန်ဒေါ်လာ (၂၂.၈၀) သန်းကို နိုင်ငံတော်မှ L/C ဖွင့်လှစ်၍ အရစ်ကျပေးချေမည်ဖြစ်ကြောင်း ဖော်ပြထားရာ လက်ရှိ ဘဏ်လုပ်ငန်း အရ <u>ပုဂ္ဂလိက ကုမ္ပဏီများ အတွက် သွင်းကုန် ငွေလွှဲစာတမ်း ဖွင့်ရာ တွင် သွင်းကုန်တန်ဖိုးပမာဏ အပြည့်ကို ၎င်းတို့ စာရင်းမှရယူထားပြီး ငွေလွှဲစာတမ်း ဖွင့်ပေးလျက်ရှိပါသည်။ သို့ပါ၍ပုဂ္ဂလိက ကုမ္ပဏီများအတွက် သွင်းကုန်တန်ဖိုးပမာဏ အချို့ အဝက်ကိုသာ ရယူပြီး ငွေလွှဲစာတမ်းဖွင့်လှစ်ရေးနှင့် နိုင်ငံခြားငွေ ချေးယူ/ထုတ်ပေးရေး ကိစ္စများ အတွက် အစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြခွင့်ပြုချက်ရယူသင့်ပါသည်။</u>

(ဂ) "အရင်းကြေ ကာလ (၁၆) နှစ် နှင့် (၄)လ အတွင်း ဝင်ငွေခွန် နှင့် ကုန်သွယ်လုပ်ငန်းခွန် တို့အား တစ်ဝက်နှုန်း ပေးဆောင်ခွင့်" နှင့် စပ်လျဉ်း၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချမှုအတွက် ကျသင့်သည့်ကုန်သွယ် လုပ်ငန်းခွန် မှာ ထုတ်လုပ်ရောင်းချသူက ကျခံသည့် အခွန်မဟုတ်ဘဲ ဓါတ်အားဝယ်ယူသုံးစွဲသူကကျခံသည့်အခွန်ဖြစ်ခြင်းကြောင့် သက်သာခွင့် မပြုသင့်ပါ။

(ဃ) အခွန်ကင်းလွတ်ခွင့်များ ရရှိခံစားလိုပါက အစိုးရအဖွဲ့သို့ တင်ပြလျှောက် ထားရန် လိုအပ်ပါသည်။

၇။ ငွေလွှဲစာတမ်းဖွင့်လှစ်ရေးနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှအောက်ပါအတိုင်း ရှင်းလင်း တင်ပြလာ ပါသည်။

(က) စီမံကိန်းအား အချိန်မီပြီးစီးအောင်မြင်စွာ ဆောင်ရွက်နိုင်ရန် အတွက် Turbine Generator နှင့် Electro Mechanical Equipment များအား ၂၀၀၉ ခုနှစ် ဇွန်လ မှ စက်တင်ဘာလ အတွင်း တင်ဒါများ ခေါ်ယူ၍ ဝယ်ယူရန် ဆောင်ရွက်လျှက် ရှိပါသည်။

(ခ) ပုံမှန်အားဖြင့် စာချုပ်ချုပ်ဆိုပြီး L/C ဖွင့်လှစ်ပြီးချိန်မှစ၍ (၂)နှစ်ခန့် ကြာမြင့် မှ သာလျှင် စက်များအားလုံး တပ်ဆင်ပြီးစီးမည်ဖြစ်ပါသည်။

(ဂ) အဆိုပါ ကာလ အတွင်း လုပ်ငန်းစဉ် အဆင့်ဆင့် ဆောင်ရွက်ရပြီး ငွေပေးချေမှုကိုလည်း အဆင့်ဆင့်ပြီးစီးမှုအပေါ်တွင် ငွေပေးချေရပါသည်။

(ဃ) ပုံမှန်အားဖြင့် L/C ဖွင့်လှစ်ရာတွင် L/C တန်ဖိုး၏ (၁၀၀%)အား MFTB A/C ထဲ သို့ ထည့်သွင်း ပြီးမှသာလျှင် L/C ဖွင့်လှစ်လေ့ ရှိပါသည်။ ယခု စီမံကိန်း လုပ်ငန်းအတွက် L/C တန်ဖိုး ၏ (၁၀%) ကို ကုမ္ပဏီ ၏ MFTB A/C ထဲတွင် အာမခံ ငွေအဖြစ်ပေးသွင်းပြီး စာချုပ်တန်ဖိုးအားလုံးကို L/C ဖွင့်လှစ်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

(င) ငွေပေး ချေရာတွင် ရောင်းချသည့် ကုမ္ပဏီမှ အဆင့် အလိုက် ငွေ မတောင်းခံမီ တောင်းခံ မည့် Invoice တန်ဖိုး ၏ ရာနှုန်းပြည့် တန်ဖိုးအား MFTB A/C သို့ တစ်လကြိုတင်၍ ကုမ္ပဏီမှ ပေးသွင်းမည် ဖြစ်ပြီး ၎င်း Invoice တန်ဖိုး အတိုင်း L/C မှ တစ်ဆင့် ရောင်းချသူသို့ ပေးချေပါမည်။

(စ) ထိုသို့ဆောင်ရွက်ရာတွင် အာမခံအဖြစ် L/C ဖွင့်လှစ်သည့် တန်ဖိုး၏ (၁၀%)ကို အာမခံငွေ အဖြစ် ပေးသွင်းထားမည် ဖြစ်ပြီး ဝယ်ယူတပ်ဆင်သည့် စက်များကိုလည်း ဘဏ် လုပ်ထုံးလုပ်နည်း ဥပဒေများ နှင့် အညီ ဘဏ်သို့ပိုင်ဆိုင်မှု အဖြစ်အပ်နှံ ထားရှိပေးသွားမည်ဖြစ်ပါသည်။

၈။ ကုမ္ပဏီမှတင်ပြသည့် သွင်းကုန်တန်ဘိုးပမာဏ အချို့အဝက်ကိုသာ ရယူပြီး ငွေလွှဲစာတမ်း ဖွင့်လှစ်ရေး ကိစ္စရပ်များအတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ သဘောထား အကြံပြုထားသည့် အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြခွင့်ပြုချက် ရယူနိုင်ရေးကိစ္စကို ဌာနများ ညှိနှိုင်းဆောင်ရွက်ရမည် ဖြစ်ပါသည်။

၉။ လုပ်ငန်းသုံးမော်တော်ယာဉ်များ တင်သွင်းခွင့်အတွက် သောက်ရေခပ်စီမံကိန်းကဲ့သို့ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ စိစစ်ထောက်ခံပေးနိုင်ပါသည်။ စက်ပစ္စည်းနှင့် စက်ယန္တရားများ/လုပ်ငန်းသုံးယာဉ်များ/လူစီးယာဉ်များကို အုပ်စုတူရာအလိုက် ခွဲခြားဖော်ပြပေးရပါမည်။

၁၀။ BOO စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသော ဟိုက်တက်ကုမ္ပဏီနှင့် Future Energy Co., Ltd. တို့ ပါဝင်သည့် နောက်ဆက်တွဲ (Addendum) စာချုပ်ကို သောက်ရေခပ်ကဲ့သို့ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ရှေ့နေချုပ်ရုံးသဘောထား ရယူချုပ်ဆို ဆောင်ရွက်နိုင်ပါသည်။

၁၁။ ဓါတ်အားခနှုန်း သတ်မှတ်ချက်နှင့် Royalty ရယူခြင်းကိစ္စများနှင့် စပ်လျဉ်း၍ သောက်ရေခပ်စီမံကိန်းကဲ့သို့ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ထောက်ခံပေးနိုင်ပါသည်။

၁၂။ ကော်မရှင်၏(၈/၂၀၀၉)(၄-၃-၂၀၀၉) အစည်းအဝေး ဆုံးဖြတ်ချက်အရ ဆောင်ရွက်ပြီး သက်ဆိုင်ရာဌာနများမှ တင်ပြလာခြင်းမရှိသေးပါ။

၁၃။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၊ ကယားပြည်နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီတို့၏ သဘောထားပြန်ကြားချက်များကို ပူးတွဲ တင်ပြအပ်ပါသည်။

၁၄။ ကော်မရှင်၏(၁၄/၂၀၀၉)(၂၉-၄-၂၀၀၉)အစည်းအဝေးမှ ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်းတွင် အသုံးပြုရန် လတ်တလောလိုအပ်သည့် အမေရိကန်ဒေါ်လာ(၅.၆၃)သန်းတန်ဖိုးရှိ စက်/ယာဉ်/ယန္တရားများနှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ကော်မရှင်ခွင့်ပြုမိန့် မရရှိသေးသော်လည်းကြိုတင်တင်သွင်းခွင့်ပြုခဲ့ပါသည်။

၁၅။ ဘီလူးချောင်း(၃) ရေအား လျှပ်စစ် စီမံကိန်းနှင့် စပ်လျဉ်း၍ အဆိုပြုလွှာ စတင် တင်ပြသည့်(၂၄-၁၂-၂၀၀၈)နေ့မှ (၁၈-၇-၂၀၀၉)နေ့အထိ (၇)လကာလအတွင်း ကော်မရှင်မှ ဆောင်ရွက်ထားမှု အခြေအနေများကို တင်ပြလျှက် လမ်းညွှန်မှုခံယူအပ်ပါသည်။

ကော်မရှင်၏ ၄၄ / ၂၀၀၉ အစည်းအဝေး

အကြောင်းအရာ ။ ။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား BOT(Build ,Operate , Transfer) စနစ်ဖြင့် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချ ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာနနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့ တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်းပေါ်တွင် ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချသည့်လုပ်ငန်း (ဘီလူးချောင်း(၃) ရေအား လျှပ်စစ်စီမံကိန်း)အား BOT (Build,Operate, Transfer)စနစ်ဖြင့် ဆောင်ရွက်ခွင့်အတွက် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အဆိုပြုလွှာတင်ပြလာခြင်း ဖြစ်ပါသည်။

၂။ ဌာနမှ တင်ပြထားသည့် အဓိကအချက်များကို အောက်ပါအတိုင်း ကောက်နုတ်တင်ပြအပ်ပါသည်-

(က) တပ်ဆင် စက်အင်အား (၅၂) မဂ္ဂါဝပ်နှင့် နှစ်စဉ် ပျမ်းမျှ ထုတ်လုပ်မည့် ဓါတ်အားမှာ (၃၃၄) ကီလိုဝပ်နာရီသန်းပေါင်း ဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှု တန်ဖိုး စုစုပေါင်းမှာ ကျပ် (၁၀၅၁၁၈.၉၂) သန်းနှင့် အမေရိကန်ဒေါ်လာ (၈၂.၆၇) သန်း ဖြစ်ပါသည်။

(ဂ) အဆိုပြုစီမံကိန်းသည်ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏများပြားခြင်းကြောင့် ဆောင်ရွက်မည့် စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင်ဘဏ် တစ်ခုခုမှ ငွေကျပ်သန်းပေါင်း (၂၂၀၀၃.၈၀) ကို တစ်နှစ်လျှင် အတိုးနှုန်း (၁၇) ရာခိုင်နှုန်းဖြင့် ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ နှစ်ရှည်စီမံကိန်း ချေးငွေ (Project Finance) ရယူဆောင်ရွက်မည် ဖြစ်ပါသည်။

(ဃ) နိုင်ငံခြားသုံးငွေဖြင့် ရင်းနှီးမြှုပ်နှံမှုအတွက် နိုင်ငံခြားဘဏ်မှ အမေရိကန်ဒေါ်လာ (၂၈.၈၀) သန်းကို တစ်နှစ်လျှင် အတိုးနှုန်း (၅.၅) ရာခိုင်နှုန်းဖြင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့် အညီ ချေးယူမည် ဖြစ်ပါသည်။

(င) ပြည်တွင်း ချေးငွေအား ရန်ကုန် - မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခကောက်ခံ ရရှိငွေများ၊ နေပြည်တော် တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ ရဲရွာရေအားလျှပ်စစ်စီမံကိန်း၊ အထက် ပေါင်းလောင်း ရေအားလျှပ်စစ်



Future Enery (14)

စီမံကိန်းများမှ ရရှိသည့် ဝင်ငွေများ၊ High Tech Concrete Co., Ltd. ၏ ကွန်ကရစ်ရောင်းချခြင်းမှရရှိသည့် ဝင်ငွေများ၊ ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခု အဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓါတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့် ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခု အဆိုပြု စီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့် နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ် အတွင်း ပြန်လည် ပေးဆပ်သွားမည် ဖြစ်ပါသည်။

(စ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန် ပစ္စည်းများ၊ တင်ပို့ ရောင်းချခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှု ပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ဆ) တည်ဆောက်ရေးကာလမှာ (၄)နှစ် ဖြစ်ပါသည်။ BOT သက်တမ်းကာလမှာ လျှပ်စစ်ဓါတ်အား စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှ စတင်၍ နှစ် (၆၀)နှင့် နောက်ထပ် (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်း တိုးမြှင့်နိုင်မည် ဖြစ်ပါသည်။

(ဇ) လုပ်ပိုင်ခွင့်ကာလ ကုန်ဆုံးပါက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ်ပစ္စည်းများအား အခမဲ့ လွှဲပြောင်းပေးအပ်မည် ဖြစ်ပါသည်။

(ဈ) (၂၀၀၉) ခုနှစ်၊ အောက်တိုဘာလ အထိ လုပ်ငန်းပြီးစီးမှုမှာ စုစုပေါင်း (၁၄.၅၉) ရာခိုင်နှုန်း ဖြစ်ပါသည်။

(ည) မြေအသုံးချမှု ပရီမီယံကြေးမှာ ကျပ်သိန်း(၅၀၀)ဖြစ်ပြီး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း တစ်ဝက်(ကျပ်သိန်း ၂၅၀)ပေးအပ်ရန်နှင့် တည်ဆောက်ရေး ကာလ ပြီးနောက် စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျန်တစ်ဝက် (ကျပ်သိန်း ၂၅၀)ကို ပေးအပ်ရပါမည်။(မြေငှားခမပေးပါ)

(ဋ) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီ ဖြန့်ဖြူးရောင်းချမည် ဖြစ်ပြီး သဘောတူခွင့်ပြုမည့် အောက်ပါနည်းလမ်းများမှတစ်ခုခုဖြင့် စီမံကိန်းပြီးစီး

အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် **"လုပ်ငန်းခွင့်ပြုသူ"** က ဆောင်ရွက်ပေးရမည်။

**မြေအသုံးချမှု ပရီမီယံ (Land Used Premium)**

၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် **"လုပ်ငန်းခွင့်ပြုသူ"** အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ် သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည်။

(က) ဤပဋိညာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) **"လျှပ်စစ်စီမံကိန်း"**၏ တည်ဆောက်ရေးကာလပြီးနောက် **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

**စံချိန်စံညွှန်းများ**

၆။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းကို အဆင့်ဆင့် ဆောင်ရွက်ရာတွင် **"လုပ်ငန်းခွင့်ပြုသူ"** မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန် မဖြစ်နိုင်ပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

**"လုပ်ငန်းခွင့်ပြုသူ"၏တာဝန်များ**

၇။ **"လုပ်ငန်းခွင့်ပြုသူ"**၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"**၏ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"**အတွက် လိုအပ်သော သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ဆောင်ရွက်ပေးရမည်။

(ဂ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက်•ပေးရမည်။

(ဃ) **"လုပ်ငန်းခွင့်ပြုသူ"**သည် ဆိုခဲ့သည့် **"လျှပ်စစ်စီမံကိန်း"**အတွက် လိုအပ်မည့် မြေနေရာ သုံးစွဲခွင့်ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) **"လုပ်ငန်းခွင့်ပြုသူ"**သည် **"လျှပ်စစ်စီမံကိန်း"**အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **"လျှပ်စစ်စီမံကိန်း"** အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ ကူညီဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက **"လုပ်ငန်းလုပ်ကိုင်သူ"** နှင့် အဆိုပါ ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြားသဘောတူညီချက် စာချုပ်များ ချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဇ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"**မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ညှိနှိုင်း စီစဉ်ဆောင်ရွက်ပေးရမည်။

(ဈ) **"လုပ်ငန်းလုပ်ကိုင်"** သူသည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကို ပြီးစီးအောင်မဆောင်ရွက်နိုင်လျှင် **"လုပ်ငန်းခွင့်ပြုသူ"** ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ လုပ်ငန်းခွင့်ပြုသူသည် ယင်းတင်ပြချက် အထောက်အထားများ အပေါ် အခြေပြု၍ အချိန်တိုးပေးရန်စဉ်းစားမည်။

**"လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ**

၈။ **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်း အတိုင်းအတာ ပမာဏ ကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများ နှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်း အားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ်ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝ တာဝန်ယူရမည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်တွင်းမှ ဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှု အစီအစဉ်များ ပြုလုပ်ပေးရမည်။

(င) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ် အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစား လိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်း မပြုရန် တာဝန်ယူရမည်။

(စ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် **"လျှပ်စစ်စီမံကိန်း"** ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက အဆိုပြုချက် အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့်အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ၊

(ဆ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင် နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ် ဆောင်ရွက်ပေးရမည်။

(ဇ) **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းလုပ်ကိုင်သူသည် သစ်တော ဥပဒေပါပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဈ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လုပ်ငန်းခွင့်ပြုသူ"** ၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ၊

(ည) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လုပ်ငန်းခွင့်ပြုသူ"** မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သော ကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဋ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြု ထားသည့်ကာလအတွင်း **"လျှပ်စစ်စီမံကိန်း"**ကို ကောင်းမွန်သော အနေအထား ရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဋ) **"လုပ်ငန်းလုပ်ကိုင်သူ"**၏ **"လျှပ်စစ်စီမံကိန်း"**မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ဍ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့် ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များအရ လိုက်နာရန် **"လုပ်ငန်းလုပ်ကိုင်သူ"** က တာဝန်ယူရမည်။

(ပ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့် အညီ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဏ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများ ပေးဆောင်ရမည်။

**<u>နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ</u>**

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည်။

(က) **"လုပ်ငန်းစတင်သည့်နေ့"** မှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးသည့်နေ့ ဖြစ်ပါသည်။

(ခ) **"တည်ဆောက်ရေးကာလ"** ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) **"နေ့ရက်"** ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ **"နှစ်"** ဆိုသည်မှာ (၃၆၅) ရက်ဖြစ်သည်။

(ဃ) **"အကျိုးသက်ရောက်သည့်နေ့"** မှာ **"လုပ်ငန်းခွင့်ပြုသူ"**၏ တရားဝင် အကြောင်းကြား ချက်အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုးသက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်းမမျှော်မှန်းခဲ့သည့် အကြောင်း တစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေး ကာလ တိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

<u>လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း</u>

၁၀။ ဤစာချုပ်၏ **"လျှပ်စစ်စီမံကိန်း"** မှ **"လျှပ်စစ်ဓါတ်အား"** ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/အမှတ်(၂)လျှပ်စစ်ဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

သယံဇာတပစ္စည်းတွေ့ရှိခြင်း

၁၁။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ် ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသောမြေအတွင်းမှ ဓာတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက **"လုပ်ငန်းခွင့်ပြုသူ"** ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများ ဖြစ်စေရမည်။ **"လုပ်ငန်းခွင့်ပြုသူ"** သည် အဆိုပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

<u>လုပ်ငန်းတန်ဖိုး</u>

၁၂။ ဤစာချုပ် ချုပ်ဆိုသည့် **"လျှပ်စစ်စီမံကိန်း"** ၏ ခန့်မှန်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် တန်ဖိုး စုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၁၀၅,၁၁၈. ၉၁) နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း(၈၂. ၆၇) ဖြစ်ပါသည်။

## လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်။

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့် နေ့မှ (၆)လအတွင်း **"လုပ်ငန်းခွင့်ပြုသူ"**ထံ တင်သွင်းရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လစဉ် တိုးတက်မှု အစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်သွင်းရမည်။

## စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း

၁၄။ **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်း ဆောင်ရွက်မှု အစရှိသည်တို့ကို **"လုပ်ငန်းခွင့်ပြုသူ"** က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ **"လုပ်ငန်းခွင့်ပြုသူ"** ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက **"လုပ်ငန်းခွင့်ပြုသူ"** က ကန့်ကွက်နိုင်သည့်အပြင် **"လုပ်ငန်းလုပ်ကိုင်သူ"** ထံ ချက်ချင်းအကြောင်းကြားရမည်။ **" လုပ်ငန်းလုပ်ကိုင်သူ"** သည် ချို့ယွင်းချက်ကို ကောင်းစွာ ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီ ဖြစ်စေရန် တာဝန်ယူရမည်။

## မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည်။

(က) **"မလွန်ဆန်နိုင်သောဖြစ်ရပ်"** ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေလျှောင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု

ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်း တစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင် တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ် စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်း မရှိသည့်ဖက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်လာသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့် အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

## လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု

၁၇။ **"လုပ်ငန်းလုပ်ကိုင်သူ"**၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါ လုပ်ငန်းကို ပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်း မပြုလျှင်၊ **"လုပ်ငန်းခွင့်ပြုသူ"**မှ အဆိုပါပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကိုပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက ကျန်ရှိသောလုပ်ငန်းများ၏

ကျွမ်းကျင်မှုဆိုင်ရာစိစစ်ပြီးဖြစ်သော ခန့်မှန်းချေစာရင်းတန်ဖိုး၏ (၀.၅%)အား ရက်သတ္တတစ်ပတ် နောက်ကျတိုင်း **"လုပ်ငန်းခွင့်ပြုသူ"** ထံ ပေးဆောင်ရန်နှင့် ထိုသို့ ပေးဆောင်မှုသည် ကျန်ရှိသောလုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းချေစာရင်းများ၏ စုစုပေါင်းတန်ဖိုး၏ (၅%)ကို မကျော်လွန်စေရပါ။ ထို့အပြင် **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်သူ"**၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟုယူဆပါက စာချုပ်ပါလုပ်ငန်းအား **"လုပ်ငန်းခွင့်ပြုသူ"** မှ သိမ်းယူခွင့်ရှိသည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါကလည်းကောင်း၊ ဤစာချုပ် **"လုပ်ငန်းခွင့်ပြုသူ"** မှ သိမ်းယူပါက လည်းကောင်း၊ တတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော် **"လုပ်ငန်းလုပ်ကိုင်သူ"**၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့် ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေး တောင်းခံနိုင်မှု ရှိသည်။

## ပြောင်းလဲခြင်းများ

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည်။

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင်ပြောင်းလဲ ဆောင်ရွက်ခြင်း၊ လုပ်ငန်းကို **"လုပ်ငန်းခွင့်ပြုသူ"** ထံမှ အတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များ မရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည်။

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် အသစ်ပုံစံပြုလွှာ၊ လုပ်ငန်းအစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"**၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) **"လုပ်ငန်းခွင့်ပြုသူ"** မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ သို့မဟုတ် ကန့်ကွက်လွှာများ သို့မဟုတ် ဆောင်ရွက်ခိုင်းသည့် အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) **"လုပ်ငန်းခွင့်ပြုသူ"**သည်မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်းပြောင်းလဲခြင်းကိုမဆို **"လုပ်ငန်းလုပ်ကိုင်သူ"**အတွက် အပိုကုန်ကျစရိတ်ငွေများမရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည့်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ **"လုပ်ငန်းလုပ်ကိုင်သူ"**၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) **"လုပ်ငန်းခွင့်ပြုသူ"** သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး သို့မဟုတ် ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင် သတ်မှတ်ရန် ဆုံးဖြတ်ချက် သို့မဟုတ် သဘောတူညီချက် ရှိအောင် ဆက်လက်ဆောင်ရွက်ပေးရမည်။

<u>ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း</u>

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်။

(က) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ခြင့် ရပ်စဲခြင်း၊

(ခ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ဂ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

(ဃ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) (၁၂)လဆက်တိုက် ဖြစ်ပေါ်လာခြင်း၊

(င) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

<u>ပြင်ဆင်ခြင်း</u>

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက် ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

<u>အနုညာတ စီရင်ဆုံးဖြတ်ခြင်း</u>

၂၂။ ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် အကြား ကောင်းစွာမျှတသော ပြေလည်မှု ရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတ စီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## ပဋိညာဉ်စာချုပ်စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၃။ ပဋိညာဉ်စာချုပ် စတင်ခြင်းနှင့် အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဤပဋိညာဉ်စာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီး စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြုလုပ်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အား နှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်ပြီး **“လျှပ်စစ်စီမံကိန်း”**မှ **“လျှပ်စစ်ဓါတ်အား”** စီးပွားဖြစ် စတင် ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှ စတင်၍ နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်)လ ကြိုတင်၍ စာချုပ်ဝင်နှစ်ဖက် ညှိနှိုင်းကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် ( )ကြိမ် ပဋိညာဉ်စာချုပ် သက်တမ်း တိုးမြှင့်နိုင်သည်။

(ဃ) **“လုပ်ငန်းခွင့်ပြုသူ”** မှ ခွင့်ပြုထားသော **“လျှပ်စစ်စီမံကိန်း”** ၏ စာချုပ်ပါလုပ်ငန်း ကာလပြည့်ပြီးနောက်၊ **“လုပ်ငန်းလုပ်ကိုင်သူ”** သည်အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင်သော်လည်းကောင်း၊ သက်တမ်း တိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် **“လုပ်ငန်းခွင့်ပြုသူ”** ထံ တင်ပြ လျှောက်ထားရမည်။

## ခွင့်ပြုလွှဲအပ်ခြင်း

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ် ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်က စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

## အာမခံထားရှိခြင်း

၂၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့် အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

## အထွေထွေကိစ္စရပ်များ

၂၆။ (က) **တရားမဝင်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များ သည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက် မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာ မရောက်စေရ။

(ဂ) **ပစ္စည်းများလွှဲပြောင်းပေးခြင်း ။** ။ စာချုပ်သက်တမ်းရပ်စဲမှု (သို့မဟုတ်) ခွင့်ပြုသည့်လုပ်ငန်း သက်တမ်းကုန်ဆုံးမှု နောက်ပိုင်းတွင် **"လျှပ်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်းများ လွှဲပြောင်းပေးရေးနှင့် ပတ်သက်၍ သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများအပါအဝင် **"လုပ်ငန်းလုပ်ကိုင်သူ"**က ဆောက်လုပ်ထားသည့် အဆောက်အဦးများကို ကောင်းမွန်စွာ

ထိန်းသိမ်းထားသောအနေအထားအတိုင်း အဖိုးစားနားမပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးအပ်ရမည်။

(ဃ) ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း။ ။ စာချုပ်ရပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ (                    )ကာလအတွင်း စာချုပ်ပါမြေနှင့် **"လျှပ်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံထားသောပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ထံ လွှဲပြောင်းပေးရမည်။

(င) တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။ ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ (၉)အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ထမ်းဆောင်ရမည်ဖြစ်ပါသည်။

(စ) **အကြောင်းကြားစာများ။** ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှတစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော်လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှနောက်တွင် **"အကြောင်းကြားစာ"** ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက်မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင် ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး

ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိပ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဆ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

**ဆက်သွယ်ရန်လိပ်စာများ**

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည်။

**ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန**
**ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် -**

**နှင့်**

**အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်**
**အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊**
**ရန်ကုန်မြို့၊ ဖက်(စ်)အမှတ် -**

<u>**နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း**</u>

၂၈။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှု စာချွန်လွှာ ကို ဤပဋိညာဉ်စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

စာချုပ်လက်မှတ်ရေးထိုးခြင်း

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ------ ရက်၊ --------------- လ၊ ------ ခုနှစ်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

**ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန**
**အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်**
**(လုပ်ငန်းခွင့်ပြုသူ)အတွက်နှင့်**
**ကိုယ်စားလက်မှတ်ရေးထိုးသူ**

( )
**ညွှန်ကြားရေးမှူးချုပ်**

**(လုပ်ငန်းလုပ်ကိုင်သူ)အတွက်နှင့်**
**ကိုယ်စားလက်မှတ်ရေးထိုးသူ**

( )
**အုပ်ချုပ်မှုဒါရိုက်တာ**

<u>**အသိသက်သေများ**</u>

အမည် ၊ --------------------
မှတ်ပုံတင်အမှတ် ၊ --------------------
ရာထူး ၊ --------------------
ဌာန ၊ --------------------

အမည် ၊ -----------------
မှတ်ပုံတင်အမှတ် ၊ -----------------
ရာထူး ၊ -----------------
ဌာန ၊ -----------------

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန

နှင့်

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် တို့အကြား

၂၀၀၈ ခုနှစ်၊ မေလ (၂)ရက်နေ့တွင် ချုပ်ဆိုခဲ့သည့်

ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို

B.O.O (Build, Own, Operate)

(တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်) စနစ်ဖြင့်

ဆောင်ရွက်မည့် လုပ်ငန်းအတွက်

နားလည်မှုစာချွန်လွှာအား

ဖြည့်စွက် ပြင်ဆင်ချက် နားလည်မှု စာချွန်လွှာ

၂၀၀၉ ခုနှစ်

# ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း၊ ကယားပြည်နယ်အတွက် နောက်ဆက်တွဲနားလည်မှုစာချွန်လွှာ

ဤနောက်ဆက်တွဲ နားလည်မှုစာချွန်လွှာကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀ ခုနှစ်၊ ------------
-----လ၊ (      )ရက်နေ့၌

ညွှန်ကြားရေးမှူးချုပ်၊ ဦးဝင်းကြည် ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန လက်အောက်ရှိ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန (၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

အုပ်ချုပ်မှုဒါရိုက်တာ ဦးရဲမြင့် ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၏တည်ဆဲဥပဒေအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်(၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်)နှင့် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) တို့က အခြားတစ်ဖက်တို့သည်

(က) ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းနှင့်ပွန်ချောင်းဆုံအနီးတွင် ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းကို B.O.O (Build, Own and Operate) (တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်)စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် အတွက်လည်းကောင်း၊ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေး ဦးစီးဌာနနှင့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်တို့ (၂-၅-၂၀၀၈) ရက်နေ့တွင် ချုပ်ဆိုခဲ့သည့် နားလည်မှုစာချွန်လွှာ (နောင်တွင် "မူလစာချွန်လွှာ" ဟုခေါ်တွင်စေရမည်)တွင် "ဖော်ပြပါဝင်ခြင်းမရှိသော အနေအထားအခြေအနေများပေါ်ပေါက်က နှစ်ဖက်အဖွဲ့အစည်းတို့အနေနှင့် တိုင်ပင်ဆွေးနွေး၍ စာချွန်လွှာပါအချက်များကိုပြင်ဆင်ရပါမည်" ဟူသောစာပိုဒ်စာသားပါအရလည်းကောင်း၊ "ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်အနေနှင့် စီမံကိန်းအချိန်မီပြီးစီးရေးအတွက် သီးခြားကုမ္ပဏီတစ်ခု

ဖွဲ့စည်း၍ဆောင်ရွက်သွားမည်" ဟူသော စာပိုဒ်စာသားပါ အရလည်းကောင်း၊ ပြဋ္ဌာန်းချက်ကို ရည်ညွှန်းကိုးကား၍ လည်းကောင်း၊

(ခ) ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း၏ လုပ်ငန်းများအဆင်ပြေချောမွေ့စေပြီး ပိုမိုအထောက်အကူပြုသွားစေနိုင်ရန်အတွက် လည်းကောင်း၊

၁။ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်း၍ အောက်ပါအတိုင်း နောက်ဆက်တွဲ နားလည်မှု စာချွန်လွှာကို လက်မှတ်ရေးထိုးကြပါသည်။

၂။ ဤနောက်ဆက်တွဲ နားလည်မှုစာချွန်လွှာသည် "မူလစာချွန်လွှာ" တွင်ပါရှိသော ကျန်ရှိသည့် စည်းကမ်းသတ်မှတ်၊ ဖော်ပြပါရှိချက်များသည် ပြောင်းလဲမှုမရှိဘဲအပြန်အလှန်ဆက်နွယ်၍ ဆက်လက်အကျိုးသက်ရောက်မှု ရှိစေရမည်။

၃။ "မူလစာချွန်လွှာ" နားလည်မှုစာချွန်လွှာတွင် အောက်ပါစာပိုဒ်ကို ဖြည့်စွက်လိုက်သည်-

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီ ကုမ္ပဏီလီမိတက်အနေဖြင့် ရေအားလျှပ်စစ်လုပ်ငန်း လုပ်ကိုင်နိုင်သည့် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေအရ သီးခြားကုမ္ပဏီတစ်ခုကို Future Energy Co., Ltd. အမည်ဖြင့် တည်ထောင်၍ ပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေအရ ဘီလူးချောင်း အမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို တည်ဆောက်ပြီး ဓာတ်အားဖြန့်ဖြူးခြင်းအား စီမံခန့်ခွဲအုပ်ချုပ်ခြင်း လုပ်ငန်းကို B.O.T (Build, Operate and Transfer) (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်၊ လွှဲပြောင်းပေးခြင်း)စနစ်ဖြင့် ဆောင်ရွက်ရန်ဖြစ်သည်။

၄။ ဤနောက်ဆက်တွဲ နားလည်မှုစာချွန်လွှာသည် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီးနောက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရပြီးသည့်နေ့မှစ၍ အတည်ဖြစ်စေရမည်။

သက်သေထင်ရှားစိမ့်သောငှာ၊ ဤနောက်ဆက်တွဲ နားလည်မှုစာချွန်လွှာသည် အထက် ဖော်ပြပါ ---- ရက်၊ ------- ----------လ၊ ------------- ခုနှစ်တို့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ လက်မှတ်ရေးထိုး၍ စာချွန်လွှာကို လဲလှယ်ကြပါသည်။

**ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန**
**အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန(ကိုယ်စား)**

လက်မှတ် -

အမည် -

ရာထူး -

**ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီ**
**ကုမ္ပဏီလီမိတက် (ကိုယ်စား)**

လက်မှတ် -

အမည် - ဦးရဲမြင့်

ရာထူး - အုပ်ချုပ်မှုဒါရိုက်တာ

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

လက်မှတ် -

အမည် - ဦးအောင်ဇော်နိုင်

ရာထူး - အုပ်ချုပ်မှုဒါရိုက်တာ

<u>**အသိသက်သေများ**</u>

လက်မှတ် -

အမည် -

ရာထူး -

လက်မှတ် -

အမည် -

ရာထူး -

ဖ၀၀၂ ၊လ၈၇၁

ငလိန္ဒိငေငဂိဥ္ဂဩလးငန်

ၓယဟိဗေးနှ္ဒယဂ့ဓ္ဓဓေဂ္ဓလိးငဏေ၆၁ (၆)းၓငါ၆၁းလိဓ္ဓ

ဖြာ့ဝိ

ခ့ၓနှ္ဒငကန်ှ၈ြိဗေၓငထ၁ဥ္ဂဩဂြ

ၓယဟဂ္ဂလဓ္ဓယဂိယိပ္ဓလ္ဒိနှ္ဒဗေၓယဟဓေ၆ယနှဗိၓယဟၓယဝိ

ဒ္ဂံဓ္ဓ

နံငငံးဓ္ဓးဓ္ဓး၆ခၓရခဥ္ဂဩထဗေၓငယခဗေဓေဂ္ဓလိးငဏ၆၁

နံငငံးဓ္ဓြနှ္ဒဝးငဗေးဂ္ဓဓိဓေဂ္ဓလိ(၈)ၓဂဏ်ဗေ

ခ့ၓနှ္ဒငကန်ှ၈ြိဗေၓငထ၁ဥ္ဂဩဂြ

ဖ၀၀၂ ၊လၢဢ – ၸိုၼ်ႈ၁

ယိူၼ်ႇငီၸၢၵ်ႈၶွင်လႄႈၽႄ

ၽၢႆထိူင်းၼႂ်းၽူႈပိုတ်ႈတူဝ်ႁၢမ်းၸၼ်ၶၢ (ၸဵ)းၶုမ်ငိူဝ်းလႆႈမွင်

မႃၸွမ်

ၶၢႆႇၸၢႆးၵၢၼ်ၸွႆႈထၢမ်ၶွင်ၵၢဝ်

ၽၢႆထုင်ႈလၢႆမိူင်းယႂ်ႇလွႆႇလိူဝ်ၵေႃႉၽၢႆထုင်ၸၢႆၼိူဝ်ၽၢႆထုင်ၽၢႆႇၶွင်

ၶၢၼ်

ၼၢင်းၸွမ်းငိုဝ်းၶၢမွၼ်ၶွင်ထၼ်ၶုၸၢၼ်ၸွၵႃပိုတ်ႈတူဝ်ႁၢမ်းၸၼ်ၶၢ

ၼၢင်းၽွၼ်းဝႃးၸႅၼ်းၵုမ်ၸွၵႃပိုတ်ႈတူဝ်ႁ(၄)မွၵ်ၸၼ်

ၶၢႆႇၸၢႆးၵၢၼ်ၸွႆႈထၢမ်ၶွင်ၵၢဝ်

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း၊ ကယားပြည်နယ်

အတွက်

နားလည်မှုစာချွန်လွှာ

ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၀၈-ခုနှစ်၊ မေလ၊ (၂) ရက် နေ့တွင်-

မြန်မာနိုင်ငံ၏ ဥပဒေများအရတရားဝင်အဖွဲ့အစည်းတစ်ခုဖြစ်သည့်၊ ရေအားလျှပ်စစ်အကောင်ထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ပြည်ထောင်စုမြန်မာနိုင်ငံကို ကိုယ်စားပြု၍ ဦးအောင်ကိုးရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန

နှင့်

မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရတည်ထောင်ထားသော ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်ကို ကိုယ်စားပြု၍ ဦးအောင်ဇော်နိုင်၊ ဒုတိယဥက္ကဌ

တို့သည်

ဤနားလည်မှု စာချွန်လွှာ အား လက်မှတ်ရေးထိုးကြပါသည်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသည် ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း (စီမံကိန်း) ကို ပုဂ္ဂလိက အဖွဲ့အစည်း တစ်ခုအား (Build, Own, Operate)B.O.O (တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်စနစ်) စံနစ်ဖြင့် ဆောင်ရွက်စေရန် ရည်မှန်းချက်ဖြင့်လည်းကောင်း၊

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့်လည်း မြန်မာနိုင်ငံအတွင်း B.O.O စံနစ်ဖြင့်စံပြဆောင်ရွက်မည့် ရေအားလျှပ်စစ်စီမံကိန်းကို ပါဝင်ဆောင်ရွက် အကောင်ထည်ဖော်ရန် ဆန္ဒရှိသဖြင့်လည်းကောင်း၊

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် တို့သည် အောက်ပါအတိုင်း သဘောတူညီကြပါသည်။

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း၊ ကယားပြည်နယ်

အတွက်

နားလည်မှုစာချွန်လွှာ

ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၀၈–ခုနှစ်၊ မေလ၊ (၂) ရက် နေ့တွင်–

မြန်မာနိုင်ငံ၏ ဥပဒေများအရတရားဝင်အဖွဲ့အစည်းတစ်ခုဖြစ်သည့် ရေအားလျှပ်စစ်အကောင်ထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ပြည်ထောင်စုမြန်မာနိုင်ငံကိုကိုယ်စားပြု၍ ဦးအောင်ကိုးရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေး [illegible]စီးဌာန

နှင့်

မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရတည်ထောင်ထားသော ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်ကို ကိုယ်စားပြု၍ ဦးအောင်ဇော်နိုင်၊ ဒုတိယဥက္ကဋ္ဌ

တို့သည်

ဤနားလည်မှု စာချွန်လွှာ အား လက်မှတ်ရေးထိုးကြပါသည်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသည် ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း (စီမံကိန်း) ကို ပုဂ္ဂလိက အဖွဲ့အစည်း တစ်ခုအား (Build, Own, Operate)B.O.O (တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်စနစ်) စနစ်ဖြင့် ဆောင်ရွက်စေရန် [illegible]မှန်းချက်ဖြင့်လည်းကောင်း၊

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့်လည်း မြန်မာနိုင်ငံအတွင်း B.O.O စနစ်ဖြင့်စံပြဆောင်ရွက်မည့် ရေအားလျှပ်စစ်စီမံကိန်းကို ပါဝင်ဆောင်ရွက် အကောင်ထည်ဖော်ရန် ဆန္ဒရှိသဖြင့်လည်းကောင်း၊

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် တို့သည် အောက်ပါအတိုင်း သဘောတူညီကြပါသည်။

# ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း၊ ကယားပြည်နယ်

## အတွက်

## နားလည်မှုစာချွန်လွှာ

ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်၌ ၂၀၀၈–ခုနှစ်၊ မေလ၊ (၂) ရက် နေ့တွင်–

မြန်မာနိုင်ငံ၏ ဥပဒေများအရတရားဝင်အဖွဲ့အစည်းတစ်ခုဖြစ်သည့် ရေအားလျှပ်စစ်အကောင်ထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ပြည်ထောင်စုမြန်မာနိုင်ငံကို ကိုယ်စားပြု၍ ဦးအောင်ကိုးရွှေ၊ ညွှန်ကြားရေးမှူးချုပ်၊ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန

နှင့်

မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရတည်ထောင်ထားသော ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက်ကို ကိုယ်စားပြု၍ ဦးအောင်ဇော်နိုင်၊ ဒုတိယဥက္ကဋ္ဌ

တို့သည်

ဤနားလည်မှု စာချွန်လွှာ အား လက်မှတ်ရေးထိုးကြပါသည်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန၊ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသည် ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း (စီမံကိန်း) ကို ပုဂ္ဂလိက အဖွဲ့အစည်း တစ်ခုအား (Build, Own, Operate)B.O.O (တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်စနစ်) စနစ်ဖြင့် ဆောင်ရွက်စေရန် ရည်မှန်းချက်ဖြင့်လည်းကောင်း၊

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့်လည်း မြန်မာနိုင်ငံအတွင်း B.O.O စနစ်ဖြင့်စီမံဆောင်ရွက်မည့် ရေအားလျှပ်စစ်စီမံကိန်းကို ပါဝင်ဆောင်ရွက် အကောင်ထည်ဖော်ရန် ဆန္ဒရှိသဖြင့်လည်းကောင်း၊

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် တို့သည် အောက်ပါအတိုင်း သဘောတူညီကြပါသည်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန အနေနှင့် ဟိုက်တက်ကွန်ကရစ်တက်ခနို လိုဂျီကုမ္ပဏီလီမိတက် အား ဘီလူးချောင်းတွင်တည်ဆောက်မည့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်း အတွက် အောက်ဖော်ပြပါလုပ်ငန်းအပါအဝင် လိုအပ်သောလုပ်ငန်းများ ဆောင်ရွက်ရန်ခွင့် ပြုလိုက်ပါသည်။

(က) ဖြစ်မြောက်နိုင်စွမ်း အစီရင်ခံစာပြုစုရေးဆွဲရန်။

(ခ) စီမံကိန်းအတွက် အတိုင်ပင်ခံအင်ဂျင်နီယာအဖွဲ့ကို ရေအားလျှပ်စစ်အကောင်အထည် ဖော်ရေးဦးစီးဌာန၏ အတည်ပြုချက်ဖြင့် ခန့်အပ်ရန်။

(ဂ) ထပ်မံလိုအပ်သောစူးစမ်းလေ့လာမှုလုပ်ငန်းများဆက်လက်ပြုလုပ်ရန်။

(ဃ) အသေးစိတ်အင်ဂျင်နီယာပိုင်း လေ့လာမှုနှင့်ဆောက်လုပ်ရေးဒီဇိုင်းများကို ပုံစံရေးဆွဲ ထုတ်လုပ်ရန်။

(င) မြို့ပြလုပ်ငန်းများ၊သံထည်လုပ်ငန်းများနှင့် လျှပ်စစ်စက်မှုလုပ်ငန်းများဆောင်ရွက်ရန်။

(စ) ရေအားလျှပ်စစ်စက်ရုံတည်ဆောက်ပြီးပါက ထိန်းသိမ်းမောင်းနှင်ရန်။

(ဆ) လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုရန်။

ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနအနေနှင့် စီမံကိန်းနှင့်ဆက်စပ်သည့် လိုအပ်သော အချက်အလက်၊ သတင်းနှင့်အစီရင်ခံစာများကို ပေးပို့ပေးပါမည်။ ထို့အပြင် စီမံကိန်းနှင့်ဆက်စပ်၍ သက်ဆိုင်ရာဥပဒေ၊ စည်းမျဉ်းများနှင့်အညီ မြေယာအသုံးချခွင့်ရရှိရေး ကိစ္စများ၊ စီမံကိန်းဧရိယာအတွင်း လူ/စက်/ယာဉ်/ ယန္တရားများ ဝင်/ထွက်/သွားလာခွင့် ရရှိရေးကိစ္စများ၊ လုံခြုံရေးကိစ္စများ နှင့် ဓာတ်အားဝယ်ယူမှုဆိုင်ရာ သဘောတူညီချက်ရရှိရေးအတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများနှင့် ညှိနှိုင်း၍ကူညီ ဆောင်ရွက်ပေးမည် ဖြစ်ပါသည်။

ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့် စီမံကိန်းအချိန်မှီပြီးစီးရေး အတွက် သီးခြားကုမ္ပဏီ တစ်ခုဖွဲ့စည်း၍ ဆောင်ရွက်သွားမည်ဖြစ်သည့်အပြင် စီမံကိန်း၏တိုးတက်မှု အစီရင်ခံစာကို အခါအားလျော်စွာ ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနသို့ တင်ပြ ရမည်ဖြစ်ပြီး လိုအပ်ပါက ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနမှ နည်းပညာဆိုင်ရာ ကိစ္စရပ်များအား ကူညီဆောင်ရွက်ပေးနိုင်ရေးအတွက် စီစဉ်ပေးရပါမည်။

ဤနားလည်မှုစာချွန်လွှာတွင် ပါဝင်သော စီမံကိန်းနှင့်ဆက်စပ်နေသော အချက်အလက်များနှင့် အသေးစိတ်များကိုဤစာချုပ်ပါ အဖွဲ့အစည်းများမှ အများနှင့်မဆိုင်သောကိစ္စနှင့်လျှို့ဝှက်ကိစ္စ တစ်ရပ်အနေဖြင့် လက်ခံထားရမည်ဖြစ်ပြီး ဤစာချုပ်ပါ အဖွဲ့အစည်းနှစ်ခုလုံး၏ စာဖြင့်ရေးသား သဘောတူညီမှု မပါဘဲနှင့်အခြားသော တတိယအဖွဲ့အစည်းတစ်ခုထံသို့ "စီမံကိန်း" နှင့် ပတ်သက်သည့် မည်သည့် အချက်အလက်ကိုမှ မပေါက်ကြား စေရပါ။

"စီမံကိန်း" ၏ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာကို ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေး ဦးစီးဌာန ၊ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန သို့ ( ၂ . ၅ . ၂၀၀၈)ရက်နေ့မှ (၆)လ အတွင်း တင်ပြရမည်ဖြစ်ပါသည်။

အကယ်၍ ဟိုက်တက်ကွန်ကရစ်တက်ခနိုလိုဂျီကုမ္ပဏီလီမိတက် အနေနှင့် နားလည်မှု စာချွန်လွှာကို လက်မှတ်ရေးထိုးပြီး (၁၂)လအတွင်း"စီမံကိန်း"ကို အကောင်အထည်ဖော်ခြင်း မပြုလုပ်နိုင်ပါက တတိယအဖွဲ့အစည်း တစ်ခုအား လွှဲအပ်ပေးခဲ့သော် ဟိုက်တက်ကွန်ကရစ်တက်ခနို လိုဂျီကုမ္ပဏီလီမိတက် အနေနှင့် နဂိုမူလက ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြေးကျိုး ညီမျှသည့် ပမာဏအထိ တတိယအဖွဲ့အစည်းထံမှ လျော်ကြေး တောင်းခံနိုင်ခွင့်ရှိသည်။

ဤနားလည်မှုစာချွန်လွှာတွင် ဖော်ပြပါဝင်ခြင်းမရှိသော အနေအထား/အခြေအနေများပေါ် ပေါက်ပါက နှစ်ဘက်အဖွဲ့အစည်းတို့အနေနှင့် တိုင်ပင်ဆွေးနွေး၍ စာချွန်လွှာပါ အချက်အလက်များ ကို ပြင်ဆင်ရပါမည်။

ဤနားလည်မှုစာချွန်လွှာသည် စာချုပ်လက်မှတ်ရေးထိုး သည့်နေ့မှစတင်၍ အကျိုးဝင် သက်ရောက် ပါမည်။

အောက်တွင် ဖော်ပြပါရှိသော သက်သေများ၏ ရှေ့မှောက်တွင်နှစ်ဘက်သော အဖွဲ့အစည်း တို့သည်၎င်းတို့နှင့်သက်ဆိုင်သောအဖွဲ့အစည်းများမှ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များအရ လက်မှတ် ရေးထိုးကြပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၈ခုနှစ်၊ မေလ၊ ( ၂ )ရက်နေ့ တွင် လက်မှတ်ရေးထိုးပြီး အင်္ဂလိပ်/မြန်မာ နှစ်ဘာသာဖြင့် စာချွန်လွှာကို လဲလှယ်ကြပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၂၆၅ / ၂၀၀၈-၂၀၀၉

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ အနာဂတ်စွမ်းအင် အသင်း ကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၈ ခုနှစ် ဇွန် လ ၆ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

| စက်မှု/ထုတ်လုပ်မှု |
|---|
| INDUSTRIAI . PRODUCTION |

ခင်စိုး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 265 of 2008 - 2009

I hereby certify that FUTURE ENERGY COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this SIXTH day of JUNE, TWO THOUSAND AND EIGHT.

စက်ရုံ အလုပ်ရုံ တည်ရှိရာအရပ်သည်
စက်မှုလက်မှုဇုံတွင် ဖြစ်စေရမည်၊
(သို့မဟုတ်) လူနေရပ်ကွက်နှင့် ကင်း
လွတ်ရာ အရပ်၌ ဖြစ်စေရမည်။

KHIN SOE
DIRECTOR GENERAL
Directorate of Investment and Company Administration,
Registrar of Joint Stock Companies
Companies Registration Office

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)



Name of Company : Future Energy Co.,Ltd.

Presented by : U Aung Zaw (Managing Director)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Aik Htun | Myanmar 12/LaMaTa (Naing)014300 | No.14/B, River View Garden Housing, Sin Min Quarter,Ahlone Township, Yangon. | Merchant | Chairman |
| 2. U Aung Zaw Naing | Myanmar 12/LaMaTa (Naing)025758 | Room No.1003, Olympic Tower II, River View Garden Housing, Sin Min Quarter, Ahlone Township, Yangon. | Merchant | Managing Diercfor |
| 3. U Soe Hlaing | Myanmar 13/TaKaNa (Naing)000586 | No.107, University Auenue Road, Kamayut Township, Yangon. | Merchant | Vice-Chairman |
| U Win Shein(a) U Shwin Pain | Myanmar 13/TaKaNa (Naing)126940 | No.20, Myaing Hay Wun Housing, 8th Miles, Mayangone Township, Yangon. | Merchant | Director |
| 5. U Kyaw Khaing | Myanmar 12/KaTaTa (Naing)024784 | No.640, Mahabandoola Street, Latha Township, Yangon. | Merchant | Director |

NOTE :
(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................................................" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this 7-5-09

Signature ..............................

Designation Aung Zaw Naing Managing Director Future Energy Co., Ltd.

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

**Name of Company :** Future Energy Co.,Ltd.

**Presented by :** U Aung Zaw Naing (Managing Director)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 6. U Thein Han | Myanmar 12/KaMaYa (Naing)044487 | No.105/7, Than Lwin Street, Kamayut Township, Yangon. | Merchant | Director |
| 7. U Aung Than | Myanmar 12/PaZaTa (Naing)022750 | No.1, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 8. U Ye Myint | Myanmar 12/TaMaNa (Naing)073997 | No.2, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| U Win Htay | Myanmar 12/TaMaNa (Naing)070406 | No.5, Bonekyone Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 10. U Han Thein Lwin | Myanmar 12/LaMaTa (Naing)000783 | No.81, Padauk Street, Aye Yeik Mon Housing, Hlaing Township, Yangon. | Merchant | Direcor |

**NOTE :**
(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................................" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this ....7-5-09.............................

Signature ...................................
Aung Zaw Naing

Designation ....Managing Director....
Future Energy Co., Ltd.

COMPANIES REGISTRATION OFFICE 14237

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

**Name of Company :** Future Energy Co.,Ltd.

**Presented by :** U Aung Zaw Naing (Managing Director)

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 11. Daw Sandar Htun | Myanamr 12/LaMaTa (Naing)000063 | No.14/B, River View Garden Housing, Sin Min Quarter,Ahlone Township, Yangon. | Merchant | Director |
| 12. U Myo Naung | Myanmar 12/TaKaNa (Naing)125092 | Maykha Housing, Laydauntkan Road, Thingungyun Township, Yangon. | Merchant | Director |
| 13. U Aik Yee | Myanmar 13/NaKhaNa (Naing)033699 | No.17-A, Pyay Road,6 ½ Mile, Hlaing Township, Yangon. | Merchant | Vice-Chairman |
| 14. U Sein Myint | Myanmar 13/Ka Ma Na (Naing)009939 | No.520,Bet:39&40 Street 80 Street, Maha Aung Myay | Merchant | Director |
| 15. U Aung Shwe | Myanmar 12/Pa Ba Ta (Ei)000338 | No.216/222,D-1,Bo Myat Tun Housing, Mahabandoola Road, Pazundaung Township, Yangon. | Merchant | Director |

**NOTE :**

(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of .............................. " and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

**Dated this** 7-5-09

**Signature** ..............

**Designation** Aung Zaw Naing, Managing Director, Future Energy Co., Ltd.

FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company :

Presented by :

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 16. U Aung Paye Kyaw | Myanmar 12/TaMaNa (Naing)105906 | No.2, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 17. Daw Hla Hla Win | Myanmar 12/TaMaNa (Naing)005505 | No.5, Bonekyone Street, Tamwelay Quarter. Tamwe Township, Yangon. | Merchantq | Director |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ........................................ and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..............................

Dated this ..............................

Designation ........ Aung Zaw Naing
Managing Director
Future Energy Co., Ltd.

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company :

Presented by :

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 16. U Aung Paye Kyaw | Myanmar 12/TaMaNa (Naing)105906 | No.2, Dagon Lwin Street, Tamwelay Quarter Tamwe Township, Yangon. | Merchant | Director |
| 17. Daw Hla Hla Win | Myanmar 12/TaMaNa (Naing)005505 | No.5, Bonekyone Street, Tamwelay Quarter. Tamwe Township, Yangon. | Merchantq | Director |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..................................... and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Dated this ..........................................

Signature ..............................

Designation ........Aung Zaw Naing...
Managing Director
Future Energy Co., Ltd.

**High Tech Concrete Technology Co., Ltd. ၏**

**(၂-၅-၂၀၀၈)နေ့တွင် ကျင်းပသော ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း**

အစည်းအဝေးကျင်းပသည့်နေ့ - ၂. ၅. ၂၀၀၈
အစည်းအဝေးကျင်းပသည့်အချိန် - နံနက် (၁၀း၀၀)နာရီ
အစည်းအဝေးကျင်းပသည့်နေရာ - High Tech Concrete Technology Co., Ltd.
အစည်းအဝေးခန်းမ။

**အစည်းအဝေးတက်ရောက်သူများ**

| | | |
|---|---|---|
| ၁။ | ဦးအိုက်ထွန်း | ဥက္ကဋ္ဌ |
| ၂။ | ဦးအောင်ဇော်နိုင် | ဒုတိယဥက္ကဋ္ဌ |
| ၃။ | ဦးရဲမြင့် | အုပ်ချုပ်မှုဒါရိုက်တာ |
| ၄။ | ဦးဝင်းဋ္ဌေး | ဒါရိုက်တာ |
| ၅။ | ဒေါ်စန္ဒာထွန်း | ဒါရိုက်တာ |
| ၆။ | ဒေါ်ခင်လှတင် | ကုမ္ပဏီအတွင်းရေးမှူး |

**အစည်းအဝေးဆုံးဖြတ်ချက်များ**

(၂-၅-၂၀၀၈)နေ့တွင် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနနှင့် လက်မှတ်ရေးထိုးထားသည့် နားလည်မှုစာချွန်လွှာအရ ဆောင်ရွက်ရမည့် ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို လုပ်ငန်းပမာဏကြီးမားပြီး သီးခြားဆောင်ရွက်ရမည့် သဘောသဘာဝရှိသည့်သောကြောင့် ညီနောင်ကုမ္ပဏီဖြစ်သည့် Future Energy Co., Ltd. မှ ဆက်လက်တာဝန်ယူဆောင်ရွက်လုပ်ကိုင်မည်ကို သဘောတူကြောင်း ဆုံးဖြတ်ကြပါသည်။

| မှတ်တမ်းတင်သူ | အတည်ပြုသူ |
|---|---|
| (ခင်လှတင်) | (ရဲမြင့်) |
| ကုမ္ပဏီအတွင်းရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |

High Tech
Concrete Technology Co., Ltd.

0061[illegible]

## High Tech Concrete Technology Co., Ltd. ၏
## (၂-၅-၂၀၀၈)နေ့တွင် ကျင်းပသော ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

အစည်းအဝေးကျင်းပသည့်နေ့ - ၂. ၅. ၂၀၀၈
အစည်းအဝေးကျင်းပသည့်အချိန် - နံနက် (၁၀း၀၀)နာရီ
အစည်းအဝေးကျင်းပသည့်နေရာ - High Tech Concrete Technology Co., Ltd.
အစည်းအဝေးခန်းမ။

**<u>အစည်းအဝေးတက်ရောက်သူများ</u>**

| | | |
|---|---|---|
| ၁။ | ဦးအိုက်ထွန်း | ဥက္ကဋ္ဌ |
| ၂။ | ဦးအောင်ဇော်နိုင် | ဒုတိယဥက္ကဋ္ဌ |
| ၃။ | ဦးရဲမြင့် | အုပ်ချုပ်မှုဒါရိုက်တာ |
| ၄။ | ဦးဝင်းငွေ | ဒါရိုက်တာ |
| ၅။ | ဒေါ်စန္ဒာထွန်း | ဒါရိုက်တာ |
| ၆။ | ဒေါ်ခင်လှတင် | ကုမ္ပဏီအတွင်းရေးမှူး |

**<u>အစည်းအဝေးဆုံးဖြတ်ချက်များ</u>**

(၂-၅-၂၀၀၈)နေ့တွင် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနနှင့် လက်မှတ်ရေးထိုးထားသည့် နားလည်မှုစာချွန်လွှာအရ ဆောင်ရွက်ရမည့် ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို လုပ်ငန်းပမာဏကြီးမားပြီး သီးခြားဆောင်ရွက်ရမည့် သဘောသဘာဝရှိသည့်သောကြောင့် ညီနောင်ကုမ္ပဏီဖြစ်သည့် Future Energy Co., Ltd. မှ ဆက်လက်တာဝန်ယူဆောင်ရွက်လုပ်ကိုင်မည်ကို သဘောတူကြောင်း ဆုံးဖြတ်ကြပါသည်။

| မှတ်တမ်းတင်သူ | အတည်ပြုသူ |
|---|---|
| (လက်မှတ်) | (လက်မှတ်) |
| (ခင်လှတင်) | (ရဲမြင့်) |
| ကုမ္ပဏီအတွင်းရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |

No.(584), Corner of 7th Street & Strand Road. Tel : [95]-1-227705, 227706, 227712
Fax : [95]-1-211957, 211696

# Future Energy Co., Ltd.

No. (584),High Tech Tower 1st Floor, Corner of 7th Street & Strand Road, Lanmadaw Township, Yangon, Myanmar.

Tel : (95)1-227705, 227706, 227712 Fax : (95)-1-211696, 211957


**Future Energy Co., Ltd. ၏**

(၁၇-၅-၂၀၀၈)နေ့တွင် ကျင်းပသော ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

အစည်းအဝေးကျင်းပသည့်နေ့ - ၁၇. ၅. ၂၀၀၈

အစည်းအဝေးကျင်းပသည့်အချိန် - နေ့လည် (၂း၀၀)နာရီ

အစည်းအဝေးကျင်းပသည့်နေရာ - Ahlone Tower, 3rd Floor Meeting Room

**အစည်းအဝေးတက်ရောက်သူများ**

| | | |
|---|---|---|
| ၁။ | ဦးအောင်ဇော်နိုင် | အုပ်ချုပ်မှုဒါရိုက်တာ |
| ၂။ | ဦးရဲမြင့် | ဒါရိုက်တာ |
| ၃။ | ဦးဝင်းဌေး | ဒါရိုက်တာ |
| ၄။ | ဦးမျိုးနောင် | ဒါရိုက်တာ |
| ၅။ | ဦးဟန်သိန်းလွင် | ဒါရိုက်တာ |
| ၆။ | ဒေါ်ခင်လှတင် | ကုမ္ပဏီအတွင်းရေးမှူး |

**အစည်းအဝေးဆုံးဖြတ်ချက်များ**

(၂. ၅. ၂၀၀၈) နေ့တွင် မိမိတို့၏ညီနောင်ကုမ္ပဏီဖြစ်သော High Tech Concrete Technology Co., Ltd. နှင့် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနတို့မှ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို ဆောင်ရွက်ရန် နားလည်မှုစာချွန်လွှာ လက်မှတ်ရေးထိုးခဲ့ကြပြီးဖြစ်ပါသည်။ ၎င်းလုပ်ငန်းသည် ပမာဏကြီးမားပြီး သီးခြားရပ်တည်ရမည့် သဘောရှိခြင်းကြောင့် Future Energy Co., Ltd. မှဆက်လက်တာဝန်ယူ ဆောင်ရွက်ရန် သဘောတူဆုံးဖြတ်ကြပါသည်။

| မှတ်တမ်းတင်သူ | အတည်ပြုသူ |
|---|---|
| (ခင်လှတင်) | (အောင်ဇော်နိုင်) |
| ကုမ္ပဏီအတွင်းရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |

# Future Energy Co., Ltd.

No. (584),High Tech Tower 1st Floor, Corner of 7th Street & Strand Road, Lanmadaw Township, Yangon, Myanmar.
Tel : (95)1-227705, 227706, 227712 Fax : (95)-1-211696, 211957

**Future Energy Co., Ltd. ၏**

**(၁၆-၁၁-၂၀၀၈)နေ့တွင် ကျင်းပသော ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း**

အစည်းအဝေးကျင်းပသည့်နေ့ - ၆. ၁၁. ၂၀၀၈
အစည်းအဝေးကျင်းပသည့်အချိန် - နံနက် (၁၀း၀၀)နာရီ
အစည်းအဝေးကျင်းပသည့်နေရာ - Ahlone Tower, 3rd Floor Meeting Room

<u>စည်းအဝေးတက်ရောက်သူများ</u>

| | | |
|---|---|---|
| ၁။ | ဦးအောင်ဇော်နိုင် | အုပ်ချုပ်မှုဒါရိုက်တာ |
| ၂။ | ဦးရဲမြင့် | ဒါရိုက်တာ |
| ၃။ | ဦးဝင်းဌေး | ဒါရိုက်တာ |
| ၄။ | ဦးမျိုးနောင် | ဒါရိုက်တာ |
| ၅။ | ဦးဟန်သိန်းလွင် | ဒါရိုက်တာ |
| ၆။ | ဒေါ်ခင်လှတင် | ကုမ္ပဏီအတွင်းရေးမှူး |

<u>အစည်းအဝေးဆုံးဖြတ်ချက်များ</u>

၁။ Future Energy Co., Ltd. အနေဖြင့် ငွေသွင်းငွေထုတ်ကိစ္စများ အဆင်ပြေချောမွေ့စေရန်အတွက် ဘဏ်တွင်စာရင်းဖွင့်လှစ်ထားရန် ဆုံးဖြတ်ကြသည်။

ဘဏ်တွင်းငွေသွင်းငွေထုတ်ကိစ္စများကို ဆောင်ရွက်ရန် (၁) ဦးအောင်ဇော်နိုင်၊ (၂) ဦးရဲမြင့် နှင့် (၃) ဦးဝင်းဌေးတို့ (၃)ဦးအနက်မှ တစ်ဦးဦး၏ လက်မှတ်ဖြင့် ဆောင်ရွက်ရန် သဘောတူဆုံးဖြတ်ကြပါသည်။

၃။ Future Energy Co., Ltd. မှ တာဝန်ယူဆောင်ရွက်မည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းအတွက် ဘဏ်တွင် နှစ်ရှည်စီမံကိန်းချေးငွေ ကျပ်သန်းပေါင်း (၂၂၀၀၃. ၈)ရယူရန် ဆုံးဖြတ်ကြသည်။

၄။ အဆိုပါချေးငွေအား ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား အာမခံအဖြစ်ထား၍ စီမံကိန်းတည်ဆောက်မှု ကာလ (၄)နှစ်၊ Grace Period အတွက် (၃)နှစ် နှင့် ပြန်လည်ပေးဆပ်မှုကာလ (၁၀)နှစ်တို့ဖြင့် နိုင်ငံတော်မှ သတ်မှတ်ထားသော ဘဏ်လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူမည်ကို သဘောတူ ဆုံးဖြတ်ကြသည်။

| မှတ်တမ်းတင်သူ | အတည်ပြုသူ |
|---|---|
| (ခင်လှတင်) | (အောင်ဇော်နိုင်) |
| ကုမ္ပဏီအတွင်းရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |

၄။ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ၌ ဥပဒေအရပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်စွမ်းအားထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓါတ်အားထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသဖြင့် ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့်ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၆။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားခြင်းရှိ မရှိ၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည်တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူ စိစစ်သင့်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

**အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ နစ/ဃ-၁/ ၅၁၉ / ၂၀၀၉ (၅၂၅၃)
ရက်စွဲ ။၂၀၀၉ခုနှစ် ၊အောက်တိုဘာလ ( ၁ )ရက်

အမှာစာ

အကြောင်းအရာ။ ။ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား Build, Operate and Transfer (B.O.T) စနစ်ဖြင့် ဆောင်ရွက်ရေးဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေးရန် ကိစ္စ။

ရည်ညွှန်းချက် ။ ။အမှတ် (၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ၏ ၂.၉.၂၀၀၉ ရက်စွဲပါ စာ အမှတ် ၁၅၇ / လျှပ်စစ် ၁- (၂) / ၄၁၅၆ / ၂၀၀၉

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း အတွက် ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန(DHPP) နှင့်အနာဂတ် စွမ်းအားကုမ္ပဏီလီမိတက် (လုပ်ငန်းလုပ်ကိုင်သူ)တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) နှင့် စပ်လျဉ်း၍ အောက်ပါ သဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

၁။ စာချုပ် (မူကြမ်း)အရ တပ်ဆင်စက်အင်အား ၄၈ မဂ္ဂါဝပ်ရှိသည့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်း ကို လုပ်ငန်းလုပ်ကိုင်သူအား တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် ချုပ်ဆိုခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည် ။

၂။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူမှ ရေအားလျှပ်စစ် စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊ ဒီဇိုင်းရေးဆွဲ ပုံစံထုတ်လုပ်ခြင်း ၊ရေလှောင်တာ၊ ရေသွင်းမြောင်းများ ရေသွယ်ဥမင်လိုဏ်ခေါင်းများ တည်ဆောက်ခြင်း ၊ ရေအားလျှပ်စစ်စက်ရုံ ထိန်းသိမ်း ဆောင်ရွက်ခြင်း နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူ မှ မြေယာအသုံးချမှု ပရီမီယံကြေး သိန်း (၅၀၀) ပေးသွင်းရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ စာချုပ် (မူကြမ်း)အရ DHPP အနေဖြင့် စီမံကိန်း အတွက် မြေအသုံးချရန် ခွင့်ပြုချက် ရရှိရေး၊ လုပ်ငန်းလုပ်ကိုင်ရန် နှင့် ခွင့်ပြုမိန့်များရရှိရေး လျှပ်စစ်ဓါတ်အား ရောင်းချရန် အတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများ နှင့် ညှိနှိုင်းရေး စသည်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ စာချုပ် (မူကြမ်း)တွင် စီမံကိန်းတည်ဆောက်ရေးကာလကို (၄) နှစ် သတ်မှတ်ထားပြီး စာချုပ်သက်တမ်းကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ နှစ်ပေါင်း(၆၀) သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။

၆။ စာချုပ် (မူကြမ်း) အရ မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်သူမှ ပေးရန်ဖြစ်ပြီး မြေငှားရမ်းခ သီးခြားပါဝင်ခြင်း မရှိကြောင်းတွေ့ရှိရပါသည်။

၇။ B.O.T (မူကြမ်း) အရ လုပ်ငန်းလုပ်ကိုင်သူထံမှ လုပ်ငန်းဆောင်ရွက်မှု အာမခံရယူရန် သင့် - မသင့် စဉ်းစားသင့် ပါကြောင်း အကြံပြုအပ်ပါသည်။

၈။ စာချုပ်(မူကြမ်း)တွင် အပိုဒ် ၇(ဆ)(ဇ)၊၈(တ)နှင့် အပိုဒ် ၂၂(က)တွင် မင်နီဖြင့်ပြင်ဆင်ပေးထားကြောင်းဖော်ပြအပ်ပါသည်။

စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီးစီးပါက မိတ္တူ (၂)စောင်ကို ဤဦးစီးဌာနသို့ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား )
(မောင်မောင်ခင်-ညွှန်ကြားရေးမှူး)

<u>အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန</u>

**Future Energy Co., Ltd.**

High Tech Tower, No. (584), 1st Floor, Strand Road, Lanmadaw Township, Yangon, Myanmar.
Tel : (95)1-227705, 227706, 227712 Fax : (95)-1-211696, 211957

သို့

ဝန်ကြီး
အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
နေပြည်တော်။

စာအမှတ် - FE/MD/ 014 /2009
ရက်စွဲ - ၂၀၀၉ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်

အကြောင်းအရာ ။ ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်းအား BOT စနစ်ဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုတင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ (၁) (၂-၅-၂၀၀၈)နေ့တွင် High Tech Concrete Technology Co., Ltd. နှင့် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနတို့ လက်မှတ်ရေးထိုးခဲ့သော နားလည်မှုစာချွန်လွှာ၊

(၂) ကုမ္ပဏီ၏ (၃-၁၂-၂၀၀၈)ရက်စွဲပါ စာအမှတ် FE/လုပ်ငန်း/၀၀၂/ ၂၀၀၈ ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုချက်၊

၁။ ကျွန်တော်များ Future Energy Co., Ltd.သည် ရည်ညွှန်းချက်(၁)ပါ နားလည်မှုစာချွန်လွှာအရ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းတွင် တည်ဆောက်ရေးလုပ်ငန်းများကို အရှိန်အဟုန်ဖြင့်အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါရည်ညွှန်းချက်(၂)ဖြင့် တင်သွင်းခဲ့သောအဆိုပြုချက်အစား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Build, Operate and Transfer (တည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်း နှင့် လွှဲပြောင်းပေးခြင်း)စနစ်ဖြင့် ပဋိညာဉ်စာချုပ်ချုပ်ဆို၍ ရင်းနှီးမြှုပ်နှံလုပ်ကိုင်ခွင့်ရရှိနိုင်ရန်အတွက် အဆိုပြုတင်ပြအပ်ပါသည်။

၂။ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းသည် အတိုင်ပင်ခံအင်ဂျင်နီယာများ၏ စီမံကိန်းဖြစ်နိုင်ချေလေ့လာမှုနှင့် ပဏာမတွက်ချက်မှုများအရ စက်တပ်ဆင်အင်အား (၅၂)မဂ္ဂါဝပ်ဖြင့် နှစ်စဉ်လျှပ်စစ်ဓာတ်အားကီလိုဝပ်နာရီသန်းပေါင်း(၃၃၄)ထုတ်လုပ်ပေးနိုင်မည်ဖြစ်ပြီး ပဏာမတွက်ချက်မှုများအရ ကျွန်တော်များကုမ္ပဏီမှ စီမံကိန်းအတွက် ခန့်မှန်းရင်းနှီးမြှုပ်နှံငွေကျပ်သန်းပေါင်း (၁၀၅၆၁၄.၉၇) နှင့် အမေရိကန်ဒေါ်လာ (၈၂.၆၇)သန်းဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ အဆိုပြုစီမံကိန်းသည် လုပ်ငန်းပမာဏကြီးမားခြင်း၊ သီးခြားရပ်တည်ရမည့်သဘောသဘာဝရှိခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏများပြားခြင်းတို့ကြောင့် ကျွန်တော်များ Future Energy Co., Ltd. မှ အောင်မြင်ချောမွေ့စွာပြီးစီးနိုင်ရန်တာဝန်ယူ၍ လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ရည်ညွှန်းချက်(၁)ပါ နားလည်မှုစာချွန်လွှာအစားပူးတွဲ(၁)ပါ နားလည်မှုစာချွန်လွှာဖြင့် စာချုပ်ချုပ်ဆို၍ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

၄။ အဆိုပြုစီမံကိန်းကို B.O.T (Build, Operate and Transfer) စနစ်ဖြင့် ကျွန်တော်များကုမ္ပဏီမှ နှစ်ပေါင်း(၆၀) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုပေးပါရန်နှင့် ၎င်းကာလပြည့်ပြီးနောက်တွင် လုပ်ငန်းဆက်လက် လုပ်ကိုင်ခွင့်ကို (၅)နှစ်စီဖြင့် (၃)ကြိမ်တိုးမြှင့် လုပ်ကိုင်ခွင့်ပြုပါရန်အတွက် ပဋိညာဉ်စာချုပ်ချုပ်ဆို၍ လုပ်ငန်းဆောင်ရွက်နိုင်ရန် ပူးတွဲ(၂)ပါ ပဋိညာဉ်စာချုပ်မူကြမ်းအား လိုအပ်သောလမ်းညွှန်မှုပြုပေး နိုင်ပါရန်နှင့် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တောင်းခံပေးနိုင်ပါရန် ပူးတွဲတင်ပြအပ်ပါသည်။

၅။ အဆိုပြုစီမံကိန်းသည် ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏများပြားခြင်းကြောင့် ဆောင်ရွက်မည့်စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်ပိုင်ဘဏ်တစ်ခုခုမှ ငွေကျပ်သန်းပေါင်း (၂၂၀၀၃. ၈)ကို ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ နှစ်ရှည်စီမံကိန်းချေးငွေ (Project Finance) ရယူ၍ ဆောင်ရွက်သွားနိုင်ရန်အတွက်ဝန်ကြီးဌာနမှကူညီပံ့ပိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။ နိုင်ငံခြားသုံးငွေဖြင့် ရင်းနှီးမြှုပ်နှံမှုအတွက် နိုင်ငံခြားဘဏ်မှ အမေရိကန်ဒေါ်လာသန်းပေါင်း(၂၈. ၈)ကို စီမံကိန်းချေးငွေအဖြစ်ရယူ၍ လုပ်ငန်းဆောင်ရွက်လိုပါသဖြင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများအညီ ချေးယူခွင့်ရရှိနိုင်ရန်အတွက် ကူညီပံ့ပိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၆။ ချေးငွေများပြန်လည်ပေးဆပ်ရာတွင်-

(က) ပြည်တွင်းချေးငွေအား ညီနောင်ကုမ္ပဏီများမှ ဆောင်ရွက် နေသည့် စီမံကိန်းများမှ ရရှိသော -

- ရန်ကုန်-မန္တလေး လမ်းစီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊
- နေပြည်တော်တည်ဆောက်ရေးစီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊
- ရေအားလျှပ်စစ်တည်ဆောက်ရေးကဏ္ဍများတွင်ပါဝင်ဆောင်ရွက်လျက်ရှိသည့် ရဲရွာရေအား လျှပ်စစ်စီမံကိန်း၊ ပေါင်းလောင်းရေအားလျှပ်စစ်စီမံကနိးများမှ ရရှိသည့် ဝင်ငွေများ၊
- High Tech Concrete Co., Ltd. ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊

- ရွှေတောင်ကုမ္ပဏီမှရောင်းချသည့် အိမ်၊ ခြံ၊ မြေ များမှ ရရှိသည့်ဝင်ငွေများ၊
- ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပြန်လည်ပေးဆပ် သွားမည်ဖြစ်ပါသည်။

(ခ) နိုင်ငံခြားသုံးငွေဖြင့် ချေးငွေအား ညီနောင်ကုမ္ပဏီများ၏ ပြည်ပပို့ကုန် လုပ်ငန်းများဖြစ်သည့်
- ရေထွက်ပစ္စည်းများတင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြားပို့ကုန်ရငွေများ၊
- လယ်ယာထွက်ကုန်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊
- ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊
- ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှရရှိသည့် တရားဝင် နိုင်ငံခြားဝင်ငွေများဖြင့်လည်းကောင်း ပြန်လည် ပေးဆပ်ပါမည်။

၇။ စီမံကိန်းပြီးစီး၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရာတွင် စီမံကိန်းပြီးစီးသည့်အချိန်တွင် ဖြစ်ပေါ်မည့် ဓာတ်အားခန့်မှန်းထားများဖြင့် ဝန်ကြီးဌာနမှသဘောတူခွင့်ပြုမည့် အောက်ပါနည်းလမ်းများမှ တစ်ခုခုဖြင့် ခွင့်ပြုပေးပါရန် အဆိုပြုတင်ပြအပ်ပါသည်။

(က) ဘီလူးချောင်းအမှတ်(၃)လျှပ်စစ်ဓာတ်အားခွဲရုံတွင် မီတာတပ်ဆင် ရောင်းချသောစနစ် (Metering at the Fence of Baluchaung No. 3 Hydropower Project) ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍလုပ်ငန်းဌာနတစ်ခုခုသို့ ရောင်းချခြင်း၊ (သို့မဟုတ်)

(ခ) နယ်မြေဒေသတစ်ခုခု၊ စက်မှုဇုန်တစ်ခုခုသို့ ဖြန့်ဖြူးရောင်းချခြင်း၊ (သို့မဟုတ်)

(ဂ) ပြည်ပအိမ်နီးချင်းနိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်းစနစ်တို့ဖြင့် ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

၈။ အဆိုပြုသည့် ရေအားလျှပ်စစ်စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ငွေကြေးပမာဏ၊ စီမံကိန်းချေးငွေနှင့် အတိုးနှုန်းများ စီမံကိန်းမှ ထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဖြန့်ဖြူးမည့်နှုန်းထား၊ အဆိုပြုသည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်နှုန်းထားများ စသည့် အချက်များနှင့်အညီ ငွေကြေးဆိုင်ရာ စာရင်းဇယားတွက်ချက်မှုများအရ အရင်းကြေကာလမှာ (၁၅)နှစ် (၁၁)လဖြစ်ပြီး Internal Rate of Return (IRR) 7.05% ဖြစ်ပါသည်။

၉။ နိုင်ငံတော်၏လျှပ်စစ်ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် တစ်ဘက်တစ်လမ်းမှ အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ ပုဂ္ဂလိကကဏ္ဍမှပါဝင်ခြင်းကိုတွန်းအားပေးဆောင်ရွက်စေလိုသည့် နိုင်ငံတော်၏ပုံပိုးမှုများကြောင့် နိုင်ငံသားပိုင် ကျွန်တော်များကုမ္ပဏီမှ အောင်မြင်အောင် တည်ဆောက်အကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါသောကြောင့် စီမံကိန်း ဆောင်ရွက်ဆဲကာလနှင့် ဆောင်ရွက်ပြီးကာလများတွင် နိုင်ငံတော်မှချမှတ်ထားသော

ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်များ၊ သက်သာခွင့်များကို အောက်ပါအတိုင်း ရရှိနိုင်ရန်အတွက် သက်ဆိုင်ရာ ဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးနိုင်ပါရန်အတွက် အဆိုပြုတင်ပြအပ်ပါသည်။

- ဝင်ငွေခွန်အား လုပ်ငန်းစတင်လည်ပတ်သည့်နှစ်မှစ၍ ပထမ(၃)နှစ်ကိုကင်းလွတ်ခွင့်ပြုပါရန်နှင့် (၄)နှစ်မြောက်သည့်နှစ်မှ အရင်းမကျေမီကာလအထိကို (၁၅%)ဖြင့်လည်းကောင်း၊ အရင်းကျေပြီးနောက်ပိုင်းနှစ်များကို (၃၀%)ဖြင့်လည်းကောင်း ပေးဆောင်ခွင့်ပြုပါရန်၊
- ကုန်သွယ်လုပ်ငန်းခွန်အား လုပ်ငန်းစတင်လည်ပတ်သည့်နှစ်မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် (၄)နှစ်မြောက်သည့်နှစ်မှ အရင်းမကျေမီကာလအထိကို နှစ်စဉ်ထုတ်လုပ်ရောင်းချရသည့်ဝင်ငွေ၏ (၅%)ဖြင့်လည်းကောင်း၊ အရင်းကျေပြီးနောက်ပိုင်းနှစ်များကို (၁၀%)ဖြင့်လည်းကောင်း ပေးဆောင်ခွင့်ပြုပါရန်၊

သို့ဖြစ်ပါ၍ နိုင်ငံတော်မှရေအားလျှပ်စစ်ဓာတ်အားဖွံ့ဖြိုးတိုးတက်မှုလုပ်ငန်းများကို တွန်းအားပေး ဆောင်ရွက်သည့်နည်းတူ တိုင်းရင်းသားပုဂ္ဂလိကလုပ်ငန်းရှင်များကိုလည်း လျှပ်စစ်ကဏ္ဍတွင် B.O.T (Build, Operate and Transfer) စနစ်ဖြင့် ရင်းနှီးမြှုပ်နှံလုပ်ကိုင်ခွင့်ပြုခဲ့သည့်အလျောက် ကျွန်တော်များကုမ္ပဏီအနေဖြင့်အောင်မြင်အောင် ကြိုးစားဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြမည့် အဆိုပြုလွှာနှင့် စီမံကိန်းဆိုင်ရာ အချက်အလက်များကိုလည်း လိုအပ်သည့်လမ်းညွှန်မှုနှင့် ကူညီပံ့ပိုးမှုများပြုပေးနိုင်ပါရန်အတွက် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ
အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

# Future Energy Co., Ltd.

High Tech Tower, No. (584), 1st Floor, Strand Road, Lanmadaw Township, Yangon, Myanmar.
Tel : (95)1-227705, 227706, 227712 Fax : (95)-1-211696, 211957

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် - FE/MD/ 015 /2009
ရက်စွဲ - ၂၀၀၉ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်

အကြောင်းအရာ ။ ။ **ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်းအား BOT စနစ်ဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုတင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ (၁) (၂-၅-၂၀၀၈)နေ့တွင် High Tech Concrete Technology Co., Ltd. နှင့် ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာနတို့ လက်မှတ်ရေးထိုးခဲ့သော နားလည်မှုစာချွန်လွှာ၊

(၂) ကုမ္ပဏီ၏ (၃-၁၂-၂၀၀၈)ရက်စွဲပါ စာအမှတ် FE/လုပ်ငန်း/၀၀၁/ ၂၀၀၈ ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုချက်၊

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ နိုင်ငံသားပိုင် Future Energy Co., Ltd. (အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်)မှ ကယားပြည်နယ်၊ လွိုင်ကော်မြို့အရှေ့တောင်ဘက် (၁၆)မိုင်အကွာရှိ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းတွင် ရေအားလျှပ်စစ်ဓာတ်အားပေးစက်ရုံတည်ဆောက်၍ နိုင်ငံတော်မှသတ်မှတ်ထားသော စည်းကမ်းချက်များနှင့်အညီ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား Build, Operate and Transfer (B.O.T) တည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်း နှင့် လွှဲပြောင်းပေးခြင်းစနစ်ဖြင့် ပဋိညာဉ်စာချုပ်ချုပ်ဆို၍ ရင်းနှီးမြှုပ်နှံလုပ်ကိုင်လိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဤအဆိုပြုချက်အား တင်ပြလျှောက်ထားအပ်ပါသည်။

(၁) နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် တစ်ဖက်တစ်လမ်းမှ အထောက်အကူဖြစ်စေရန်ရည်ရွယ်၍ နိုင်ငံတော်မှတည်ဆောက်ပြီးစီးခဲ့သော ဘီလူးချောင်းအမှတ်(၁)ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စီမံကိန်းတို့မှပို့လွှတ်လိုက်သော ရေအားစွမ်းအင်ကိုအပြည့်အဝအသုံးပြုပြီး ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းတွင် စက်တပ်ဆင်အင်အား(၅၂)မဂ္ဂါဝပ်ဖြင့် နှစ်စဉ်လျှပ်စစ်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း(၃၃၄) ထုတ်လုပ်ပေးနိုင်မည့် ရေအားလျှပ်စစ်စက်ရုံအား ရင်းနှီးမြှုပ်နှံ ဆောင်ရွက်လုပ်ကိုင်သွားမည်ဖြစ်ပါသည်။

(၂) ဘီလူးချောင်းအမှတ်(၃)စီမံကိန်းသည် လုပ်ငန်းပမာဏကြီးမားခြင်း၊ သီးခြားရပ်တည်ရမည့်သဘောသဘာဝရှိခြင်း၊ ရင်းနှီးမြှုပ်နှံမှု ပမာဏများပြားခြင်းတို့ကြောင့် ကျွန်တော်များ Future Energy Co., Ltd. မှ အောင်မြင်ချောမွေ့စွာ ပြီးစီးနိုင်ရန်တာဝန်ယူ၍ လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ရည်းညွှန်းချက်(၁)ပါ နားလည်မှုစာချွန်လွှာအစား ပူးတွဲ(၁)ပါ နားလည်မှုစာချွန်လွှာဖြင့်လည်းကောင်း၊ ဌာနနှင့် ကုမ္ပဏီအကြား ပဋိညာဉ်စာချုပ် ချုပ်ဆို၍ လည်းကောင်း ဆောင်ရွက်လုပ်ကိုင်သွားမည်ဖြစ်ပါသည်။

(၃) အဆိုပြုသည့်စီမံကိန်းအတွက် ခန့်မှန်းမတည်ရင်းနှီးငွေကျပ်သန်းပေါင်း (၁၀၅၆၁၄. ၉၇) နှင့် အမေရိကန်ဒေါ်လာ သန်းပေါင်း (၈၂. ၆၇)တို့ဖြင့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၄) အဆိုပြုစီမံကိန်းတွင် ရင်းနှီးမြှုပ်နှံမည့်ငွေပမာဏကြီးမားခြင်းကြောင့် ဆောင်ရွက်မည့်စီမံကိန်းကို အာမခံပြု၍ နိုင်ငံတော်မှ ငွေကျပ်သန်းပေါင်း (၂၂၀၀၃. ၈၀)ကို ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ နှစ်ရှည်စီမံကိန်းချေးငွေ(Project Finance) ရယူ၍လည်းကောင်း၊ နိုင်ငံခြားသုံးငွေဖြင့် ရင်းနှီးမြှုပ်နှံမှုအတွက် နိုင်ငံခြားဘဏ်မှ အမေရိကန်ဒေါ်လာသန်းပေါင်း(၂၈. ၈)ကို မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ဝန်ကြီးဌာနတို့၏လုပ်ထုံးလုပ်နည်းများအညီ စီမံကိန်းချေးငွေရယူ၍လည်းကောင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၅) ချေးငွေများပြန်လည်ပေးဆပ်ရာတွင်-

(က) ပြည်တွင်းချေးငွေအား ညီနောင်ကုမ္ပဏီများမှ ဆောင်ရွက် နေသည့် စီမံကိန်းများမှ ရရှိသော -

- ရန်ကုန်-မန္တလေး လမ်းစီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊
- နေပြည်တော်တည်ဆောက်ရေးစီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊
- ရေအားလျှပ်စစ်တည်ဆောက်ရေးကဏ္ဍများတွင်ပါဝင်ဆောင်ရွက်လျက်ရှိသည့် ရဲရွာရေအား လျှပ်စစ် စီမံကိန်း၊ ပေါင်းလောင်းရေအားလျှပ်စစ်စီမံကနိးများမှ ရရှိသည့် ဝင်ငွေများ၊
- High Tech Concrete Co., Ltd. ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊
- ရွှေတောင်ကုမ္ပဏီမှရောင်းချသည့် အိမ်၊ ခြံ၊ မြေ များမှ ရရှိသည့်ဝင်ငွေများ၊
- ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပြန်လည်ပေးဆပ် သွားမည်ဖြစ်ပါသည်။

(ခ) နိုင်ငံခြားသုံးငွေဖြင့် ချေးငွေအား ညီနောင်ကုမ္ပဏီများ၏ ပြည်ပပို့ကုန် လုပ်ငန်းများဖြစ်သည့်

- ရေထွက်ပစ္စည်းများတင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြားပို့ကုန်ရငွေများ၊

- လယ်ယာထွက်ကုန်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊
- ပြည်တွင်းတွင် ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊
- ကုမ္ပဏီ၏ အခြားလုပ်ငန်းများမှရရှိသည့် တရားဝင် နိုင်ငံခြားဝင်ငွေများဖြင့်လည်းကောင်း ပြန်လည် ပေးဆပ်ပါမည်။

(၆) စီမံကိန်းပြီးစီး၍ ထွက်ရှိလာသော လျှပ်စစ်ဓာတ်အားများကို နိုင်ငံတော်မှချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများ နှင့်အညီ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ လမ်းညွှန်အတည်ပြုချက်ဖြင့်

(က) ဘီလူးချောင်းအမှတ်(၃)လျှပ်စစ်ဓာတ်အားခွဲရုံတွင် မီတာတပ်ဆင် ရောင်းချသောစနစ် (Metering at the Fence of Baluchaung No. 3 Hydropower Project) ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍလုပ်ငန်းဌာနတစ်ခုခုသို့ ရောင်းချခြင်း၊ (သို့မဟုတ်)

(ခ) နယ်မြေဒေသတစ်ခုခု၊ စက်မှုဇုန်တစ်ခုခုသို့ ဖြန့်ဖြူးရောင်းချခြင်း၊ (သို့မဟုတ်)

(ဂ) ပြည်ပအိမ်နီးချင်းနိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်းစနစ်တို့ဖြင့် ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

(၇) ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်းသည် ကနဦးရင်းနှီးမြှုပ်နှံမှု တန်ဖိုးပမာဏကြီးမား၍ ဝင်ငွေပြန်လည်ရရှိမှုမှာ အခြားရေတို ရင်းနှီးမြှုပ်နှံမှုများနှင့်မတူဘဲ ရေရှည်မှသာလျှင် ပုံမှန်အကျိုးအမြတ်ရရှိမည်ဖြစ်ပြီး နိုင်ငံတော်သို့လည်း ပုံမှန်အခွန်အခများကိုရေရှည်ပေးဆောင်နိုင်မည့်လုပ်ငန်းဖြစ်ပါသည်။ နိုင်ငံတော်၏လျှပ်စစ်ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေး အတွက် တစ်ဘက်တစ်လမ်းမှ အထောက်အကူ ဖြစ်စေရန်ရည်ရွယ်၍ ပုဂ္ဂလိကကဏ္ဍမှပါဝင်ခြင်းကို တွန်းအားပေး ဆောင်ရွက်စေလိုသည့် နိုင်ငံတော်၏ပံ့ပိုးမှုများကြောင့် နိုင်ငံသားပိုင် ကျွန်တော်များကုမ္ပဏီမှ အောင်မြင်အောင် တည်ဆောက်အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသောကြောင့် စီမံကိန်းဆောင်ရွက်ဆဲကာလနှင့် ဆောင်ရွက်ပြီးကာလများတွင် နိုင်ငံတော်မှချမှတ်ထားသောရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်များ၊ သက်သာခွင့်များကို အောက်ပါအတိုင်း ခွင့်ပြုပေးနိုင်ပါရန်အတွက် လျှောက်ထားအပ်ပါသည်။

- ဝင်ငွေခွန်အား လုပ်ငန်းစတင်လည်ပတ်သည့်နှစ်မှစ၍ ပထမ(၃)နှစ်ကိုကင်းလွတ်ခွင့်ပြုပါရန်နှင့် (၄)နှစ်မြောက်သည့် နှစ်မှ အရင်းမကျေမီကာလအထိကို (၁၅%)ဖြင့်လည်းကောင်း၊ အရင်းကျေပြီးနောက်ပိုင်းနှစ်များကို (၃၀%)ဖြင့် လည်းကောင်း ပေးဆောင်ခွင့်ပြုပါရန်၊
- ကုန်သွယ်လုပ်ငန်းခွန်အား လုပ်ငန်းစတင်လည်ပတ်သည့်နှစ်မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် (၄)နှစ်မြောက်သည့်နှစ်မှ အရင်းမကျေမီကာလအထိကို နှစ်စဉ်ထုတ်လုပ်ရောင်းချရသည့်ဝင်ငွေ၏ (၅%)ဖြင့် လည်းကောင်း၊ အရင်းကျေပြီးနောက်ပိုင်းနှစ်များကို (၁၀%)ဖြင့်လည်းကောင်း ပေးဆောင်ခွင့်ပြုပါရန်၊

(၈) စီမံကိန်းအကောင်အထည်ဖော်ရာတွင် လိုအပ်မည့်ကျွမ်းကျင်သည့်အတိုင်ပင်ခံပုဂ္ဂိုလ်များကို ခန့်ထားခြင်း၊ လိုအပ်မည့် စက်ယာဉ်ယန္တရားများအား သွင်းကုန်လုပ်ထုံးလုပ်နည်း ခွင့်ပြုချက်များနှင့်အညီတင်သွင်းခြင်းတို့ကို ဆောင်ရွက် ခွင့်ပြုပါရန်အတွက်လည်း လျှောက်ထားအပ်ပါသည်။

(၉) အဆိုပြုသည့် ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းအား ကျွန်တော်များကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အောင်မြင်အောင် ကြိုးစားအထောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အောက်ပါစာရွက်စာတမ်းများကို ပူးတွဲတင်ပြ၍ အဆိုပြုလွှာကို လေးစားစွာတင်ပြအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်ပုံစံများ၊

၂။ စီမံကိန်းဆိုင်ရာအချက်အလက်များ၊

၃။ စာရင်းဇယားများ၊

၄။ လုပ်ငန်းဆိုင်ရာအချက်အလက်များ၊

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)

အုပ်ချုပ်မှုဒါရိုက်တာ

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်

# Future Energy Co., Ltd.

High Tech Tower, No. (584), 1st Floor, Strand Road, Lanmadaw Township, Yangon, Myanmar.
Tel : (95)1-227705, 227706, 227712 Fax : (95)-1-211696, 211957


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် - FE/MD/016/2009
ရက်စွဲ - ၂၀၀၉ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက် ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ Future Energy Co., Ltd. (အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကယားပြည်နယ်၊ လွိုင်ကော်မြို့ အရှေ့တောင်ဘက်(၁၆)မိုင်အကွာရှိ ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို ရင်းနှီးမြှုပ်နှံမှုပြုလိုပါသဖြင့် ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်ကို တင်ပြလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ၎င်းလုပ်ငန်းတွင် နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင် ကာကွယ်မှုများပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ နိုင်ငံတော်မှ သတ်မှတ်ထားသည့် အခြားစည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာဆောင်ရွက်သွားပါမည်။

၄။ လျှပ်စစ်ဓာတ်အားထွက်ရှိသည့်အခါ နိုင်ငံတော်မှချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဖြန့်ဖြူးရောင်းချ သွားပါမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ
အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်

# ယှပ်ဗါကြဲဆေ

## ဗြဴဆလွဲဒှ်ဂှကြိုဟ်ဒွ္ၜ

## ၜဆဲခေခဂဝိဝ်ဒှ်ဂှကြိုဟ်ဒွ္ၜဟ်ပကိဟ်လေဇ္ၜဂွ်ဟနှ်ဍ

**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ**

**ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်**

**[ ဥပဒေပုဒ်မ ၂ ပုဒ်ခွဲ(ဂ)နှင့် ပုဒ်မ ၈ ]**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ၊ ၂၀၀၉ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူများ၏-

(က) အမည် - ဦးအောင်ဇော်နိုင်

(ခ) အဖအမည် - ဦးအိုက်ထွန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - ၁၂/လမတ(နိုင်) ဝ၂၅၇၅၈

(ဃ) နေရပ်လိပ်စာ - အခန်းအမှတ်(၁၀၀၃)၊ (၁၀)ထပ်၊အလုံတာဝါ၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့ ။

(င) လူမျိုး၊ဘာသာ - ဗမာ/ဗုဒ္ဓ

(စ) အဖွဲ့အစည်းအမည် - အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

(ဆ) လုပ်ငန်းအမျိုးအစား - လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - အမှတ်(၅၈၄)၊ High Tech Tower ပထမထပ်၊ ကမ်းနားလမ်း နှင့်(၇)လမ်းထောင့်၊ လမ်းမတော်မြို့နယ်ရန်ကုန်မြို့။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁) မရှိပါ (၂) မရှိပါ

(ခ) အဖအမည် (၁) - (၂) -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် (၁) - (၂) -

(ဃ) နေရပ်လိပ်စာ (၁) - (၂) -

(င) လူမျိုး/ဘာသာ (၁) - (၂) -

(စ) အဖွဲ့အစည်းအမည်

(ဆ) လုပ်ငန်းအမျိုးအစား

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ်

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း - BOT စနစ်ဖြင့် ရေအားလျှပ်စစ်စီမံကိန်းတည်ဆောက်၍

(ခ) ဝန်ဆောင်မှု လုပ်ငန်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးသည့်လုပ်ငန်း

( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

နိုင်ငံသားနှင့် နိုင်ငံသားတို့က ကုမ္ပဏီလီမိတက်အဖြစ် လုပ်ကိုင်ဆောင်ရွက်ခြင်း။

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

မရှိပါ။

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

မရှိပါ။

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း-

(ဂ) လီမိတက်ကုမ္ပဏီ - အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(အများနှင့် မသက်ဆိုင်သောကုမ္ပဏီ)

(ဃ) သမဝါယမအသင်း -

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကိုပူးတွဲ တင်ပြရန်)

(နောက်ဆက်တွဲ - က)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ -

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက-

(က) ခွင့်ပြု မတည်ငွေရင်း - ကျပ်သန်း (၅၀၀)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင် ကျပ် ၁၀၀၀၀/-တန် သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ်သန်း(၅၀၀)/-(ကျပ် ၁၀၀၀၀/-တန်အစုရှယ်ယာ အရေအတွက်၅၀၀၀၀ ခု)

(ကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီးပါက Authorized Capital တိုးမြှင့်ရန် ဆောင်ရွက်ပါမည်။)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ (ကျပ်)

သန်းပေါင်း

| | | မတည်ငွေ | | ချေးငွေ | | စုစုပေါင်း | | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|
| | | (ကျပ်) | (USD) | (ကျပ်) | (USD) | (ကျပ်) | (USD) | (ကျပ်) |
| (၁) | ငွေပမာဏ (နိုင်ငံခြားမတည်ငွေ ပါဝင်ပါကသီးခြားဖော်ပြရန်) ဇယား - ၁ (၁)၊ ၁ (၂)၊ ၁ (၃) | 79,906.46 | 13.98 | 22,003.80 | | 101,910.26 | 13.98 | 101,994.14 |
| (၂) | စက်ပစ္စည်းကိရိယာတန်ဖိုးပမာဏ ဇယား- ၂ (၁)၊ ၂ (၂) | | 16.56 | | 28.80 | | 45.36 | 272.16 |
| (၃) | အဆောက်အအုံများတန်ဖိုးပမာဏ ဇယား - ၃ (၁) | 641.79 | | | | 641.79 | | 641.79 |
| (၄) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ-ဇယား ၃ (၂) | 107.91 | | | | 107.91 | | 107.91 |
| (၅) | လုပ်ငန်းသုံး ဆောက်လုပ်ရေးပစ္စည်းများ တန်ဖိုးပမာဏ ဇယား ၄(၁)၊ ၄(၂)၊ | 2,458.96 | 23.34 | | | 2,458.96 | 23.34 | 2,598.97 |
| | **စုစုပေါင်း** | **83,115.12** | **53.88** | **22,003.80** | **28.80** | **105,118.92** | **82.68** | **105,614.97** |

<u>မှတ်ချက်။</u>

(၁) ပြည်တွင်းချေးငွေ ကျပ်သန်း (၂၂၀၀၃.၈)အား တစ်နှစ်လျှင်(၁၇%)အတိုးနှုန်းဖြင့် နိုင်ငံတော်ပိုင်ဘဏ် တစ်ခုခုမှ ချေးယူ၍ ရင်းနှီးမြှုပ်နှံပါမည်။ လုပ်ငန်းစတင်လည်ပတ်ပြီး (၄)နှစ်မြောက်သည့်နှစ်မှစ၍ အချိုးညီ(၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားပါမည်။

(၂) ပြည်ပချေးငွေ USD-28.8 Million အား အတိုးနှုန်း (5.5%)ဖြင့် ပြည်ပဘဏ်တစ်ခုခုမှ ချေးယူပါမည်။

(၃) စက်/ယာဉ်/ယန္တရားများ၊ စက်ပစ္စည်းကိရိယာများနှင့် လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများကို သွင်းကုန်လိုင်စင် လျှောက်ထား၍ ပြည်ပမှ မှာယူတင်သွင်းပါမည်။

(သန်းပေါင်း)

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် — ကျပ် — အမေရိကန်ဒေါ်လာ

(၁) စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)ဇယား - ၂(၁)၊ ၂(၂) — ၄၅. ၃၆

(၂) တည်ဆောက်ရေးကာလ လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများ နှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုး (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) ဇယား - ၄(၁) — ၂၃. ၃၃

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ — ၈

(ဂ) တည်ဆောက်မှုကာလ - (၄)နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ - (၇)လ

(င) တည်ဆောက်မှု စတင်မည့်အချိန် - ၂၀၀၉ခုနှစ်၊ဇန်နဝါရီလ၊(တည်ဆောက်မှု Schedule)

နောက်ဆက်တွဲ (ခ)

၉။ ဆောင်ရွက်မည့် စီပွားရေးလုပ်ငန်း နှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း
( ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှု စသည်ဖြင့် ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ - ကယားပြည်နယ်၊လွိုင်ကော်မြို့ အရှေ့တောင်ဘက် ၁၆မိုင်အကွာရှိ ဘီလူးချောင်းအမှတ်(၃)စီမံကိန်း

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ရေအားဖြင့် လျှပ်စစ်ဓါတ်အားထုတ်လုပ်ခြင်း။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်-

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | တည်ဆောက်မှုကာလ - (၂၅၀၀၀၀) ဂါလံ<br>လုပ်ငန်းလည်ပတ်သည့်ကာလ- (၂၀၀၀၀)ဂါလံ |
| ၂။ | | |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား(Station Used) | စက်ရုံတွင်းလိုအပ်သောလျှပ်စစ်ဓါတ်အား၁၆. ၇သန်း KW/Hr အားမိမိစက်ရုံမှထွက်ရှိသောဓါတ်အားများဖြင့် အသုံးပြုသွားပါမည်။ |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | KVA ၅၀၀ × ၄ = ၂၀၀၀ |
| ၃။ | ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အင်အား | |
| ၄။ | သဘာဝဓာတ်ငွေ့ သုံးစက်အား | |
| ၅။ | ပေးပို့သည့်အခြားအား<br>(ရေအား/လေအား စသည်များ) | ရေအား |

(စ) နှစ်စဉ် ရေလိုအပ်ချက် - တည်ဆောက်ရေးကာလတွင်လိုအပ်သောရေကို ဘီလူးချောင်းရေမှရယူသုံးစွဲပါမည်။
၆၇ သန်းကုဗမီတာ (လုပ်ငန်းလည်ပတ်သည့်ကာလ)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိက ကုန်ကြမ်း - | | | |
| | (၁) ရေ | ကုဗမီတာ | ၆၇ သန်း | - |
| | (၂) | | | |
| ၂။ | အထောက်အကူ ကုန်ကြမ်း - | | | |
| | (၁) Spare Parts | | 1Lot | ၈၆၂. ၆၄ သန်း |
| | (၂) | | | |
| ၃။ | စက်သုံးဆီ/ ဓာတ်ငွေ့များ - | | | |
| | (၁) ဒီဇယ်ဆီ | တည်ဆောက်မှုကာလ - (၂၅၀၀၀၀) ဂါလံ<br>လုပ်ငန်းလည်ပတ်သည့်ကာလ - (၂၀၀၀၀) ဂါလံ | | |

(ဇ) အဆောက်အအုံ လိုအပ်ချက် - ဇယား - ၃ (၁)

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် - (၄၀၂)ဧက

နောက်ဆက်တွဲ (ဂ)၊

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့် ဝန်ဆောင်မှု-

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| လျှပ်စစ်ဓါတ်အား | ကီလိုဝပ်/နာရီ | (၃၃၄)ယူနစ်သန်းပေါင်း | ၅၀ကျပ်/ယူနစ် |

(ဋ) ရောင်းချမည့်နည်းစနစ် ဤစီမံကိန်းပြီးစီး ထွက်ရှိလာသော လျှပ်စစ်ဓါတ်အားများကို နိုင်ငံတော်မှချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ လမ်းညွှန်အတည်ပြုချက်ဖြင့်

- ဘီလူးချောင်းအမှတ်(၃)လျှပ်စစ်ဓါတ်အားခွဲရုံတွင်မီတာတပ်ဆင်ရောင်းချသောစနစ် (Metering at the Fence of Baluchaung No.3 Hydro power Project)ဖြင့် နိုင်ငံတော်၏ လျှပ်စစ်ကဏ္ဍ လုပ်ငန်းဌာနတစ်ခုခုသို့ ရောင်းချခြင်း (သို့မဟုတ်)
- နယ်မြေဒေသတစ်ခုခုစက်မှုဇုံတစ်ခုခုသို့ ဖြန့်ဖြူးရောင်းချခြင်း (သို့မဟုတ်)
- ပြည်ပအိမ်နီးချင်းနိုင်ငံများသို့ ဖြန့်ဖြူးရောင်းချခြင်း စနစ်

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ -

| | ခန့်မှန်းခြေ | |
|---|---|---|
| | <u>ကျပ်ငွေ</u> | <u>နိုင်ငံခြားငွေ</u> |
| (က)လုပ်ငန်းလ ည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ - | ဇယား- ၁ (၃) | |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ - | (ဇယား-၇) | |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ - | - | |
| (ဃ)(၂) ပည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ - | ဝယ်ယူမည့်နိုင်ငံ၏အခြေအနေနှင့် ဦးစီးဌာန၏ခွင့်ပြုချက်ဖြင့်ရောင်းချနိုင်မည်ဖြစ်ပါသည်။ | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ - | (ဇယား-၅) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း -

(က)ပြည် တွင်းမှ လိုအပ်မည့်အမှုထမ်းများ - အသေးစိတ်စာရင်း - ဇယား - ၈(၁)၊ (၂)

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| - | |
| - | |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ - အသေးစိတ်စာရင်း - ဇယား-၈(၃)

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
| --- | --- | --- |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| --- | --- | --- | --- | --- |
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | - | (ဇယား-၅) | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | - | (ဇယား-၆) | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | - | (ဇယား-၆) | |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | - | (ဇယား-၇) | |
| (င) | အရင်းကျေကာလ | - | (ဇယား-၉) | |
| (စ) | အခြား အကျိုးအမြတ်များ | - | - | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ | - | (နောက်ဆက်တွဲ- ဃ) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ _____________

အမည်၊ - အောင်ဇော်နိုင်

ရာထူး၊ - အုပ်ချုပ်မှုဒါရိုက်တာ

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်

(လျှောက်ထားသူ)

## ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်း
## စီမံကိန်းဆိုင်ရာအချက်အလက်များအကျဉ်းချုပ်

(၁) တည်နေရာ - လွိုင်ကော်မြို့၏အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းနှင့်ပွန်ချောင်းဆုံအနီး
( မြေပုံညွှန်း 94 E/6 ၀၂၃၆၈၃ ) .

(၂) စီမံကိန်းအမျိုးအစား - ရေလွှဲဆည်၊ ရေသွယ်ဥမင်လိုဏ်

(၃) ရေဆင်းဧရိယာ - ၃၁၀၅ စတုရန်းမိုင်

(၄) ပျှမ်းမျှမိုးရေချိန် (လွိုင်ကော်) - ၄၃ လက်မ

(၅) ပျှမ်းမျှရေထုစီးနှုန်း - ၁၄၂၁ ကုဗပေ/စက္ကန့်

(၆) ရေလွှဲဆည်အမျိုးအစား - သံကူကွန်ကရစ်၊ Ogee ပုံသဏ္ဍာန်

(၇) ရေသွယ်ဥမင်လိုဏ်

- အမျိုးအစား - ဖိအားမဲ့၊ ကွန်ကရစ်လိုင်နင်
- ဖြတ်ပိုင်းပုံ/အချင်း - မြင်းခွာပုံ/၁၆ ပေ
- အလျား - ၁၃၇၆၄ ပေ (၂.၆၁ မိုင်)

(၈) ရေထိန်းကန်ဖြတ်ပိုင်းအနက် - ထောင့်မှန်စတုဂံပုံ/၄၃ ပေ

(၉) ဖိအားမြင့်ပိုက်အချင်း/အလျား - ၁၂.၅ ပေ မှ ၆ ပေ /၆၁၇ ပေ

(၁၀) ဓါတ်အားပေးစက်ရုံ

- အမျိုးအစား - မြေပေါ်စက်ရုံ
- အလျား x အနံ x အမြင့် - ၁၂၈ ပေ x ၇၂ ပေ x ၁၀၈ ပေ
- တာဘိုင်အမျိုးအစား - Vertical shaft Francis Turbine
- တာဘိုင်ရေထုစီးနှုန်း - ၁၈၀၀ ကုဗပေ/စက္ကန့်
- ရေအားအမြင့် - ၃၉၈ ပေ

(၁၁) တပ်ဆင်စက်အင်အား - ၅၂ မဂ္ဂါဝပ် (၂၆ မဂ္ဂါဝပ် x ၂ လုံး)

(၁၂) တစ်နှစ်ပျှမ်းမျှထုတ်လုပ်မည့်စွမ်းအင် - ၃၃၄ ကီလိုဝပ်နာရီသန်း

**Future Energy Co., Ltd.**
**Baluchaung No.(3) Hydropower Project**
**Investment Cost**

| Sr. No. | Description | Kyat | USD |
|---|---|---|---|
| I. | **CONSTRUCTION COST** | | |
| CW | **Civil Works** | | |
| 1 | Preparatory Works & Site Installation | 1,282,800,000 | |
| 2 | Lawpita Diversion Intake | 1,282,800,000 | |
| | (incl. Intake Weir, De-Silting Basin & Connecting System) | | |
| 3 | Interfaces to Baluchaung-2 | 633,000,000 | |
| | (incl. Interconnecting structure & Gate Shaft) | | |
| 4 | **Headrace Tunnel** | | |
| 4.1 | ***Main Tunnel*** | 29,671,043,290 | |
| 4.1.1 | Intake Drive | | |
| 4.1.2 | Central Drive | | |
| 4.1.3 | Eastern Drive | | |
| 4.2 | ***Access Adits*** | | |
| 4.2.1 | Access Adit 1 (100m) | 685,000,000 | |
| 4.2.2 | Access Adit 2 (100m) | 685,000,000 | |
| 4.2.3 | Access Adit 3 (90m) | 685,000,000 | |
| 4.2.4 | Access Adit 4 (220m) | 1,543,000,000 | |
| 5 | Head Tank incl. Gate Chamber | 10,250,000,000 | |
| 6 | Spillway & Associated Works | 2,843,000,000 | |
| 7 | Penstock Civil Works | 1,413,000,000 | |
| 8 | Power House | 7,783,000,000 | |
| 9 | Tailrace Works | 893,000,000 | |
| 10 | Switchyard Civil Works | 380,000,000 | |
| 11 | Miscallneous Civil Works | 633,000,000 | |
| 12 | Access Roads | 1,930,000,000 | |
| | **Total Civil Works** | 62,592,643,290 | - |
| | Indirect Cost (Enginnering, Admin & Insurance) | 4,000,000,000 | |
| | Physical Contingencies for Other Works | 14,952,910,000 | |
| | Interest During Construction | 6,853,611,601 | |
| | **Sub Total (1)** | ***88,399,164,891*** | **-** |
| II. | **EQUIPMENT & CONSTRUCTION MATERIAL** | | |
| | Machineries & Construction Equipment | | 22,557,800 |
| | Construction Materials | | 23,334,985 |
| III. | **ELECTRO-MECHANICAL EQUIPMENT** | | |
| HSS | Hydraulic Steel Structures | | 4,500,000 |
| EM | Electro-Mechanical Equipment | | 18,000,000 |
| TL | Transmission Line to BLC2 | | 300,000 |
| | **Sub Total (2)** | | ***68,692,785*** |
| | Indirect Cost (Enginnering, Admin & Insurance) | | 8,000,000 |
| | Physical Contingencies | | 3,080,000 |
| | Interest During Construction | | 2,902,205 |
| | Exchange Rate Procurement | 16,694,752,531 | |
| | Land Use Premium | 25,000,000 | |
| | **Sub Total (3)** | ***16,719,752,531*** | ***13,982,205*** |
| | **Total Investment [Sub Total (1) + (2) + (3) ]** | **105,118,917,422** | **82,674,990** |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

**Investment and Loan & Equity Ratio**

| Sr. No. | Description | Equity (Kyat) | Loan (Kyat) | Total (Kyat) |
|---|---|---|---|---|
| I. | **CONSTRUCTION COST** | | | |
| CW | **Civil Works** | | | |
| 1 | Preparagory Works & Site Installation | 831,844,853 | 450,955,147 | 1,282,800,000 |
| 2 | Lawpita Diversion Intake | 831,844,853 | 450,955,147 | 1,282,800,000 |
| | (incl. Intake Weir, De-Silting Basin & Connecting System) | - | - | - |
| 3 | Interfaces to Baluchaung-2 | 410,475,360 | 222,524,640 | 633,000,000 |
| | (incl. Interconnecting structure & Gate Shaft) | - | - | - |
| 4 | **Headrace Tunnel** | - | - | - |
| 4.1 | ***Main Tunnel*** | 19,240,493,180 | 10,430,550,110 | 29,671,043,290 |
| 4.1.1 | Intake Drive | - | - | - |
| 4.1.2 | Central Drive | - | - | - |
| 4.1.3 | Eastern Drive | - | - | - |
| 4.2 | ***Access Adits*** | - | - | - |
| 4.2.1 | Access Adit 1 (100m) | 444,195,295 | 240,804,705 | 685,000,000 |
| 4.2.2 | Access Adit 2 (100m) | 444,195,295 | 240,804,705 | 685,000,000 |
| 4.2.3 | Access Adit 3 (90m) | 444,195,295 | 240,804,705 | 685,000,000 |
| 4.2.4 | Access Adit 4 (220m) | 1,000,574,219 | 542,425,781 | 1,543,000,000 |
| 5 | Head Tank incl. Gate Chamber | 6,646,717,918 | 3,603,282,082 | 10,250,000,000 |
| 6 | Spillway & Associated Works | 1,843,572,589 | 999,427,411 | 2,843,000,000 |
| 7 | Penstock Civil Works | 916,274,382 | 496,725,618 | 1,413,000,000 |
| 8 | Power House | 5,046,966,396 | 2,736,033,604 | 7,783,000,000 |
| 9 | Tailrace Works | 579,075,034 | 313,924,966 | 893,000,000 |
| 10 | Switchyard Civil Works | 246,414,908 | 133,585,092 | 380,000,000 |
| 11 | Miscallneous Civil Works | 410,475,360 | 222,524,640 | 633,000,000 |
| 12 | Access Roads | 1,251,528,350 | 678,471,650 | 1,930,000,000 |
| | **Total Civil Works** | 40,588,843,290 | 22,003,800,000 | 62,592,643,290 |
| | Indirect Cost (Enginnering, Admin & Insurance) | 4,000,000,000 | | 4,000,000,000 |
| | Physical Contingencies | 14,952,910,000 | | 14,952,910,000 |
| | Interest During Construction | 6,853,611,601 | | 6,853,611,601 |
| | **Sub Total (1)** | *66,395,364,891* | *22,003,800,000* | ***88,399,164,891*** |
| II. | **EQUIPMENT & CONSTRUCTION MATERIAL COST** | | | |
| | Machineries & Construction Equipment USD 22,557,800 @ 6/- | 99,346,800 | 36,000,000 | 135,346,800 |
| | Construction Materials USD 23,334,985 @ 6/- | 140,009,910 | | 140,009,910 |
| III. | **ELECTRO-MECHANICAL EQUIPMENT** | | | |
| HSS | Hydraulic Steel Structures USD 4,500,000 @ 6/- | | 27,000,000 | 27,000,000 |
| EM | Electro-Mechanical Equipment USD 18,000,000 @ 6/- | | 108,000,000 | 108,000,000 |
| TL | Transmission Line to BLC2 USD 300,000 @ 6/- | | 1,800,000 | 1,800,000 |
| | **Sub Total (2)** | *239,356,710* | *172,800,000* | ***412,156,710*** |
| | Indirect Cost (Enginnering, Admin & Insuran USD 8,000,000 @ 6/- | 48,000,000 | | 48,000,000 |
| | Physical Contingencies USD 3,080,000 @ 6/- | 18,480,000 | | 18,480,000 |
| | Interest During Construction USD 2,902,205 @ 6/- | 17,413,228.80 | | 17,413,229 |
| | Exchange Rate Procurement | 16,694,752,531 | | 16,694,752,531 |
| | Land Use Premium | 25,000,000 | | 25,000,000 |
| | **Sub Total (3)** | *16,803,645,760* | - | ***16,803,645,760*** |
| | **Total Investment [ Sub Total (1) + (2) + (3) ]** | **83,438,367,361** | **22,176,600,000** | **105,614,967,361** |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

**Loan & Equity Ratio**

| | Equity | Loan | Total |
|---|---|---|---|
| **Kyat Portion** | | | |
| Construction Cost | 40,588,843,290 | 22,003,800,000 | 62,592,643,290 |
| Indirect Cost (Enginnering, Admin, Insurance) | 4,000,000,000 | | 4,000,000,000 |
| Physical Contingencies for Other Works | 14,952,910,000 | | 14,952,910,000 |
| Interest During Construction | 6,853,611,601 | | 6,853,611,601 |
| Exchange Rate Procurement | 16,694,752,531.20 | | 16,694,752,531 |
| Land Use Premium | 25,000,000.00 | | 25,000,000 |
| **Total Kyat Investment** | **83,115,117,422** | **22,003,800,000** | **105,118,917,422** |
| **USD Portion** | | | |
| Machineries & Construction Equipment | 16,557,800 | 6,000,000 | 22,557,800 |
| Construction Materials | 23,334,985 | | 23,334,985 |
| Electro-Mechanical Equipment Cost | | 22,800,000 | 22,800,000 |
| Indirect Cost (Enginnering, Admin, Insurance) | 8,000,000 | | 8,000,000 |
| Physical Contingencies for Other Works | 3,080,000 | | 3,080,000 |
| Interest During Construction | 2,902,205 | | 2,902,205 |
| **Total USD Investment** | **53,874,990** | **28,800,000** | **82,674,990** |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် စက်ယန္တရား/ ယာဉ်/ စက်ပစ္စည်းကိရိယာများ

| Sr | Item | Quantity | Amount in Million USD |
|---|---|---|---|
| (A) | **Plants, Machineries and Equipments** | | **14.03** |
| 1 | Jumbo Drill, wheel mounted hydraulic jumbo | 4 | |
| 2 | Air Leg drill | 12 | |
| 3 | Crawler Drill (Hydraulic / Air Compressor types) | 4 | |
| 4 | Load Haul Dump (2.5m$^3$) | 4 | |
| 5 | Tunnel Mucking Machine (0.25-0.5 m$^3$) | 4 | |
| 6 | Rigid Dump Truck (15 t) | 15 | |
| 7 | Mobile Crane (20t / 35t / 50t / 70t) | 5 | |
| 8 | Crawler Crane (50 t) | 2 | |
| 9 | Hydraulic Excavator (1.0m$^3$ / 1.8 m$^3$) | 9 | |
| 10 | Tracked Dozer (300 hp) | 8 | |
| 11 | Air compressor (300-600 cfm) | 3 | |
| 12 | Water supply pump Centrifugal Pump/ Submersible Pumps | 10 | |
| 13 | MAI pump | 3 | |
| 14 | Drainage Pumps ( 200-500 gpm) | 10 | |
| 15 | Crushing Plant (100t/hr) | 1 | |
| 16 | Washing plant (50t/hr) | 1 | |
| 17 | Batching & Mixing Plant (60-125 m$^3$/hr) | 1 | |
| 18 | Track shovel Hyd. Loading Shovel (1.5m$^3$ - 2.0m$^3$) | 2 | |
| 19 | Hydraulic Giant breaker | 4 | |
| 20 | Grout Machine | 3 | |
| 21 | Shotcrete Machine | 3 | |
| 22 | H- Beam Bender (100mm - 200mm) | 1 | |
| 23 | Ventilation Fan (50 kw - 75kw) | 8 | |
| 24 | Telescopic steel form (5mF) | 3 | |
| 25 | Metal Forms for Power House etc. | 1 Lot | |
| 26 | Re-bar cutter (25mm - 40mm) | 4 | |
| 27 | Boring (Drilling) Machine | 2 | |
| 28 | Concrete vibrator (Hand - held immersion type) | 15 | |
| 29 | Generator (100 kVA - 1000kVA) | 7 | |
| 30 | Motor Grader (120 hp) | 2 | |
| 31 | Compaction roller (Vibrating0 (10t / 15t) | 2 | |
| 32 | Welding machine | 7 | |
| 33 | Surveying instrument (Lot) | 10 | |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

**နိုင်ငံခြားမှဝယ်ယူတင်သွင်းမည့် စက်ယန္တရား/ ယာဉ်/ စက်ပစ္စည်းကိရိယာများ**

| Sr | Item | Quantity | Amount in Million USD |
|---|---|---|---|
| | | | |
| **(B)** | **Heavy Machineries & Vehicles for Transportation** | | **8.53** |
| 1 | Dump Truck (For Tunnel) (6t/7.5t) | 35 | |
| 2 | Cargo truck (5t/10t/15t) | 10 | |
| 3 | Transporter Truck (High Bed) (20t / 40t/60t) | 2 | |
| 4 | Concrete Mixer Truck ($3m^3$ - $9m^3$) | 30 | |
| 5 | Concrete Pump Truck ($100m^3$ /hr) | 3 | |
| 6 | Wheel loader ($2m^3$/$3.5m^3$/$4.5m^3$) | 5 | |
| 7 | Sprinkler car (1600 gal / 2000 gal) | 5 | |
| 8 | Prime Mover with Trailer (350 hp) | 2 | |
| 9 | Forklift (2t) | 2 | |
| 10 | Station Wagon 4 x 4 | 15 | |
| 11 | Double Cab 4 x 4 | 5 | |
| 12 | Wagon 7 Seater | 5 | |
| 13 | Bus | 5 | |
| | **Total** | | **22.56** |

မှတ်ချက်။

၁။ စက်တန်ဖိုးအသေးစိတ်စာရင်းအတွက် ပစ္စည်းအမှန်ဝယ်ယူသည့်အချိန်တွင် ရရှိလာမည့် Quotation အား ဆက်လက်တင်ပြသွားပါမည်။

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

**Electro-mechanical Equipments**

| No. | Particulars | Qty | Amount in Million USD |
|---|---|---|---|
| 1 | **Electromechanical Equipments including:** | 1 Lot | 18.00 |
| | - Turbines | | |
| | - Generators | | |
| | - Unit Transformers | | |
| | - Generator Voltage Switch Gears | | |
| | - Auxiliary Power Supply | | |
| | - etc. | | |
| | | | |
| 2 | **Hydraulic Steel Structures including:** | 1 Lot | 4.50 |
| | - Trashracks | | |
| | - Gates Valves and Hoisting Equipments for River Intake and Desilting Basin | | |
| | - Headrace Tunnel | | |
| | - Access Adits | | |
| | - Head Tank | | |
| | - Penstock and Power House Draft Tubes | | |
| | - etc. | | |
| | | | |
| 3 | **Transmission Line to BLC-2 Switchyard including:** | 1 Lot | 0.30 |
| | - Single circuit type 132 KV line with conductor of ACSR, | | |
| | type LINNET (1 x 336.4 MCM = 1 x 170 $mm^2$) | | |
| | - Extension of 132 KV Switchyard in BLC-2 with 1 Transmission Line Bay, | | |
| | 132 kV Outdoor Type. | | |
| | | | |
| | **Total** | | **22.80** |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

**Camp Buildings**

| No. | Particular | Qty | Unit Price | Amount in Million Kyat |
|---|---|---|---|---|
| **Camp Buildings** | | | | |
| 1 | D - Type Building (56' x 42') | 4 | 20.42 | 81.70 |
| 2 | F - Type Building (60' x 30') | 7 | 16.37 | 114.62 |
| 3 | F - Type Building (60' x 30') | 4 | 15.88 | 63.53 |
| 4 | G- Type Building (60' x 30') | 2 | 15.88 | 31.76 |
| 5 | Messing (60' x 25') | 1 | 10.93 | 10.93 |
| 6 | Meeting (30' x 20') (Briefing Hall) | 1 | 5.66 | 5.66 |
| 7 | Security Gate house(2) | 1 | 3.27 | 3.27 |
| 8 | Ware house (100' x 30')(Mechnical Shed) | 1 | 12.54 | 12.54 |
| 9 | Ware house (100' x 30')(Core Shed) | 1 | 12.54 | 12.54 |
| 10 | HTCT Office foundation | 1 | 8.31 | 8.31 |
| 11 | Chinese Office foundation | 1 | 6.55 | 6.55 |
| 12 | Car parking | 1 | 3.37 | 3.37 |
| 13 | Fencing (for 1') | 4836 | 0.01 | 48.36 |
| 14 | Gate Door | 3 | 0.07 | 0.20 |
| 15 | For (F + G)Type Toilet (2 unit) | 26 | 1.14 | 29.74 |
| 16 | Gallon (100000) Diesel tank foundation | 10 | 6.71 | 67.07 |
| 17 | Water Tank (16' x 32' x6') | 4 | 3.60 | 14.40 |
| 18 | Septic tank for D - Type | 2 | 1.15 | 2.30 |
| 19 | Septic Tank for G - Type | 1 | 1.15 | 1.15 |
| 20 | Septic Tank for F - Type | 5 | 1.15 | 5.74 |
| 21 | Electrical Works | L.S | 5.00 | 5.00 |
| 22 | Camp Water Supply | L.S | 3.00 | 3.00 |
| 23 | Double Storey Prefab.Office | 1 | 73.00 | 73.00 |
| 24 | Single Storey Prefab.Office | 1 | 37.05 | 37.05 |
| **Total** | | | | **641.79** |

# Future Energy Co., Ltd.
## Baluchaung No.(3) Hydropower Project
## Lists of Furnitures & Office Equipments

| No. | Type of Bldgs | Furnitures & Office Equipments (Qty) | | | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | Bed | Table | Chair | Closet | Sette | Stool | Computers | Copier | PABX | Printer | Water cooler | Fridge | AirCon | Projector |
| 1 | Office 2 Storey | | 28 | 48 | 14 | | 20 | 24 | 6 | 1 | 6 | 2 | 2 | 14 | 1 |
| 2 | Office 1 Storey | | 14 | 26 | 8 | | 10 | 12 | 3 | | 3 | 1 | 1 | 8 | |
| 3 | Briefing Hall | | 8 | 18 | | 4 | 18 | 1 | | | | 1 | 2 | | 1 |
| 4 | Mess Hall | 2 | 16 | 64 | 4 | | 12 | | | | | 4 | 2 | 8 | |
| 5 | D Type 4 Nos | 16 | 16 | 16 | 16 | 4 | 16 | | | | | | 4 | 12 | |
| 6 | F Type 3 Nos L | 36 | 36 | 36 | | | 36 | | | | | 3 | | | |
| 7 | F Type 4 Nos M | 48 | 48 | 48 | | | 48 | | | | | 4 | | | |
| 8 | F Type 4 Nos | | | | | | | | | | | | | | |
| 9 | Ware House | | 8 | 16 | 8 | | 8 | 8 | 4 | | 2 | 2 | | 4 | |
| 10 | Security House | 3 | 6 | 6 | 3 | | 3 | | | | | | | | |
| 11 | Adit 1 | | 2 | 4 | 2 | | 2 | | | | | | | | |
| 12 | Adit 2 | | 2 | 4 | 2 | | 2 | | | | | | | | |
| 13 | Adit 3 | | 2 | 4 | 2 | | 2 | | | | | | | | |
| 14 | Adit 4 | | 2 | 4 | 2 | | 2 | | | | | | | | |
| 15 | Weir | | 2 | 4 | 2 | | 2 | | | | | | | | |
| 16 | Head Pond | | 2 | 4 | 2 | | 2 | | | | | | | | |
| 17 | Power House | | 2 | 4 | 2 | | 2 | | | | | | | | |
| | **Total** | **105** | **194** | **306** | **67** | **8** | **185** | **45** | **13** | **1** | **11** | **17** | **11** | **46** | **2** |
| | **Total Amount in Million Kyat - 107.91** | | | | | | | | | | | | | | |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများ

| No. | Particular | Unit | Qty | Amount in Million USD |
|---|---|---|---|---|
| **(A)** | **Construction Materials** | | | |
| 1 | Steel Bars | Tons | 9,000 | 23.06 |
| 2 | H Beam for Steel Ribs | Tons | 2,000 | |
| 3 | Welded Steel Fabric (Mesh) | Tons | 400 | |
| 4 | Steel Lagging Sheets | Tons | 400 | |
| 5 | H.S.D | Gals | 1,000,000 | |
| 6 | Chemicals Super 20 | Drums | 2,000 | |
| 7 | D 17 CMEH | Drums | 3,000 | |
| 8 | Shotcrete Chemical | Drums | 1,000 | |
| 9 | Rock Bolts 25 mm | Tons | 200 | |
| 10 | Steel Sheets 25 mm | Tons | 300 | |
| 11 | Roofing Sheets | m2 | 5,000 | |
| 12 | Flooring Checker Plates | m2 | 3,000 | |
| 13 | Steel Girders/Columns | Tons | 3,000 | |
| 14 | Angle/Channel Irons | Tons | 4,000 | |
| 15 | Electrical Cables and Lighting Fixtures for Power House | L.S | 1 | |
| 16 | Raisins | Gals | 10,000 | |
| 17 | Ceiling Sheets | m2 | 3,000 | |
| **(B)** | **Blasting Materials** | | | |
| 1 | Detonator | entries | 17,516 | 0.273 |
| 2 | Fuse | m | 96,942 | |
| 3 | Explosives | kg | 14,621 | |
| 4 | Gravelstone | $m^3$ | 460 | |
| 5 | Joist steel # 12~16 | t | 17,752 | |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများ

| No. | Particular | Unit | Qty | Amount in Million USD |
|---|---|---|---|---|
| 6 | Steel Rib and Steel Member | kg | 87,881 | |
| 7 | Alloy Bit | entries | 895 | |
| 8 | Welding electrode | kg | 527 | |
| 9 | Oxygen | $m^3$ | 74 | |
| 10 | Acetylene | $m^3$ | 41 | |
| | **Total** | | | **23.33** |

<u>မှတ်ချက်။</u>

၁။ ပစ္စည်းတန်ဖိုးအသေးစိတ်စာရင်းအတွက် ပစ္စည်းအမှန်ဝယ်ယူသည့်အချိန်တွင် ရရှိလာမည့် Quotation အား ဆက်လက်တင်ပြသွားပါမည်။

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

ပြည်တွင်းတွင်ဝယ်ယူမည့် လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများ

| No. | Item | Unit | Quantity | Amount in Million Kyat |
|---|---|---|---|---|
| 1 | Cement | TON | 23,000.00 | |
| 2 | Hardcore | sud | 104.30 | |
| 3 | Brick | Nos. | 157,786.34 | |
| 4 | Bullies (Myaw) | Nos. | 734.76 | |
| 5 | Barbed Wire | Rft | 75,925.20 | |
| 6 | Bolt Strup | Nos. | 259.00 | |
| 7 | Nail | Viss | 1,944.21 | |
| 8 | G.I Roofing Sheet | Sht | 4,238.01 | |
| 9 | Bamboo Mat | Sft | 159,940.70 | |
| 10 | Door 1 | Sft | 702.00 | |
| 11 | Butt Hinge (6") | Nos. | 174.00 | |
| 12 | Butt Hinge (5") | Nos. | 1,244.00 | |
| 13 | Tower Bolt | Nos. | 52.00 | |
| 14 | Tower Bolt (6") | Nos. | 784.00 | |
| 15 | IWC | Set | 52.00 | |
| 16 | Handle | Nos. | 1,274.00 | |
| 17 | 3/4" PVC Pipe | Rft | 1,300.00 | |
| 18 | 3/4" f Elbow | Nos. | 184.00 | |
| 19 | 3/4" Socket | Nos. | 184.00 | |
| 20 | 4" PVC Pipe | Rft | 1,240.00 | |
| 21 | 4" f Elbow | Nos. | 104.00 | |
| 22 | 4" Socket | Nos. | 144.00 | |
| 23 | 4" Tee | Nos. | 68.00 | |
| 24 | Water Tap (3/4") | Nos. | 52.00 | |
| 25 | Hook & Eye | Nos. | 478.00 | |
| 26 | Doork Lock | Nos. | 68.00 | |
| 27 | Tile | Sht | 6,988.80 | |
| 28 | EWC | set | 16.00 | |
| 29 | Basin | set | 16.00 | |

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

ပြည်တွင်းတွင်ဝယ်ယူမည့် လုပ်ငန်းသုံးဆောက်လုပ်ရေးပစ္စည်းများ

| No. | Item | Unit | Quantity | Amount in Million Kyat |
|---|---|---|---|---|
| 30 | Wall Shower | Set | 16.00 | |
| 31 | Angle | Nos. | 502.00 | |
| 32 | 11/2" x 11/2" Angle | Rft | 792.00 | |
| 33 | 2' x 2' AC | Sht | 3,213.13 | |
| 34 | Beading For Ceiling | Rft | 10,466.00 | |
| 35 | Ply Wood (8' x 4') | Sft | 14,541.60 | |
| 36 | Emulsion Paint | Gal | 41.44 | |
| 37 | Paint | Gal | 56.97 | |
| 38 | Paint Roller | Nos. | 12.00 | |
| 39 | Glazed | Sft | 518.00 | |
| **Total** | | | | **2,458.96** |

<u>မှတ်ချက်။</u>

၁။ အထက်ပါပစ္စည်းများတွင် Direct Labour Cost အား ထည့်သွင်းတွက်ချက်ထားပါသည်။

**Future Energy Co., Ltd.**

**Baluchaung No.(3) Hydropower Project**

**Production and Sales Schedule**

| No. | Description | Unit | Year - 1 | Year - 2 | Year - 3 | Year - 4 | Year - 5 | Year - 6 | Year - 7 | Year - 8 | Year - 9 | Year - 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| I | Annual Energy Output | kw Unit | | | | | 334,000,000 | 334,000,000 | 334,000,000 | 334,000,000 | 334,000,000 | 334,000,000 |
| II | Loss and Station Used (5%) | kw Unit | | | | | 16,700,000 | 16,700,000 | 16,700,000 | 16,700,000 | 16,700,000 | 16,700,000 |
| **III** | **Sellable Capacity** | **kw Unit** | | | | | **317,300,000** | **317,300,000** | **317,300,000** | **317,300,000** | **317,300,000** | **317,300,000** |
| IV | Selling price | Kyat | | | | | 50.00 | 50.00 | 50.00 | 50.75 | 50.75 | 50.75 |
| **V** | **Sales revenue** | **Kyat** | | | | | **15,865,000,000** | **15,865,000,000** | **15,865,000,000** | **16,102,975,000** | **16,102,975,000** | **16,102,975,000** |

တစ်ယူနစ်လျှင် ၅၀/- ကျပ်နှုန်းဖြင့်စတင်ရောင်းချ၍ (၃)နှစ်လျှင်တစ်ကြိမ် (၁. ၅%)စီ ဈေးနှုန်းမြှင့်၍ ရောင်းချပါမည်။

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁ / ၂၇၄ (၂၅၂၅/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့
ဝန်ကြီး
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၅၇-လျှပ်စစ်၁(၂)/၄၁၅၆/၂၀၀၉

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား (B.O.T) (Build Operate and Transfer) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား အောက်ပါ အတိုင်း ဖော်ပြအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ်(၅)အရ လျှပ်စစ်စီမံကိန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၅၀၀)အား ပဋိညာဉ်လက်မှတ်ရေးထိုးပြီး တစ်လအတွင်းကျပ်သိန်း (၂၅၀)နှင့် လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀)ကို အနာဂတ်စွမ်းအားကုမ္ပဏီက ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနသို့ ပေးအပ်ရန်ဖော်ပြထားရာ မြေအရင်းအမြစ်အား နှစ်(၆၀)အသုံးချမှုအတွက် နိုင်ငံတော်မှ ကျပ်သိန်း(၅၀၀)သာ ရရှိမည်ဖြစ်ပြီး Royalty Fees ကဲ့သို့သော အခြားအဖိုးအခများ မရရှိကြောင်း တွေ့ရှိရပါသည်။

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ခ)တွင် ပဋိညာဉ်စာချုပ် သက်တမ်းကာလအား လျှပ်စစ်စီမံကိန်းမှ လျှပ်စစ်ဓါတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှစတင်၍ နှစ်ပေါင်း(၆၀)အထိဟုဖော်ပြထားရာ ယခင် B.O.T စနစ်ဖြင့်ဆောင်ရွက်ခဲ့သည့်လုပ်ငန်းစီမံကိန်းများတွင် B.O.T ၏သက်တမ်းအား နှစ်(၃၀)မှ (၃၅) နှစ်အထိသာ ခွင့်ပြုလေ့ရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၂၂(ဂ)တွင်ပဋိညာဉ်၏သက်တမ်းအားတိုးမြှင့်နိုင်ကြောင်း ဖော်ပြထားသဖြင့် ယခုပဋိညာဉ်၏ သက်တမ်းအား ကနဦးနှစ်(၃၀)သာ ခွင့်ပြု၍

နောက်ထပ်သက်တမ်း ထပ်မံတိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုခြင်းသာလျှင် သင့်လျော်မည်ဟု ယူဆပါသည်။

(ဂ) အဆိုပါပဋိညာဉ်စာချုပ်(မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ ထည့်သွင်းဖော်ပြထားခြင်းမရှိသည့်အတွက် သဘောထားမှတ်ချက်ပြုရန်မရှိပါ။ သို့ရာတွင်လုပ်ငန်းဆောင်ရွက်ပေးခြင်းအတွက် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်သို့စာချုပ်အရပေးချေသည့်တန်ဖိုးအပေါ်တွင်လည်းကောင်း၊ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်ကလုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ တစ်ဆင့်ခံဆောင်ရွက်စေခြင်းအတွက် ပေးချေသည့်တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေးယူပါက အဆိုပါချေးယူငွေအတွက် အတိုးပေးချေငွေပေါ်တွင် လည်းကောင်း ပင်ရင်းမှ နှုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် (Withholding Tax)ကို ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဃ) ထို့အပြင် စီမံကိန်းလုပ်ငန်းအတွက် ပြည်တွင်းပြည်ပမှငှားရမ်းသည့် အတိုင်ပင်ခံများ၊ကျွမ်းကျင်သူများ၊ဝန်ထမ်းများအား ထုတ်ပေးသည့် လစာခေါင်းစဉ်မှ ဝင်ငွေခွန်ကိုနှုတ်ယူဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိပါသည်။ စီမံကိန်းတည်ဆောက်ပြီးစီး၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချသဖြင့် ရရှိသည့်ရောင်းရငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်နှင့်လုပ်ငန်းမှရရှိသည့်အသားတင်အမြတ်ဝင်ငွေအပေါ် ဝင်ငွေခွန်တို့ကို တည်ဆဲဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းနှင့်အမိန့်ကြော်ငြာစာများနှင့်အညီပေးဆောင်ရန်တာဝန်ရှိပါသည်။

၂။ လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးကြီးလှသိန်းဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန

hh//1-274(sep)- 3

နောက်ဆက်တွဲ(၀)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ နစ/ဃ-၁/ ၅၁၉ / ၂၀၀၉ (၅၂၅၃)
ရက်စွဲ ။ ၂၀၀၉ခုနှစ် ၊အောက်တိုဘာလ ( ၁ )ရက်

အမှာစာ

အကြောင်းအရာ။ ။ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား Build, Operate and Transfer (B.O.T) စနစ်ဖြင့် ဆောင်ရွက်ရေးဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေးရန် ကိစ္စ။

ရည်ညွှန်းချက် ။ ။အမှတ် (၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ၏ ၂.၉.၂၀၀၉ ရက်စွဲပါ စာ အမှတ် ၁၅၇ / လျှပ်စစ် ၁- (၂) / ၄၁၅၆ / ၂၀၀၉

ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်း အတွက် ရေအားလျှပ်စစ် စီမံရေးဦးစီးဌာန(DHPP) နှင့်အနာဂတ် စွမ်းအားကုမ္ပဏီလီမိတက် (လုပ်ငန်းလုပ်ကိုင်သူ)တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) နှင့် စပ်လျဉ်း၍ အောက်ပါ သဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

၁။ စာချုပ် (မူကြမ်း)အရ တပ်ဆင်စက်အင်အား ၄၈ မဂ္ဂါဝပ်ရှိသည့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ် စီမံကိန်း ကို လုပ်ငန်းလုပ်ကိုင်သူအား တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း (B.O.T) စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် ချုပ်ဆိုခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည် ။

၂။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူမှ ရေအားလျှပ်စစ် စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊ ဒီဇိုင်းရေးဆွဲ ပုံစံထုတ်လုပ်ခြင်း ၊ရေလွှဲအဆောက်အအုံ ၊ရေသွင်းမြောင်းများ ရေသွယ်ဥမင်လိုဏ်ခေါင်းများ တည်ဆောက်ခြင်း ၊ ရေအားလျှပ်စစ်စက်ရုံ ထိန်းသိမ်း ဆောင်ရွက်ခြင်း နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်း စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စာချုပ် (မူကြမ်း) အရ လုပ်ငန်း လုပ်ကိုင်သူ မှ မြေယာအသုံးချမှု ပရီမီယံကြေး သိန်း (၅၀၀) ပေးသွင်းရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ စာချုပ် (မူကြမ်း)အရ DHPP အနေဖြင့် စီမံကိန်း အတွက် မြေအသုံးချရန် ခွင့်ပြုချက် ရရှိရေး၊ လုပ်ငန်းလုပ်ကိုင်ရန် နှင့် ခွင့်ပြုမိန့်များရရှိရေး လျှပ်စစ်ဓါတ်အား ရောင်းချရန် အတွက် သက်ဆိုင်ရာ အဖွဲ့အစည်းများ နှင့် ညှိနှိုင်းရေး စသည့်တို့ကို ဆောင်ရွက်ရန် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ စာချုပ် (မူကြမ်း)တွင် စီမံကိန်းတည်ဆောက်ရေးကာလကို (၄) နှစ် သတ်မှတ်ထားပြီး စာချုပ် သက်တမ်းကို စီးပွားဖြစ်ထုတ်လုပ်သည့်နေ့မှ နှစ်ပေါင်း(၆၀) သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။

၆။ စာချုပ် (မူကြမ်း) အရ မြေအသုံးချမှု ပရီမီယံကြေးကို လုပ်ငန်းလုပ်ကိုင်သူမှ ပေးရန်ဖြစ်ပြီး မြေငှားရမ်းခ သီးခြားပါဝင်ခြင်း မရှိကြောင်းတွေ့ရှိရပါသည်။

၇။ B.O.T (မူကြမ်း) အရ လုပ်ငန်းလုပ်ကိုင်သူထံမှ လုပ်ငန်းဆောင်ရွက်မှု အာမခံရယူရန် သင့် - မသင့် စဉ်းစားသင့် ပါကြောင်း အကြံပြုအပ်ပါသည်။

။ စာချုပ်(မူကြမ်း)တွင် အပိုဒ် ၇(ဘ)(ဇ)၊၈(တ)နှင့် အပိုဒ် ၂၂(က)တွင် မင်နီဖြင့်ပြင်ဆင်ပေးထားကြောင်း ဖော်ပြအပ်ပါသည်။

စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုပြီးစီးပါက မိတ္တူ (၂)စောင်ကို ဤဦးစီးဌာနသို့ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား )
(မောင်မောင်ခင်-ညွှန်ကြားရေးမှူး)

<u>အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသည့်

ဘီလူးချောင်း အမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းကို

**B.O.T**

(တည်ဆောက်ခြင်း၊လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း)စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်

ရက်စွဲ ။ ၂၀၀ ခုနှစ် ၊ လ( )ရက်

# ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စီမံကိန်းကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန နှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ် (မူကြမ်း)

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀ ခုနှစ်၊ လ၊ ( )ရက်နေ့၌

**ညွှန်ကြားရေးမှူးချုပ်၊ ဦးကြီးစိုး** ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံ၊ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန၊ အဆောက်အဦ အမှတ်(၃၈)၊ နေပြည်တော် (ဤမှနောင်တွင် **"လုပ်ငန်းခွင့်ပြုသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က တစ်ဖက်

နှင့်

**အုပ်ချုပ်မှုဒါရိုက်တာ၊ ဦး--------** ကိုယ်စားပြုသောပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများ အရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည့် **အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်** အမှတ် ၅၈၄၊ ဟိုင်းတက်တာဝါ၊ ပထမထပ်၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်သူ"**ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

## နိဒါန်း

**"လုပ်ငန်းလုပ်ကိုင်သူ"** သည်ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့် အကွာရှိ နောက်ဆက်တွဲ(၁)မြေပုံပါ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှ ထုတ်လုပ်မည့်ဓါတ်အား ကီလိုဝပ်နာရီသန်းပေါင်း (၃၃၄) ထွက်ရှိမည့်၊ ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်း (ဤမှနောင်တွင် **"လျှပ်စစ်စီမံကိန်း"** ဟု ရည်ညွှန်းခေါ်ဆိုမည်)ကို B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့်လုပ်ငန်း၏ အကျိုးခံစားခွင့်များကို စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည်-

## အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ"** ဆိုသည်မှာ ဤ **"လျှပ်စစ်စီမံကိန်း"**ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည်ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ယာဉ်၊ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) **"အမြဲတမ်းလုပ်ငန်းများ"** ဆိုသည်မှာ ဤစာချုပ်ပါ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သောပုံစံပြု၍ ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) **"တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ်-၈(၃)အရ **"လုပ်ငန်းလုပ်ကိုင်သူ"**ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ဃ) **"စက်ရုံ၊ အလုပ်ရုံ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ **"လုပ်ငန်းလုပ်ကိုင်သူ"** မှ ဤ **"လျှပ်စစ်စီမံကိန်း"**လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ)များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) **"လုပ်ငန်းခွင်နေရာ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏နေရာများ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) **"စာချုပ်"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) **"လျှပ်စစ်ဓါတ်အား"** ဆိုသည်မှာ **"လျှပ်စစ်စီမံကိန်း"**မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို ဆိုလိုသည်။

(ဇ) “စီးပွားဖြစ်စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း” ဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓါတ်အားပေးစက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓါတ်အား စီးပွားဖြစ်ထုတ်လုပ်ရောင်းချ ပေးခြင်းကို ဆိုလိုသည်။

**အာမခံချက်နှင့်ကိုယ်စားပြုခြင်း**

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦး တစ်ဖက်အား ၎င်းသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူ ဖြစ်ကြောင်းနှင့် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသူများ ဖြစ်ကြောင်း အာမခံပါသည်။ “လုပ်ငန်းလုပ်ကိုင်သူ” သည် ခိုင်မာသောဘဏ္ဍာရေး ရပ်တည်မှုရှိသူဖြစ်ကြောင်း အာမခံပါသည်။

**ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်**

၃။ ဤ **“လျှပ်စစ်စီမံကိန်း”** လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း၊

(ခ) ဘီလူးချောင်းအမှတ်(၂) ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီး ထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကိုပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း (Head Race Tunnel) အတွင်းသို့ ပို့လွှတ် ပေးသွင်းခြင်း၊

(ဂ) ဘီလူးချောင်းမှရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲအဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း၊

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား (၄. ၃)ကီလိုမီတာ၊ အကျယ် (အချင်း) (၄. ၉)မီတာရှိသော ရေသွယ်ဥမင် လိုဏ်ခေါင်းကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း၊

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ (၅၀,၀၀၀)ဆန့် ကွန်ကရစ် ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များ တည်ဆောက်ခြင်း၊

(စ) အလျား (၁၈၈)မီတာနှင့် အကျယ်(အချင်း) (၃. ၈)မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း၊

(ဆ) ဖရန်စစ်အမျိုးအစား (၂၅. ၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက် (၂)လုံးနှင့် ဆက်စပ်ပစ္စည်းများတပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ (Surface Type Power House) တည်ဆောက်ခြင်း၊

(ဈ) စက်ရုံမှထွက်လာသည့်ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း၊

(ဏ) မြေပေါ်ဓာတ်အားခွဲရုံ (၁)ခုတည်ဆောက်ခြင်း၊

(ည) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ အမှတ် (၂) ရေအားလျှပ်စစ်စက်ရုံသို့ (၄. ၅)ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီလျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း၊

(ဋ) ဘီလူးချောင်းအမှတ် (၃) ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ် (၂) ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း၊

(ဌ) ရုံးအဆောက်အဦနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း၊

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်း မောင်းနှင်ခြင်း၊

(ပ) လျှပ်စစ်ဓါတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း၊

## အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် (Concession Rights)

၄။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"**ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက် နိုင်ရန် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏အရှေ့တောင်ဘက် (၁၆)မိုင်ခန့်အကွာ ဘီလူးချောင်းပေါ်နှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေးအတွက် **"လုပ်ငန်းခွင့်ပြုသူ"** က ဆောင်ရွက်ပေးရမည်။

## မြေအသုံးချမှု ပရီမီယံ (Land Used Premium)

၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန် း"** ကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် **"လုပ်ငန်းခွင့်ပြုသူ"** အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်း ကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)ကို အောက်ပါအတိုင်း ပေးအပ်ရမည် -

(က) ဤပဋိညာဉ်စာချုပ် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်၊

(ခ) **"လျှပ်စစ်စီမံကိန်း"**၏ တည်ဆောက်ရေးကာလပြီးနောက် **"လျှပ်စစ်ဓါတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း (၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

## စံချိန်စံညွှန်းများ

၆။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းကို အဆင့်ဆင့် ဆောင်ရွက်ရာတွင် **"လုပ်ငန်းခွင့်ပြုသူ"** မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို

အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများကို ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များ အတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ခွင့် ရှိသည်။

**“လုပ်ငန်းခွင့်ပြုသူ”၏တာဝန်များ**

၇။ “လုပ်ငန်းခွင့်ပြုသူ”၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) “လုပ်ငန်းခွင့်ပြုသူ” သည် **“လျှပ်စစ်စီမံကိန်း”**၏ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်တို့မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”**အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”** အတွက် စီမံကိန်းနှင့် ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စများ၊ အတိုင်ပင်ခံအင်ဂျင်နီယာများကို ကူညီဆောင်ရွက် ပေးရမည်။

(ဃ) **“လုပ်ငန်းခွင့်ပြုသူ”**သည် ဆိုခဲ့သည့် **“လျှပ်စစ်စီမံကိန်း”**အတွက် လိုအပ်မည့် မြေနေရာ သုံးစွဲခွင့်ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) **“လုပ်ငန်းခွင့်ပြုသူ”** သည် **“လျှပ်စစ်စီမံကိန်း”** အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **“လျှပ်စစ်စီမံကိန်း”** အတွက် **“လုပ်ငန်းလုပ်ကိုင်သူ”** သည် ပြည်တွင်း/ ပြည်ပချေးငွေ ချေးယူသုံးစွဲလိုပါက လိုအပ်သည်များ ပံ့ပိုးပေးရန်ကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဉ်ယန္တရားများ ဝယ်ယူတင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ “လုပ်ငန်းခွင့်ပြုသူ” မှ ကူညီ ဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက

"လုပ်ငန်းလုပ်ကိုင်သူ" နှင့် အဆိုပါ ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်များအတွက် သီးခြားသဘောတူညီချက် စာချုပ်များ ချုပ်ဆို၍ ဆောင်ရွက်ရမည်။

(ဈ) "လုပ်ငန်းခွင့်ပြုသူ" သည် "လျှပ်စစ်စီမံကိန်း"မှ ထွက်ရှိမည့် လျှပ်စစ်ဓါတ်အားကို "လုပ်ငန်းလုပ်ကိုင်သူ"မှ သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်း များနှင့် ညှိနှိုင်း စီစဉ်ဆောင်ရွက်ပေးရမည်။

(ည) "လုပ်ငန်းလုပ်ကိုင်သူ" သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန် အတွင်း လုပ်ငန်းကိုပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းခွင့်ပြုသူ" ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ "လုပ်ငန်းခွင့်ပြုသူ" သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

"လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ

၈။ "လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" ၏ လုပ်ငန်း အတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာ တန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်း ပြီးစီးအောင် ဆောင်ရွက်ရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ" သည် ပြည်တွင်းမှဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ အကြံပေး အင်ဂျင်နီယာများနှင့် အလုပ်သမားများကိုအမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

( င) “လုပ်ငန်းလုပ်ကိုင်သူ” သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ် အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(စ) “လုပ်ငန်းလုပ်ကိုင်သူ”သည် “လျှပ်စစ်စီမံကိန်း” ကို စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲ ဆောင်ရွက်ရန်လိုအပ်လာပါက အဆိုပြုချက် အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ၊

(ဆ) “လုပ်ငန်းလုပ်ကိုင်သူ” သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန် တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) “လျှပ်စစ်စီမံကိန်း” လုပ်ငန်းဆောင်ရွက်ရာတွင် “လုပ်ငန်းလုပ်ကိုင်သူ” သည် သစ်တော ဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဈ) “လုပ်ငန်းလုပ်ကိုင်သူ” သည် “လုပ်ငန်းခွင့်ပြုသူ” ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက် မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ၊

(ည) “လုပ်ငန်းလုပ်ကိုင်သူ” သည် “လုပ်ငန်းခွင့်ပြုသူ” မှ ပံ့ပိုးကူညီသည့် စီမံကိန်းနှင့် ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ဋ) “လုပ်ငန်းလုပ်ကိုင်သူ” သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် ကာလအတွင်း “လျှပ်စစ်စီမံကိန်း”ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဌ) “လုပ်ငန်းလုပ်ကိုင်သူ”၏ “လျှပ်စစ်စီမံကိန်း”မှ ထွက်ရှိသည့် လျှပ်စစ်ဓါတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့် ရှိသည်။

(ဍ) “လုပ်ငန်းလုပ်ကိုင်သူ” သည် “လျှပ်စစ်စီမံကိန်း” ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့် မပြုရ၊ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့်

ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" က တာဝန်ယူရမည်။

(ပ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လျှပ်စစ်စီမံကိန်း" အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်း ချေးငွေများ ချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက် စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေ ပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ "လုပ်ငန်းလုပ်ကိုင်သူ" သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဗ) "လုပ်ငန်းလုပ်ကိုင်သူ"သည်သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများပေးဆောင်ရမည်။

## နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်းသတ်မှတ်ပါသည် -

(က) "လုပ်ငန်းစတင်သည့်နေ့" မှာ ဤပဋိညာဉ်စာချုပ်ကိုနှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးသည့် နေ့ဖြစ်ပါသည်။

(ခ) "တည်ဆောက်ရေးကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ် အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) "အကျိုးသက်ရောက်သည့်နေ့" မှာ "လုပ်ငန်းခွင့်ပြုသူ"၏ တရားဝင် အကြောင်းကြားချက် အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုး သက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်း တစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေး ကာလတိုးမြှင့်မှု ကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရမည်။

## လျှပ်စစ်ဓါတ်အားဖြန့်ဖြူးခြင်း

၁၀။ ဤစာချုပ်၏ "လျှပ်စစ်စီမံကိန်း" မှ "လျှပ်စစ်ဓါတ်အား" ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များ နှင့်အညီ ဖြန့်ဖြူးရောင်းချရမည် ဖြစ်သည်။

## သယံဇာတပစ္စည်းတွေ့ရှိခြင်း

၁၁။ ''လုပ်ငန်းလုပ်ကိုင်သူ'' သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ဌားရမ်းထားသော မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ရှေးဟောင်း ပစ္စည်းများနှင့် ရွှေ၊ ငွေ ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက ''လုပ်ငန်းခွင့်ပြုသူ'' ထံ ချက်ချင်းအကြောင်းကြား ရမည်။ အဆိုပါသယံဇာတပစ္စည်းများသည် နိုင်ငံပိုင် ပစ္စည်းများ ဖြစ်စေရမည်။ ''လုပ်ငန်းခွင့်ပြုသူ'' သည် အဆိုပါသယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

## လုပ်ငန်းတန်ဖိုး

၁၂။ ဤစာချုပ် ချုပ်ဆိုသည့် **"လျှပ်စစ်စီမံကိန်း"** ၏ ခန့်မှန်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၁၀၅,၁၁၈. ၉၁) (ကျပ် တစ်သိန်းငါးထောင် တစ်ရာ တစ်ဆယ့်ရှစ် ဒသမ ကိုးတစ်သန်း) နှင့် နိုင်ငံခြားသုံးငွေ အမေရိကန် ဒေါ်လာသန်းပေါင်း(၈၂. ၆၇) (အမေရိကန်ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနစ်သန်း) ဖြစ်ပါသည်။

## လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန် ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၆)လအတွင်း "လုပ်ငန်းခွင့်ပြုသူ"ထံ တင်သွင်းရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်သူ" သည် လစဉ် တိုးတက်မှုအစီရင်ခံစာကို မိတ္တူ (၃)စုံ ပြုစုပြီး "လုပ်ငန်းခွင့်ပြုသူ" ထံ တင်သွင်းရမည်။

## စစ်ဆေးခြင်းနှင့်ကန့်ကွက်ခြင်း

၁၄။ **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမားများ၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်း ဆောင်ရွက်မှု အစရှိသည်တို့ကို "လုပ်ငန်းခွင့်ပြုသူ" က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ "လုပ်ငန်းခွင့်ပြုသူ" ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု သို့မဟုတ် စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက "လုပ်ငန်းခွင့်ပြုသူ" က ကန့်ကွက်နိုင်သည့်အပြင် "လုပ်ငန်း လုပ်ကိုင်သူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ " လုပ်ငန်းလုပ်ကိုင်သူ" သည် ချို့ယွင်းချက်ကို (---------) အတွင်းကောင်းစွာ

ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ ပစ္စည်းများကို စံနှုန်းနှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရ တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေလျှောလျှပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်း တစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန်လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက် အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူလက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်နေသည့် ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ဆိုင်းငံ့ထားနိုင်သည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ် ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု

၁၇။ "လုပ်ငန်းလုပ်ကိုင်သူ"၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) "လုပ်ငန်းလုပ်ကိုင်သူ" သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါလုပ်ငန်းကို ပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်းမပြုလျှင်၊ "လုပ်ငန်းခွင့်ပြုသူ"မှ အဆိုပါ

ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါကကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းတန်ဖိုး၏ ၀.၅% အား ရက်သတ္တတစ်ပတ် နောက်ကျတိုင်း **"လုပ်ငန်းခွင့်ပြုသူ"** ထံပေးဆောင်ရန်နှင့် ထိုသို့ပေးဆောင်မှုသည် ကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းများ၏ စုစုပေါင်း တန်ဖိုး၏ ၅%ကို မကျော်လွန်စေရပါ။ ထို့အပြင် **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟု ယူဆပါက စာချုပ်လုပ်ငန်းအား လုပ်ငန်းခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိပါကလည်းကောင်း၊ ဤစာချုပ် **"လုပ်ငန်းခွင့်ပြုသူ"** မှ သိမ်းယူပါက လည်းကောင်း၊ တတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးအပ်ခဲ့သော **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့်ပမာဏအား တတိယအဖွဲ့အစည်းထံမှ လျော်ကြေးတောင်းခံနိုင်မှု ရှိသည်။

**ပြောင်းလဲခြင်းများ**

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြင် ပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို **"လုပ်ငန်းခွင့်ပြုသူ"** ထံမှအတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲ အဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် ပုံစံပြုလွှာအသစ်၊ လုပ်ငန်း အစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) "လုပ်ငန်းခွင့်ပြုသူ" မှ အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြု အမိန့်များ (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) "လုပ်ငန်းခွင့်ပြုသူ" သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းကို မဆို "လုပ်ငန်းလုပ်ကိုင်သူ" အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည့်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ "လုပ်ငန်းလုပ်ကိုင်သူ"၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားခိုင်းစေခြင်းမပြုရ။

(၅) "လုပ်ငန်းခွင့်ပြုသူ" သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင် သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက်ရှိအောင် ဆက်လက် ဆောင်ရွက်ပေးရမည်။

**ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း**

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည်။

( က ) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လ ကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက် ဖြင့် ရပ်စဲခြင်း၊

( ခ ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

( ဂ ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

( ဃ ) မလွန်ဆန်နိုင်သောဖြစ်ရပ်များ (Force Majeure) (၁၂) လဆက်တိုက်ဖြစ်ပေါ်လာခြင်း။

( င ) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

ပြင်ဆင်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၂၂။ ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိစေရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည့် အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်ထားသော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူကကျခံရမည်။

စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ

၂၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဤပဋိညာဉ်စာချုပ်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီးစာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ်သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အားနှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစပြီး "လျှပ်စစ်စီမံကိန်း" ၊ "လျှပ်စစ်ဓါတ်အား" စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍နောက်ထပ် နှစ်ပေါင်း (၆၀)အထိ ဖြစ်သည်။

---

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်း မကုန်ဆုံးမီ ၆ (ခြောက်) လကြိုတင်၍ စာချုပ်ဝင် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်း တိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ (၅)နှစ် တစ်ကြိမ်စီဖြင့် (-------)ကြိမ် ပဋိညာဉ်စာချုပ်သက်တမ်း တိုးမြှင့်နိုင်သည်။

(ဃ) "လုပ်ငန်းခွင့်ပြုသူ" မှ ခွင့်ပြုထားသော "လျှပ်စစ်စီမံကိန်း" ၏စာချုပ်ပါ လုပ်ငန်း ကာလပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်သူ" သည် အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ သက်တမ်း တိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် "လုပ်ငန်းခွင့်ပြုသူ" ထံ တင်ပြ လျှောက်ထားရမည်။

## ခွင့်ပြုလွှဲအပ်ခြင်း

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ် ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့် သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်း ပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့် ရှိသည်။

## အာမခံထားရှိခြင်း

၂၅။ "လုပ်ငန်းလုပ်ကိုင်သူ" သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံ ဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများထားရှိ ဆောင်ရွက်ရမည်။

## အထွေထွေကိစ္စရပ်များ

၂၆။ (က) **တရားမဝင်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှု ရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏ အခြားပြဋ္ဌာန်းချက် တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင် လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) **ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း ။** ။ စာချုပ်ရပ်စဲသည့်အခါ (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (-------) အတွင်း စာချုပ်ပါမြေနှင့် **"လျှပ်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံ ထားသောပစ္စည်းများ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ထံ လွှဲပြောင်းပေးအပ်ရမည်။

(ဃ) **လွှဲပြောင်း၍မရနိုင်သောအခွင့်အရေး။** ။ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ် ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလဘူတ အခွင့်အရေးကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနည်ာတဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက်အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

(င) **တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။** ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်း အက်ဥပဒေ ပုဒ်မ (၉) အရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို **''လုပ်ငန်းလုပ်ကိုင်သူ''** က ထမ်းဆောင်ရမည် ဖြစ်ပါသည်။

(စ) **အကြောင်းကြားစာများ။** ။ ဤစာချုပ်တွင် အခြားနည်း ပြဋ္ဌာန်းထားချက်များမှ တစ်ပါး၊ ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်ကိုသော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့်သော် လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု

(ဤမှနောင်တွင် "အကြောင်းကြားစာ" ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်ပါက လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြု ဖော်ပြထားသည့် သတင်းပေးပို့ချက် မှတ်တမ်းကို ပေးပို့သူက လက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင် ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှ ပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး)ရက်မြောက်နေ့တွင် စာအိတ်ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဆ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

**ဆက်သွယ်ရန်လိပ်စာများ**

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

**ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန**
**ရုံးအမှတ် (၃၈)၊ နေပြည်တော်၊ ဖက်(စ်) အမှတ် - ၀၆၇-၄၁၁၀၆၇**

နှင့်

အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်
အမှတ်(၅၈၄)၊ ဟိုင်းတက်တာဝါ၊ ကမ်းနားလမ်းနှင့် ၇-လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့၊
ဖက်(စ်)အမှတ် -(၉၅)-၁-၂၁၁၆၉၆, ၂၁၁၉၅၇

**နားလည်မှုစာချွန်လွှာ အစားထိုးပယ်ဖျက်ခြင်း**

၂၈။ ၂၀၀၈ခုနှစ်၊ မေလ (၂)ရက်တွင် ဘီလူးချောင်းအမှတ် (၃)ရေအားလျှပ်စစ်စီမံကိန်းအတွက် ရေအားလျှပ်စစ် အကောင်အထည်ဖော်ရေးဦးစီးဌာန နှင့် လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှုစာချွန်လွှာကို ဤပဋိညာဉ် စာချုပ် အကျိုးသက်ရောက်သည့်နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

**စာချုပ်လက်မှတ်ရေးထိုးခြင်း**

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ------ ရက်၊ --------------- လ၊ ------ ခုနှစ်တို့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန (ကိုယ်စား)

အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက် (ကိုယ်စား)

(                    )
ညွှန်ကြားရေးမှူးချုပ်

(                    )
အုပ်ချုပ်မှုဒါရိုက်တာ

## အသိသက်သေများ

အမည် ၊ --------------------
မှတ်ပုံတင်အမှတ် ၊ --------------------
ရာထူး ၊ --------------------
ဌာန ၊ --------------------

အမည် ၊ --------------------
မှတ်ပုံတင်အမှတ် ၊ --------------------
ရာထူး ၊ --------------------
ဌာန ၊ --------------------

# ဘီလူးချောင်း (၃) ရေအားလျှပ်စစ်စီမံကိန်းတည်နေရာပြပုံ

နောက်ဆက်တွဲ (၁)



အကြောင်းအရာ။ ။ **သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့ အား BOT (Build, Operate and Transfer) စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ တင်ပြလာခြင်းကိစ္စ။**

၁။ သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်း (ရွှေစွမ်းအင် ကုမ္ပဏီလီမိတက်) နှင့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်း (အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်) တို့အား BOT (Build, Operate and Transfer) (တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်း) စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့် ပြုပါရန် အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အမှာစာ (၂)စောင်ဖြင့် တင်ပြခြင်းကို စုစည်းတင်ပြအပ်ပါသည်။

၂။ ဌာနအမှာစာနှစ်ခု၏ အဓိကအချက်များကို အောက်ပါအတိုင်း နှိုင်းယှဉ်တင်ပြအပ်ပါသည် -

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| (က) | BOT စနစ် အရ ဆောင်ရွက်မည့် ကုမ္ပဏီ | ရွှေစွမ်းအင် ကုမ္ပဏီလီမိတက် | အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် |
| (ခ) | တပ်ဆင်စက် အင်အား | ၁၂၀ မဂ္ဂါဝပ် | ၅၂ မဂ္ဂါဝပ် |
| (ဂ) | နှစ်စဉ် ထုတ်လုပ်မည့် ဓါတ်အား | ၆၀၄.၇၀ (ကီလိုဝပ်နာရီ သန်းပေါင်း) | ၃၃၄ (ကီလိုဝပ်နာရီ သန်းပေါင်း) |
| (ဃ) | တည်ဆောက်ရေး ကာလ | (၄)နှစ် | (၄)နှစ် |
| (င) | BOT သက်တမ်း ကာလ | လျှပ်စစ် ဓါတ်အား စီးပွားဖြစ်စတင် ထုတ်လုပ်သည့် နေ့ရက်မှစ၍နှစ်(၆၀)နှင့် နောက်ထပ် (၅)နှစ် တစ်ကြိမ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်နိုင်မည်ဖြစ်ပါသည်။ | (သောက်ရေခပ်(၂) သက်တမ်းအတိုင်း ဖြစ်ပါသည်။) |

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| (စ) | မြေအသုံးချမှု ပရီမီယံကြေး | ကျပ်သိန်း (၁၀၀၀) | ကျပ်သိန်း (၅၀၀) |

(ဆ) တင်ပြချက်

- မြေအသုံးချမှု ပရီမီယံကြေးကို ပဋိညာဉ် စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း တစ်ဝက်ပေး အပ်ရန်နှင့် တည်ဆောက်ရေး ကာလ ပြီးနောက် စီးပွားဖြစ် စတင်သည့် နေ့ရက်ကာလတွင် ကျန် တစ်ဝက်ကို ပေးအပ်ရပါမည်။
- လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ကို နိုင်ငံတော်နှင့် သက်ဆိုင်ရာ ဌာနများမှ အခါ အား လျော်စွာ သတ်မှတ်ပေးသည့် နှုန်းထား သတ်မှတ် ချက်များနှင့်အညီ ဖြန့်ဖြူး ရောင်းချမည် ဖြစ်ပြီး လုပ်ကိုင်ခွင့်ကာလ ကုန်ဆုံးပါက ရေအား လျှပ်စစ် စီမံရေး ဦးစီးဌာနသို့ စက်ရုံနှင့် ဆက်စပ် ပစ္စည်းများ အား အခမဲ့ လွှဲပြောင်းပေး အပ်မည် ဖြစ်ပါသည်။

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| (ဇ) | ဘဏ္ဍာ/ အခွန် မှ သဘောထား | (၁) ပဋိညာဉ်စာချုပ်သက်တမ်း ကို နှစ် (၆၀) ဟု ဖော်ပြထား ပါသည်။ စာချုပ် (မူကြမ်း) အပိုဒ် - ၂၂ (ဂ)တွင် ပဋိညာဉ် သက်တမ်းအား တိုးမြှင့် နိုင်ကြောင်း ဖော်ပြထား သဖြင့် /ယခု လျှပ်စစ် စီမံကိန်း၏ သက်တမ်း အား ကနဦး နှစ်(၃၀) သာ ခွင့်ပြု၍ နောက် ထပ်သက်တမ်း ထပ်မံ တိုးမြှင့် ဆောင်ရွက်ခွင့် ပြုခြင်း က သင့်လျော် မည်ဟုယူဆပါကြောင်း၊ | (၁)သောက်ရေခပ်(၂)တွင် ဖော်ပြထားသည့် အတိုင်း ဖြစ်ပါသည်။ |

| သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|
| (၂) မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၁၀၀၀)အား ဌာန သို့ ပေးအပ်ရန် ဖော်ပြထားရာ မြေအရင်း အမြစ်အား နှစ်(၆၀) အသုံးချမှု အတွက် နိုင်ငံတော်မှ ကျပ်သိန်း (၁၀၀၀) သာ ရရှိမည် ဖြစ်ပြီး Royalty Fees ကဲ့သို့ သော အခြား အဖိုးအခများ မရရှိပါ ကြောင်း ပြန်ကြားထား ပါသည်။ | (၂) သောက်ရေခပ်(၂)တွင် ဖော်ပြ ထား သည့် အတိုင်း ဖြစ်ပါသည်။ |
| (၃) ဖော်ပြထားခြင်း မရှိပါ။ | (၃) စာချုပ်အရ ပေးချေသည့် တန်ဖိုး အပေါ်တွင်လည်းကောင်း၊ တစ်ဆင့်ခံ ဆောင်ရွက် စေခြင်း အတွက် ပေးချေသည့် တန်ဖိုးအပေါ်တွင် လည်းကောင်း၊ လုပ်ငန်း ဆောင်ရွက်ရန် နိုင်ငံခြားမှ ငွေချေး ယူပါက အဆိုပါချေးယူငွေ အတွက်အတိုးပေးချေငွေ ပေါ်တွင် လည်းကောင်း၊ ပင်ရင်း မှ နှုတ်ယူပေးသွင်းသည့် ဝင်ငွေခွန်(withholding Tax) ကိုဖြတ်တောက်ပေးသွင်းရန် တာဝန် ရှိပါကြောင်း၊ |

| | | သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|---|---|
| | | (၄) ဖော်ပြထားခြင်း မရှိပါ။ | (၄) ပြည်တွင်းပြည်ပမှ ငှားရမ်းသည့် ကျွမ်းကျင်သူ များအတွက် ဝင်ငွေခွန်ကို နှုတ်ယူဖြတ်တောက် ပေးသွင်းရန် တာဝန်ရှိ ပါကြောင်း၊ ဓါတ်အားထုတ်လုပ်ရောင်းရငွေ အပေါ် ကုန်သွယ်လုပ်ငန်းခွန် နှင့် အသားတင် အမြတ်ငွေ အပေါ် ဝင်ငွေခွန် တို့ကို တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း နှင့် အမိန့် ကြော်ငြာစာများနှင့်အညီပေးဆောင်ရန် တာဝန် ရှိပါကြောင်း ပြန်ကြားထား ပါသည်။ |
| (ဈ) | ရွှေ့နေချုပ်ရုံးမှ သဘောထား | (၁) မြေ ငှားရမ်းခ နှင့် လုပ်ငန်း အာမခံငွေ ရယူရန် သင့်/ မသင့် ပြန်ကြားထားပါ သည်။ | (၁) သောက်ရေခပ်(၂) တွင် ဖော်ပြထား သည့် အတိုင်း ဖြစ်ပါသည်။ |
| (ည) | နိုင်ငံခြား စီးပွားဆက်သွယ်ရေး ဦးစီးဌာန မှ သဘောထား | (၁) ဖော်ပြထားခြင်း မရှိပါ။ | (၁) မြေ အသုံးချမှု ပရီမီယံကြေး ကို လုပ်ငန်း လုပ်ကိုင်သူ မှ ပေးရန် ဖြစ်ပြီး မြေငှားရမ်းခ သီးခြား ပါဝင်ခြင်း မရှိသည် ကို တွေ့ရှိရပါကြောင်း၊ |
| | | (၂) ဖော်ပြ ထားခြင်း မရှိပါ။ | (၂) အာမခံ ရယူရန် သင့် - မသင့် စဉ်းစား သင့်ပါကြောင်း ပြန်ကြားထား ပါသည်။ |

| သောက်ရေခပ် (၂) | ဘီလူးချောင်းအမှတ်(၃) |
|---|---|
| | (ယခု BOT စနစ် လုပ်ငန်းများကို ပြည်တွင်း မှ တိုင်းရင်းသား စီးပွားရေး လုပ်ငန်းရှင်များက ဆောင်ရွက်ကြမည်ဖြစ်ပါသည်။) |

၃။ ကုမ္ပဏီများမှ ဆောင်ရွက်မည့်လုပ်ငန်း အဆင့်ဆင့်ကို တင်ပြထားပါသည်။(ပူးတွဲ)

၄။ စိစစ်တင်ပြချက်

(က) ရွှေစွမ်းအင်ကုမ္ပဏီလီမိတက်မှဆောင်ရွက်မည့် သောက်ရေခပ်(၂)ရေအားလျှပ်စစ်စီမံကိန်းနှင့် အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းတို့ကို မူလက BOO စနစ် (Build, Own, Operate) ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလွှာဖြင့် ဆောင်ရွက်ခွင့် တင်ပြခဲ့ပါသည်။ အကြီးအကဲ၏ လမ်းညွှန်ချက်အရ BOO စနစ် (အစား) BOT စနစ်ဖြင့် ပြောင်းလဲတင်ပြမည်ဟု သိရှိရပါသည်။

(ခ) ယခုအခါ အဆိုပါ ရေအားလျှပ်စစ်စီမံကိန်းများကို BOT စနစ်ဖြင့် ပဋိညာဉ်စာချုပ် <u>လက်မှတ်ရေးထိုးခွင့်ပြုပါရန်</u> လျှပ်စစ်(၁)မှ တင်ပြလာခြင်း ဖြစ်ပါသည်။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုလွှာ (စီးပွားရေးဆိုင်ရာ အချက်အလက်များ)ပူးတွဲ တင်ပြထားခြင်း မရှိပါ။

(ဂ) BOT စနစ်ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် တင်ပြရာတွင် BOT စာချုပ် (မူကြမ်း) ၊ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေ (ပြည်တွင်းချေးငွေ/ ပြည်ပချေးငွေ/ ပြန်လည်ပေးဆပ်မှု)များနှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများ ပါဝင်သည့် လုပ်ငန်းအဆိုပြုလွှာကိုပါ ပူးတွဲ တင်ပြလေ့ရှိပါကြောင်း ဖော်ပြအပ်ပါသည်။

(ဃ) ယင်းအဆိုပြုလွှာကို ကော်မရှင်မှ စိစစ်ပြီး TC, Cabinet အစည်းအဝေး များသို့ တင်ပြကာ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အခွန်အကောက် ကင်းလွတ်ခွင့်/ သက်သာခွင့်များပေးသော ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပါသည်။

(င) ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးသည့်အခါ ဌာနနှင့် ကုမ္ပဏီတို့သည် ရှေ့နေချုပ်ရုံးမှ စိစစ်ပေးထားသော လုပ်ငန်း ပဋိညာဉ်စာချုပ် တွင် လက်မှတ်ရေးထိုး ချုပ်ဆို ဆောင်ရွက်ကြပါသည်။

(စ) မြေအသုံးချမှု ပရီမီယံကြေးကို ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့် နေ့တွင် တစ်ဝက်ပေးသွင်းမည် ဖြစ်ပါသည်။ [BOT စနစ် အရ ဆောင်ရွက်သည့် လုပ်ငန်းများတွင် မြေအသုံးချမှု ပရီမီယံကြေးကို (၁)နှစ် (သို့မဟုတ်) အများဆုံး (၂)နှစ် အတွင်း အရစ်ကျ ပေးသွင်းလေ့ရှိကြပါကြောင်း စိစစ်တင်ပြ အပ်ပါသည်။]

* ယခု တင်ပြချက်တွင် တည်ဆောက်ရေးကာလ (၄)နှစ်ပြီး နောက်ပိုင်းတွင် ကျန် ၅၀ % ကိုပေးသွင်းမည် ဖြစ်ပါသည်။

(ဆ) BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်သည့် သက်တမ်း နှစ်(၆၀) သည် စီးပွားဖြစ် စတင်သည့်နေ့မှ စတင်သတ်မှတ်ရန် တင်ပြထားပါသည်။ စီးပွားဖြစ်နေ့ မသတ်မှတ်နိုင်သေးပါက နှစ် (၆၀) သက်တမ်းကာလ မစတင်နိုင်သည့် သဘောသက်ရောက်ပါကြောင်း စိစစ် တင်ပြ အပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ သောက်ရေခပ်(၂) ရေအားလျှပ်စစ်စီမံကိန်းနှင့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ် စီမံကိန်းတို့ အား BOT စနစ်ဖြင့် ဆောင်ရွက်ရန် အတွက် ပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးခွင့်ပြုပါရန် အမှတ်(၁) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။



Thauk YK1

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၃၆-လျှပ်စစ်၁(၂)/ ၁၅၈၃ /၂၀၁၀
ရက်စွဲ ၊ ၂၀၁၀ ပြည့်နှစ်၊ ဧပြီလ ( ၆ ) ရက်

အကြောင်းအရာ။ **ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ (၂၅.၂.၂၀၁၀) ရက်စွဲပါစာအမှတ်၊ ၁၃၆-လျှပ်စစ်၁(၂)/၉၉၅/၂၀၁၀

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅.၄.၂၀၁၀)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၀၁၈/၂၀၁၀(၅၃၇၈)

အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အဆိုပြုတင်ပြခြင်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်(၂)ပါစာအရ အစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုချက်(၁၅)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ခင်မောင်ကျော်၊ ရုံးအဖွဲ့မှူး)

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ - ရုံးလက်ခံ
- မျှောစာတွဲ

D:\Letter Head MOEP Letter Head.doc.doc

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၃၆ - လျှပ်စစ် ၁(၂)/[illegible]၅ / ၂၀၁၀
ရက်စွဲ ၊ ၂၀၁၀ခုနှစ်၊ ဖေဖော်ဝါရီလ ([illegible]) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

**အမှာစာ**

အကြောင်းအရာ။ **<u>အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လိုက်လျောခွင့်များ ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်များ အားအတည်ပြု ပေးပါရန်နှင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြု ပါရန်တင်ပြခြင်း</u>**

၁။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံအတွင်းရှိ ရေအားသယံဇာတအရင်းအမြစ်များကို အကျိုးရှိစွာအသုံးချ၍ တိုးတက်လိုအပ်နေသော လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်ရန်အတွက် ရေအားလျှပ်စစ်စီမံကိန်းများကို အကောင်အထည်ဖော် ဆောင်ရွက်လျှက်ရှိရာတွင် "ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး" ဟူသော နိုင်ငံတော်၏ စီးပွားရေးဦးတည်ချက်နှင့်အညီ ရေအားလျှပ်စစ်စီမံကိန်းများအား ပြည်တွင်းတိုင်းရင်းသားလုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်လျှက်ရှိပါသည်။

၂။ အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ရေအားလျှပ်စစ်စီမံရေးဦးစီးဌာနနှင့် အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်တို့သည် ကယားပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့်အကွာရှိ ဘီလူးချောင်းပေါ်တွင် တပ်ဆင်စက်အင်အား (၅၂)မဂ္ဂါဝပ်၊ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့်ဓာတ်အား ကီလိုဝပ်နာရီသန်းပေါင်း(၃၃၄) ထွက်ရှိမည့် ဘီလူးချောင်းအမှတ်(၃) ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် ယခင် (B.O.O) စနစ်ဖြင့် ဆောင်ရွက်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၂/၂၀၀၈)အစည်းအဝေး သဘောတူညီချက် **(နောက်ဆက်တွဲ-က)**အရ (၂.၅.၂၀၀၈)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သော နားလည်မှု စာချွန်လွှာ **(နောက်ဆက်တွဲ-ခ)** အား ပြင်ဆင်၍ ပဋိညာဉ်စာချုပ် (မူကြမ်း)အား နှစ်ဖက်ညှိနှိုင်း ပြုစုခဲ့ကြပါသည်။

၃။ ညှိနှိုင်းပြုစုထားသော ပဋိညာဉ်စာချုပ်(မူကြမ်း)အရ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်အနေဖြင့် ဆောင်ရွက်မည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေးတွက်ခြေကိုက်မှု လေ့လာသုံးသပ်ခြင်း။

(ခ) ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံမှ အသုံးပြုပြီးထုတ်လွှတ်လိုက်သော ရေနှင့် စက်ရုံအနီးရှိ ဘီလူးချောင်းမှ လွှဲယူသောရေတို့ကို ပူးပေါင်း၍ ရေသွင်းတံခါးမှ တစ်ဆင့် အဓိကဥမင်လိုဏ်ခေါင်း(Head Race Tunnel) အတွင်းသို့ ပို့လွှတ်ပေးသွင်းခြင်း။

(ဂ) ဘီလူးချောင်းမှ ရေထုကို လွှဲပြောင်းသွင်းယူနိုင်ရန် ဘီလူးချောင်းပေါ်တွင် ရေလွှဲ အဆောက်အအုံ၊ ရေငြိမ်ကန်၊ ရေသွင်းမြောင်း စသည်တို့ကို တည်ဆောက်ခြင်း။

(ဃ) အလျားမီတာ(၉၀)မှ မီတာ(၂၂၀)ရှည်သော ချဉ်းကပ်ဥမင်လိုဏ်ခေါင်း(၄)ခု အပါအဝင် အလျား(၄.၃)ကီလိုမီတာ၊ အကျယ်(အချင်း)(၄.၉)မီတာရှိသော ရေသွယ်ဥမင်လိုဏ်ခေါင်း ကို ကွန်ကရစ်လိုင်နင်ဖြင့် တည်ဆောက်ခြင်း။

(င) အဓိကရေသွယ်ဥမင်လိုဏ်အဆုံးတွင် ကုဗမီတာ(၅၀,၀၀၀)ဆန့် ကွန်ကရစ်ရေထိန်းကန် (၁)ခုနှင့် ရေပိုလွှဲ၊ ရေငြိမ်ကန်များတည်ဆောက်ခြင်း။

(စ) အလျား(၁၈၈)မီတာနှင့် အကျယ်(အချင်း)(၃.၈)မီတာရှိသော ဖိအားမြင့်သံမဏိပိုက် (Penstock) တည်ဆောက်ခြင်း။

(ဆ) ဖရန်စစ်အမျိုးအစား(၂၅.၃)မဂ္ဂါဝပ်ထုတ်လုပ်နိုင်သည့် တာဘိုင်စက်(၂)လုံးနှင့် ဆက်စပ် ပစ္စည်းများ တပ်ဆင်ထားသော မြေပေါ်လျှပ်စစ်စက်ရုံ(Surface Type Power House) တည်ဆောက်ခြင်း။

(ဇ) စက်ရုံမှထွက်ရှိလာသည့် ရေများအား ဘီလူးချောင်းအတွင်းသို့ ပြန်လည်ထုတ်လွှတ်ပေးမည့် ကွန်ကရစ် ရေထုတ်မြောင်း(၁)ခု တည်ဆောက်ခြင်း။

(ဈ) မြေပေါ်ဓာတ်အားခွဲရုံ(၁)ခု တည်ဆောက်ခြင်း။

(ည) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ အမှတ်(၂)ရေအားလျှပ်စစ်စက်ရုံသို့ (၄.၅) ကီလိုမီတာအရှည်ရှိ (၁၃၂)ကေဗွီ လျှပ်စစ်ဓာတ်အားလိုင်း တည်ဆောက်ဆက်သွယ်ခြင်း။

(ဋ) ဘီလူးချောင်းအမှတ်(၃)ရေအားလျှပ်စစ်စက်ရုံမှ ပို့လွှတ်ပေးလိုက်သည့် လျှပ်စစ်ဓာတ်အားကို လက်ခံရယူနိုင်ရန် ဘီလူးချောင်းအမှတ်(၂)ရေအားလျှပ်စစ်စက်ရုံရှိ ဓာတ်အားခွဲရုံအား လိုအပ်သည်များ တိုးချဲ့တပ်ဆင်ပေးခြင်း။

(ဌ) ရုံးအဆောက်အဦးနှင့် ဝန်ထမ်းအိမ်ယာများ ဆောက်လုပ်ခြင်း။

(ဍ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်းမောင်းနှင်ခြင်း။

(ဎ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ခြင်းလုပ်ငန်း။

၄။ စီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၁၀၄,၈၀၈.၆၃ (ကျပ် တစ်သိန်း လေးထောင် ရှစ်ရာရှစ် ဒသမ ခြောက်သုံးသန်း)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း (၈၂.၆၇) (အမေရိကန် ဒေါ်လာ ရှစ်ဆယ့်နှစ် ဒသမ ခြောက် ခုနှစ်သန်း) ဖြစ်ပါသည်။ စီမံကိန်းတည်ဆောက်ရေး ကာလမှာ(၄)နှစ်ဖြစ်ပြီး စုစုပေါင်းလုပ်ပိုင်ခွင့်ကာလမှာ လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ အထူးကိစ္စတစ်ရပ်အနေဖြင့် **နှစ်ပေါင်း(၆၀)**ပေးအပ်ရန်ဖြစ်ပါသည်။ လုပ်ပိုင်ခွင့်ကာလအား ဆက်လက်တိုးမြှင့်လိုပါက စည်းမျဉ်းစည်းကမ်းချက်များနှင့် အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြ၍**(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်** သက်တမ်းတိုးမြှင့်နိုင်မည့် အခွင့်အလမ်းတစ်ရပ်ကို ပေးအပ်ရန်ဖြစ်ပါသည်။ ယခုအခါ စီမံကိန်းလုပ်ငန်းများအား အရှိန်အဟုန်မြှင့် ဆောင်ရွက်လျှက်ရှိရာတွင် ၂၀၁၀ခုနှစ်၊ ဇန်နဝါရီလ စုစုပေါင်း (၁၅.၆၄) ရာခိုင်နှုန်းအထိ လုပ်ငန်းများ ပြီးစီးပြီ ဖြစ်ပါသည်။

၅။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် **စုစုပေါင်းကျပ်သိန်း (၅၀၀) (ကျပ်သိန်းငါးရာတိတိ)** ကို အောက်ပါအတိုင်း ပေးအပ်မည်ဖြစ်ပါသည်-

(က) ပဋိညာဉ်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း(၂၅၀) (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ ) ကို ပေးအပ်ရန်။

(ခ) တည်ဆောက်ရေးကာလပြီးနောက် လျှပ်စစ်ဓာတ်အားစီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ)ကို ပေးအပ်ရန်။

၆။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်အနေဖြင့် လျှပ်စစ်ဓာတ်အားဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်နှင့် သက်ဆိုင်ရာဌာနများမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားသတ်မှတ်ချက်များနှင့် အညီဖြန့်ဖြူး ရောင်းချမည်ဖြစ်ပါသည်။

၇။ အဆိုပြုစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမည့် ငွေများအနက်မှ နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ သန်းပေါင်း(၂၈.၈)ကို မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ချေးယူမည်ဖြစ်ပြီး ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း(၂၂၀၀၃.၈)ကို နိုင်ငံတော်ဘဏ်တစ်ခုခုမှ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ခွင့်ပြုပါက နှစ်ရှည်စီမံကိန်းချေးငွေအဖြစ်ရယူပြီး စီမံကိန်းကို ရင်းနှီးမြှုပ်နှံ အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။ ချေးငွေများကို အောက်ပါအတိုင်းပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်-

(က) ပြည်တွင်းချေးငွေအားရန်ကုန်-မန္တလေးလမ်း စီမံကိန်းမှ လမ်းအသုံးပြုခ ကောက်ခံရရှိငွေများ၊ နေပြည်တော်တည်ဆောက်ရေး စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ ရေအားလျှပ်စစ် တည်ဆောက်ရေး ကဏ္ဍများတွင် ပါဝင်ဆောင်ရွက်လျှက်ရှိသည့် ရဲရွာရေအားလျှပ်စစ် စီမံကိန်း၊ အထက်ပေါင်းလောင်းရေအားလျှပ်စစ်စီမံကိန်းများမှ ရရှိသည့်ဝင်ငွေများ၊ High Tech Concrete Co., Ltd ၏ ကွန်ကရစ်ရောင်းချခြင်းမှ ရရှိသည့်ဝင်ငွေများ၊

ရွှေတောင်ကုမ္ပဏီမှ ရောင်းချသည့် အိမ်၊ ခြံ၊ မြေများမှ ရရှိသည့် ဝင်ငွေများ၊ ယခုအဆိုပြု စီမံကိန်းမှ ထွက်ရှိလာသည့် လျှပ်စစ်ဓာတ်အားကို ရောင်းချခြင်းမှ ရရှိလာမည့်ဝင်ငွေများ အစရှိသည့် ဝင်ငွေများဖြင့် ယခုအဆိုပြုစီမံကိန်းလုပ်ငန်း စတင်လည်ပတ်ပြီး (၄)နှစ် မြောက်သည့်နှစ်မှစ၍ အချိုးညီ (၁၀)ရစ်ခွဲ၍ (၁၀)နှစ်အတွင်း ပြန်လည်ပေးဆပ်သွားမည် ဖြစ်ပါသည်။

(ခ) ပြည်ပချေးငွေအား ရေထွက်ပစ္စည်းများ တင်ပို့ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် နိုင်ငံခြား ပို့ကုန်ရငွေများ၊ လယ်ယာထွက်ကုန်ပစ္စည်းများ၊ တင်ပို့ရောင်းချခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားပို့ကုန် ရငွေများ၊ ပြည်တွင်းတွင်ရင်းနှီးမြှုပ်နှံနေသည့် နိုင်ငံခြားကုမ္ပဏီများသို့ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများမှ ရရှိသည့် နိုင်ငံခြားငွေများ၊ ကုမ္ပဏီ၏ အခြားလုပ်ငန်း များမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေများ အစရှိသည့် ဝင်ငွေများဖြင့် ပေးဆပ်သွားမည် ဖြစ်ပါသည်။

၈။ နိုင်ငံခြားချေးငွေဖြင့် စီမံကိန်းအတွက် စက်ယန္တရား၊ စက်ပစ္စည်းများကို လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနမှ တင်ဒါစနစ်ဖြင့် ဝယ်ယူ၍ စာချုပ်ပါအတိုင်း တင်သွင်းမည်ဖြစ်ပြီး၊ ဌာနနှင့် ကုမ္ပဏီတို့ အကြား ပစ္စည်းလွှဲပြောင်းရေးဆိုင်ရာ စာချုပ်အဖြစ် လွှဲပြောင်းရယူ၍ စီမံကိန်းတွင် အသုံးပြုမည်ဖြစ်ပါသည်။ အဆိုပါနိုင်ငံခြားချေးငွေအတွက် ကုမ္ပဏီနှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်တို့အကြား ချေးငွေပေးဆပ်ရေးဆိုင်ရာ စာချုပ်ချုပ်ဆို၍ ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ အဆိုပြုသည့် ရေအားလျှပ်စစ်စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ငွေကြေးပမာဏ၊ စီမံကိန်းချေးငွေနှင့် အတိုးနှုန်းများ၊ စီမံကိန်းမှထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဖြန့်ဖြူးမည့်နှုန်းထား၊ အဆိုပြုသည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်နှုန်းထား စသည့် အချက်များနှင့်အညီ စီးပွားရေးဆိုင်ရာတွက်ခြေကိုက်မှု စိစစ်ချက်များ အား တွက်ချက်နည်းပေါင်း (၅၀)နည်းဖြင့် အောက်ပါအတိုင်း စိစစ်တွက်ချက်ခဲ့ပါသည်-

(က) ၂၀၀၉ခုနှစ်၊ ဖေဖော်ဝါရီလတွင်နည်းပေါင်း( ၁၀)နည်းဖြင့်လည်းကောင်း၊

(ခ) ၂၀၀၉ခုနှစ်၊ ဧပြီလတွင်နည်းပေါင်း(၂၅)နည်းဖြင့်လည်းကောင်း၊

(ဂ) ၂၀၀၉ခုနှစ်၊ ဩဂုတ်လတွင်နည်းပေါင်း(၁၅)နည်းဖြင့်လည်းကောင်း၊

၁၀။ အထက်ပါ တွက်ချက်မှုနည်းလမ်းများအနက် အောက်ပါနည်းလမ်းသည် ဝန်ကြီးဌာနအဆင့် အနေဖြင့် အသင့်တော်နည်းလမ်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(က) ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်

(ခ) ကုန်သွယ်ခွန်ကင်းလွတ်ခွင့် (၃)နှစ်

(ဂ) ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်ပေးဆောင်မှု

- ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား(၃)နှစ်ကင်းလွတ်ခွင့် ခံစားပြီးနောက်(၁၅)နှစ်နှင့်(၁၁)လ — (၅၀)%သက်သာခွင့်
- ကျန်ကာလများ — တည်ဆဲဥပဒေနှင့်အညီ ပေးဆောင်ပါမည်

(ဃ) နှစ်ဖက်အကျိုးအမြတ်ရရှိနိုင်မှု

- ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ — (၂၁၂,၃၈၈.၅၈) ကျပ်သန်းပေါင်း
- ရင်းနှီးမြှုပ်နှံသူ — (၃၄၈,၇၆၅.၆၄) ကျပ်သန်းပေါင်း

(င) အရင်းကြေကာလ — (၁၅)နှစ်နှင့် (၁၁)လ

(စ) အကြွေးကြေကာလ — (၁၀)နှစ်

(ဆ) လုပ်ပိုင်ခွင့်ကာလ(ပထမစက်တစ်လုံး စီးပွားဖြစ်စက်လည်ပတ်သည့်ရက်မှစ၍) — (၆၀+၅+၅+၅)နှစ်

(ဇ) EIRR% — (၇.၃၇)%

၁၁။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ဂ)**၊ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်**(နောက်ဆက်တွဲ-ဃ)** များနှင့်အညီ ရေးဆွဲထားသော ပဋိညာဉ်စာချုပ်အား (၁၀-၁၁-၂၀၀၉) ရက်နေ့တွင် ၊ ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၀/၂၀၀၉) အစည်းအဝေးဆုံးဖြတ်ချက် **(နောက်ဆက်တွဲ-င)** အရ လက်မှတ်ရေးထိုးရန် သဘောတူပြီးဖြစ်သဖြင့် (၃၁.၁၂.၂၀၀၉)ရက်နေ့တွင် လက်မှတ်ရေးထိုးပြီးဖြစ်ပါသည်။ အဆိုပါပဋိညာဉ်စာချုပ် **(နောက်ဆက်တွဲ-စ)** အား ပူးတွဲလျက်တင်ပြအပ်ပါသည်။ အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd) မှ B.O.T စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တစ်ဆင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြခဲ့ရာ (၃.၂.၂၀၁၀)ရက်နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/၂၀၁၀)အစည်းအဝေးမှ **(နောက်ဆက်တွဲ-ဆ)** ဖြင့် အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) အနာဂတ်စွမ်းအားကုမ္ပဏီလီမိတက်(Future Energy Co., Ltd) မှ B.O.T စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် ကိစ္စအား လုပ်ငန်းလုပ်ကိုင်ခွင့် ကာလအတွက် Exemption နှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် Exemption ကို အမှတ်(၁)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အစိုးရအဖွဲ့သို့ Case by Case တင်ပြရန်။

(ခ) **Case by Case အလိုက် Exemption ကို အစိုးရအဖွဲ့မှ သဘောတူပြီးက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုချက်ရယူပြီး အစိုးရအဖွဲ့သို့ ပြန်လည်တင်ပြရန်။**

၁၂။ ကုန်သွယ်မှု မူဝါဒကောင်စီ ဆုံးဖြတ်ချက်အရ အမှတ် (၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန မှ ဘီလူးချောင်း(၃)ရေအားလျှပ်စစ်စီမံကိန်းအား B.O.T စနစ်ဖြင့်ဆောင်ရွက်ရာတွင် **ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်အား လုပ်ငန်းများစတင်လည်ပတ်သည့်နေ့မှစ၍ ပထမ(၃)နှစ်ကို ကင်းလွတ်ခွင့်ပြုပါရန်နှင့် ကင်းလွတ်ခွင့်ခံစားပြီး နောက် အရင်းကြေကာလ (၁၅) နှစ် နှင့် (၁၁) လ မတိုင်မီ ကာလများအတွက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ပြုပါရန်၊ လုပ်ငန်းလုပ်ပိုင်ခွင့်အား (၆၀)နှစ်ခွင့်ပြုနိုင်ပါရန်နှင့် နောက်ထပ်(၅)နှစ်တစ်ကြိမ်စီဖြင့် (၃)ကြိမ်သက်တမ်းတိုးခွင့်ပြု ပါရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ (နောက်ဆက်တွဲ-ဇ) ဖြင့်တင်ပြခဲ့ရာ (၁၈.၂.၂၀၁၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၀) မှ (နောက်ဆက်တွဲ-ဈ) ဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။**

၁၃။ သို့ဖြစ်ပါ၍ ဘီလူးချောင်း(၃) ရေအားလျှပ်စစ်စီမံကိန်းသည် နိုင်ငံတော်အတွင်းလိုအပ်သော လျှပ်စစ်ဓာတ်အားကို ဖြည့်ဆည်းပေးနိုင်သည့်အပြင် ပြည်တွင်းတိုင်းရင်းသား လုပ်ငန်းရှင်ဖြင့် ငွေကြေးအမြောက်အများ ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သည့် လုပ်ငန်းဖြစ်သည့်အတွက် စီမံကိန်းအားအောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်နှင့် တိုင်းရင်းသားလုပ်ငန်းရှင်ဖြစ်၍ စီးပွားရေးတွက်ခြေကိုက်ရန်၊ မနစ်နာစေရန် ဖော်ပြပါလိုက်လျောခွင့်များ၊ ဝင်ငွေခွန်နှင့်ကုန်သွယ်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို အတည်ပြုပေးနိုင်ပါရန်၊ တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက်လိုအပ်သော စက်ယန္တရား၊ မော်တော်ယာဉ်နှင့် အခြားဆက်စပ် ပစ္စည်းများအားသက်မှတ်ဥပဒေနှင့်အညီတင်သွင်းခွင့်ပြုပါရန်နှင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်အား လုပ်ငန်းခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးဇော်မင်း)
ဝန်ကြီး

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၀၇၅၊၄၀၆၁၆၁

စာအမှတ်၊ရက-၆(က)/မ-၁၀၁၈/၂၀၁၀( ၅၃၇၈ )၊
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဧပြီ လ ၅ ရက်။

သို့/
ဝန်ကြီးရုံး၊
အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ ။ ။ အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ BOT စနစ်ဖြင့် ဘီလူးချောင်း(၃) ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ အမှတ်(၁)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ (၂၅-၂-၂၀၁၀)ရက်စွဲပါ စာအမှတ်၊ ၁၃၆-လျှပ်စစ်၁(၂)/၉၉၅/၂၀၁၀။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁) လျှပ်စစ်စွမ်းအား ဝန်ကြီး ဌာန မှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်းကို (၁၈-၃-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၀/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက် (Future Energy Co., Ltd.) မှ ကယား ပြည်နယ်၊ လွိုင်ကော်မြို့၏ အရှေ့တောင်ဘက်(၁၆)မိုင်ခန့် အကွာရှိ ဘီလူးချောင်း နှင့် မြေ(၄၀၂)ဧကတွင် BOT (Build, Operate, Transfer) စနစ်ဖြင့် ဘီလူးချောင်း (၃) ရေအား လျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက် အား သိရှိနိုင်ပါရန် နှင့် အစိုးရအဖွဲ့ အစည်းအဝေး သို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုချက် (၁၅)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့် အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

(signature)

ဥက္ကဋ္ဌ(ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊အတွင်းရေးမှူး)

Future energy rep

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊
ရေအားလျှပ်စစ် စီမံရေး ဦးစီးဌာန။

(၂) အနာဂတ်စွမ်းအား ကုမ္ပဏီလီမိတက်။

(၃) ရုံးလက်ခံ/ မျှောစာတွဲ။